ဗုဒ္ဓသာသနံ စိရံ တိဋ္ဌတု

မြန်မာပြည်အရပ်ရပ်၌

အရည ဝါသီ တောရပ် မှီလျက် နေလေ့ ရှိသော

ဝနဝါသီ ဥယျဓမ္မသာမိ ထေရ်

ရေးသားပြုပြင်စီရင်သည့်

# အနုပုဗ္ဗိက ကထာ

သာသနာ ကောဇာ

၂၅၃၇ ၁၃၅၇

ပထမအကြိမ်

ဘာသာရေးဆိုင်ရာစာမူ ခွင့်ပြုချက်အမှတ် – ၆၁/၉၅ (၁၀)
မျက်နှာဖုံးနှင့် ပုံတော်ခွင့်ပြုချက် – ၁၄/၉၆ (၁)

၁၉၉၆ ခုနှစ်၊ မတ်လ
ပထမအကြိမ် – အုပ်ရေ (၃၀၀၀)
တန်ဖိုး – [redacted] ကျပ်

ပုံနှိပ်သူ – ဒေါ်ခင်သန်း ( မြ – ၀၂၆၇၂)
အမှတ် ၂၀၃/၃၊ ဗညားဒလလမ်း၊
တာမွေမြို့နယ်။

ထုတ်ဝေသူ – ဦးမြင့်ထွန်း
အမှတ် (၁)၊ ချမ်းသာကြီးရပ်၊
သာစည်မြို့။

ဖြန့်ချိရေး – စာပေထိန်းသိမ်းရေးကော်မတီ
ရွှေကျောင်းကုန်းတောင်သာနာတော်
သာစည်မြို့။

# မာတိကာ



# အနုပုဗ္ဗိက ကထာ

"နမောတေ ဗုဒ္ဓ ဝီရတ္ထု"

သတ္တဝါတော ကုသလော ကေဝဋ္ဋော ဇာလပဏ္ဏေ
ဥဒ္ဓါရေ သုဂတော လောကေ နယေသိ သတ္တဝါဏိန်
တသဘာသအာဒိမုခေ ဒေသေတိ ယဒိဒံဝါစံ
ဆဗ္ဗိဓံ အနုက္ကမေန ဒါနာဒိ မဂ္ဂုဒ္ဒေသကံ။ ။

သတ္တဝါဟော – ကုန်သည်ကြီးမှူး လှည်းဦးစီးမှူးသည် ဥဒ္ဓါရေ ရှုပ်ပွေတင်းလင်းတောအုပ်ကြီး၏ အတွင်းမှ ထုတ်ဆောင်ရာ၌ ကုသလော မပင်ပန်း ဘေးမသန်းဘဲ ကျွမ်းကျင်စွာ ထုတ်ဆောင်နိုင်ဘိသို့၊ ကေဝဋ္ဋာ – ငါးကို အုပ်စိုးသယ်ချိုပိုသော ငါးမုဆိုးသည်၊ ဇာလပဏ္ဏေ – ပိုက်ကွန်ကို ချိမရာ၌ ကုသလော ငါးအပွက်နှင့် ကွက်ချက်အချ လိမ္မာလှဘိသို့၊ ဧဝံ – ဤသည့်အလား မခြားတူစွာ ဥပမာအတိုင်း၊ သုဂတော – ကောင်းစကားကို မှန်မြွက်ဆိုလျက် ကောင်းကိုသာသွား ရှင်တော်မြတ်ဘုရားသည် သတ္တဝါဏိန် – မြင်ရာအကြိုက်၊ ကြားရာကြိုက်နှင့် နမ်းကြိုက်၊ စားကြိုက်၊ တွေ့ကြိုက်တွေ့စုံ ကာမတောအုပ် အဖုံဖုံဝယ် စုန်ဆန်ကာ လည်ပတ်၍ နေရရှာကုန်သော မမြင်စမ်းဝါး အကန်းသွားတို့အား၊ ဝါ – ကာမ အိုင်ဗွက် ရွှံ့ညွှံ ထက်ဝယ် ပက်လက်တစ်ခါ မှောက်ကာတစ်လှည့် ကြည့်ရင်းကြားရင်း၊ နမ်းရှုပ်ရင်းနှင့် ခံတွင်းလွေ့လွေ့ အတွေ့မောမော အတွေးကြော၌ မျောပါနေရရှာကုန်သော သတ္တဝါတို့အား၊ ဥဒ္ဓါရေ – ကာမအာရုံ အဖုံဖုံတို့မှ ထုတ်ဆောင်ရာ၌၊ ကုသလော – အလိုအရှော ထိုးထွင်းခါဖြင့် ကျွမ်းနိုးလိမ္မာစွာ၊ နယေသိ – ဟုတ်ပေတကား၊ မှန်ပေသားဟု လက်ဖျားခါခါ ဝန်ခံလွှာဖြင့် မှန်ရာထုတ်ချောက် မျက်စိလည်လမ်းမှားပျောက်ဘိသို့ ထိမိစွာ ဆောင်နိုင်ခဲ့ချေပြီတကား။

တသ – ထိုရှင်တော်မြတ်ဘုရား၏၊ ဘာသ အာဒိ မုခေ – အယှုဝါဒ ထုတ်ဖော်ဟသည့် ဆိုဆုံးမရာ သာသနာ၏ အဝင်အစ မုခ်ဦးဝတုန်းက၊ ဆဗ္ဗိဓံ –

ခြောက်မျိုးသော၊ ဒါနာဒိ မဂ္ဂဒွေသကံ – ဒါနမှပင် စတင်ချင့်တွက် အဆင့်တက်ရာ ခရီးလမ်းညွှန်လှာလည်းဖြစ်သော၊ ယဒိဒံဝါစံ – အယူပါဒ ကြွေးကြော်ပြသည့် ဒါနစထား အကြင်စကားစဉ်များကို၊ အနုက္ကမေန – အစဉ်မဖျက် တစ်ဆက်တည်း သောအားဖြင့်၊ ဒေသေတိ – ကရုဏာဖက် ဉာဏ်ဖြန့်ကျက်၍ မိန့်မြွက်တော် မူခဲ့ပါချေသတည်း။

## အဆင့်ကိုမြှင့်တင်ပေးသည့် နှုတ်ခွန်းဆက်စကားတော်များ

အနုပုဗ္ဗိက – ကထာဟူသည် အစဉ်အတိုင်းပြော၍ လက်ဦးပြောသောစကား ဟူ၍ အဓိပ္ပာယ်ရချေ၏။ အစဉ်တိုင်းဆိုသည်မှာ အဆင့်ကို မကျော်လွှန်ခြင်းပင်ဖြစ်၍ လက်ဦးဆိုသည်မှာလည်း တွေ့ဆုံစပင်ဖြစ်ကြောင်း သူ့စကားဖြင့်ပင် အဓိပ္ပာယ် ပေါ်လွင်နေပြီး ဖြစ်ပါချေသည်။

ဤသည်မှာ ဘုရားရှင် ပွင့်ထွန်းတော်မူကာစက ကျင့်သုံးတော်မူခဲ့သော ဝါဒကြွေးကြော်ရေး နှုတ်ခွန်းတော်ဆက်စကားများပင် ဖြစ်ချေ၏။

ထိုစဉ်က ဝေနေယျတို့သည် လမ်းပျောက်ကို ရှာဖွေဆဲသာ ဖြစ်ကြ၏။

ထိုစဉ်က ဘာသာရေးသမားခေါင်းဆောင်များကလည်း သူ့ဝါဒ၊ ငါ့ဝါဒတို့ ဖြင့် သူသိသောလမ်းသူပြ၊ ကိုယ်သိသောလမ်း ကိုယ်ပြလျက်က အချို့ကား အစ မပါ၊ အဆုံးမရှိ၊ အချို့ကား အစလည်းပျောက်၊ အလယ်လည်းပျောက် ဖြစ်နေ၏။ အချို့မှာမူကား အစသို့မရောက်၊ အစ၏ ရှေ့ပြေးလောက်ဖြင့်·လမ်းစသိမ်းရှိချေ၏။

ထိုသို့သော မသိသူတို့ကို နားမလည်သူတို့က ဆရာလုပ်နေချိန် နားယောင်သူ တို့ကို နားထောင်ကောင်းဝါဒတို့ဖြင့် ကြွေးကြော်နေချိန် တစ်ဝက်ဆုံးကို အဆုံးဟု ထင်မှတ်မှားနေချိန်။

ဘုရားရှင်ဟူ၍ လောကဝယ် ပွင့်ထွန်းပေါ်ပေါက်လာခဲ့ပါချေ၏။ ထိုဘုရား ရှင်သည် အစ၏ကောင်းခြင်း၊ အလယ်၏ကောင်းခြင်း၊ အဆုံး၏ကောင်းခြင်းတည်း ဟူသော ကောင်းခြင်းသုံးဖြာတို့နှင့် ညီညွတ်သော၊ သူလည်း ချမ်းသာစေခြင်း၊ ကိုယ်လည်း ချမ်းသာစေခြင်း၊ အဆုံး၏ ချမ်းသာခြင်းကိုလည်း ရစေနိုင်ခြင်း ဤချမ်းသာခြင်း သုံးမျိုးတို့နှင့်လည်း ပြည့်ဖြိုးနေသော၊ လောကီမှာလည်း အကျိုး

ရှိစေ၊ လောကုတ္တရာမှာလည်း အကျိုးရှိစေ၊ အဆုံး၏အကျိုးလည်း ပြည့်စေ ဤအကျိုးထူးသုံးချက်တို့နှင့်လည်း ပြည့်နှက်နေသော ဤနှုတ်ခွန်းဆက်စကားတော်တို့ကို မြွက်မိန့်တော်မူခဲ့ပါချေ၏။

ထိုသို့ မိန့်မြွက်ရာတွင် ထိုစဉ်က ဝေဏေယျအများစုသည် ကိုယ်ရှိမှ ကိုယ်စားရသည်၊ ပေးကမ်းခြင်းသည် ကုန်ခမ်းခြင်း၏ ဇစ်မြစ်ဟူ၍ ထင်မှတ်များ လျက်က လက်ရှိပစ္စည်းအား နှမြောသဖြင့် တစ်ဖက်သူတို့အား ကိုယ့်လို ထင်မှတ်များကာ မယုံကြည်သဖြင့် တွန့်တိုခြင်း၊ မပေးကမ်းလိုခြင်းများ ဖြစ်ပွားနေချိန်ပင် ဖြစ်ကြချေ၏။ ထို နှမြောတွန့်တို မပေးရက်လို၊ မကမ်းလိုသော စေတနာ၏ အကျိုးပေး ရေးစီးကြောင်းကြီးကို ပိတ်ပင် ကာဆီးထားသူများကို-

ပေးကမ်းခြင်းဖြင့် သူတစ်ပါးဝမ်းမြောက်၍ မိမိ ဝမ်းသာရခြင်း၊

ပေးကမ်းခြင်းသည် တစ်ချိန်တစ်ဘဝ တစ်ကွေ့တွင် အတိုးအညွန့်နှင့်တကွ အကျိုးကျေးဇူးများတို့ကို မိမိပင် ပြန်လည်ခံစားရခြင်း စသည့် ဒါန၏ အကျိုးကြီးမြတ်ပုံတို့ကို ဦးစွာသော နှုတ်ခွန်းဆက်စကားတော်အဖြစ်ဖြင့် ဟောကြားတော်မူခဲ့ပါချေသည်။

တစ်ဖန် ထို ပေးလိုကမ်းလိုမှုနှင့် ပေးစွန့်ခြင်း၊ လှူဒါန်းခြင်းတို့သည် ကာမစိတ်ကို နှိုးထစေသော ကာမကုသိုလ်သက်သက်မျှသာ ရှိချေသေး၍ မမြတ်သေး၊ ပြင်ပဝတ္ထု စွန့်လွှတ်ရုံမျှဖြင့်လည်း စိတ်မှဖြစ်သော ကိလေသာတို့ကို အမြစ်မပြတ်နိုင်သေး။ ဘဝ၏ ဘောဂသမ္ပတ္တိဟူသော (ရုပ်ချမ်းသာ) ကောင်းစားရေးမျှသာ ရှိချေသေး၍ စိတ်မချမ်းသာသေး။

သီလသည်ကား အလိုဘာဝ၊ အာသယတို့ကို စိတ်မှ နှင်ထုတ်ရာအကျင့်ဖြစ်သဖြင့် ကာမကို အညွန့်ကျိုးစေခြင်း၊ စိတ်ဖြင့် ကိလေသာတို့ကို စွန့်လွှတ်ရာဖြစ်သဖြင့်လည်း ပင်ခြေအမြစ် ပြတ်စေခြင်း၊ ဘဝ၏ ဘဝသမ္ပတ္တိ ဟူသော (စိတ်ချမ်းသာ) ကောင်းစားရေးအထိ တိုးတက်ဖွံ့ဖြိုးနိုင်စေခြင်းတို့ကြောင့် တစ်ချက်မျှ (ရမ္မက်ကို သတိပါသော သရဏဂုံဖြင့် ချိုးဖျက်၍) တည်သော သီလသည်ပင် အသက်တစ်ရာ ပြည့်လှူသောဒါနထက် အကျိုးကြီးမားပုံတို့ကို ဒုတိယမြောက် နှုတ်ခွန်းတော်စကားအဖြစ်ဖြင့် ဟောကြားတော်မူခဲ့ပါချေသည်။

တစ်ဖန်လည်း ဒါနစေတနာ (သူတစ်ပါး ကောင်းစားစေလိုရာမှ ကိုယ်ပါ

ကောင်းစားလာစေသော)ကြောင့် ကိုယ်ကား ကြီးပွားတိုးတက်လာသည်ကား မှန်၏။ သီလစေတနာ (သူတစ်ပါး မဆင်းရဲစေလိုရာမှ ကိုယ်ပါ ချမ်းသာလာစေသော)ကြောင့် စိတ်ကား ချမ်းသာလာသည်ကား မှန်၏။ ထိုဒါန၏ အကျိုးပေးသန်မှုကို မှီ၍ ဘောဂသမ္ပတ္တိ (ပစ္စည်းဥစ္စာ၏ ပြည့်စုံလုံလောက်မှု)၌ ခင်မင်မြတ်နိုးမှုမာနအား ကြီးလာသော ယုတ်ညံ့သော အောက်တန်းစားအပါယ်လေးဘုံသားဘဝသို့ လှလှကြီး ရုတ်တရက် ကျရောက်နိုင်သေး၏။ ထိုသီလ၏ အကျိုးပေးသန်မှုကိုမှီ၍ ဘဝသမ္ပတ္တိ (လူ့ဘဝ လူချမ်းသာ၊ နတ်ဘဝ နတ်ချမ်းသာတို့ကို စိတ်ချလက်ချ ခံစားစံစားနိုင်မှု)၌ တွယ်တာမြတ်နိုးမှုမာနအား ကြီးလာသော် ယုတ်ညံ့သော အောက်တန်းစား အပါယ်လေးဘုံသားဘဝသို့ လှလှကြီး ရုတ်တရက် ကျရောက်နိုင်ချေသေး၏။ သို့ကြောင့် ခင်မင်တွယ်တာမှုမာနကို သတိဖြင့် လွှမ်းမိုးပယ်သတ်လျက်က အကျိုးပေး သက်သက်မျှကိုသာ ခံစားခွင့်ပေးထားသော ကာမဂုဏ်၏ အပြစ်တို့ကို မြင်စေမှုက သာ၍ အကျိုးကြီးမားလှကြောင်း တတိယ နှုတ်ခွန်းဆက်စကားတော်အဖြစ်ဖြင့် ဟောကြားတော်မူခဲ့ပါချေသည်။

တစ်ဖန်လည်း ကျီးသည် အစာကိုလည်းစား၊ ရန်သူကိုလည်း ကြည့်ဘိသို့ အခွပ်သန်သော တိုက်ကြက်နှစ်ကောင်တို့ကို ယာကွက်၏ ထွက်ခဲထယ်ခဲတို့အကြား ခွပ်စေခြင်းဖြင့် ယာလည်းညက်စေ၊ ကြက်လည်းမောစေဘိသို့ ဒါနသီလတို့၏ အကျိုးကို ခံစားရင်းက အဆစ်ပေး၊ ဘဝရာဂ၊ ကာမရာဂနှင့် မာန မဝင်သာစေရန် ဒါနသီလကြောင့် ရလာသော ဘဝနှင့် ဒါနသီလကြောင့်ပင် ရလာသော အကျိုးပေး တို့ ဘဝက လှုပ်ရှားသဖြင့် အကျိုးပေးက ထသန်လိုက်၊ တစ်ဖန် အကျိုးပေးက သန်လာသဖြင့် ဘဝက ထခံစားလိုက်ဖြင့် ဘတစ်ပြန်ကျားတစ်ပြန် အလှန်လှန် အပြန်ပြန် တန်ပြန်လှုပ်ရှားနေကြပါသည်ကိုလည်း သတိဖြင့်ရှုသိလျက်က အပျက် ဘဝကိုလည်း မြင်စေရန် ကာမဂုဏ်၏အပြစ်ကို မြင်နေခြင်းထက် ထိုကာမဂုဏ် (ဘဝသမ္ပတ္တိ – ဘောဂသမ္ပတ္တိကြောင့် ဖြစ်ထွန်းနေသော အာရုံငါးပါးဝယ် ခင်မင် မြတ်နိုးခြင်း၊ အထင်ကြီးခြင်း) တို့မှ မိမိစိတ် လွတ်ကင်းလျက်က ချမ်းသာ သက်သက်ချည်းကိုသာ ရွေးစစ်၍ ခံစားနေရခြင်းက အကျိုးပေးသာ၍ထူးကြောင်းကို စတုတ္ထမြောက် နှုတ်ခွန်းတော်ဆက်စကားတော်အဖြစ်ဖြင့် ဟောကြားတော်မူခဲ့ပါ ချေသည်။

တစ်ဖန်လည်း လူ့ဘဝဖြင့် ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိခေါ် ဘဝ၏အကျိုးပေး ကာမသုခတို့ကို ခံစားစံစားခွင့်ရရာ၌–

- ချမ်းသာခြင်းကြောင့် ငြီးငွေ့မှုတဏှာ၏ ပူဆာမှုဒုက္ခမှ မကင်းသေး။
- ထိုငြီးငွေ့မှုကြောင့် လျော့သွားသည်ကို ပြန်လည်ဖြည့်တင်းပေးရမှု ဒုက္ခမှလည်း မကင်းသေး။
- ရှာမှီးဖြည့်တင်းမှုကြောင့်ရပစ္စည်းကို ငါပိုင်ဟူ၍ ဆုံးဖြတ်မှုလည်း ဒုက္ခမှလည်း မကင်းသေး။
- ငါ့ဟာဟု ဆုံးဖြတ်မိခြင်းကြောင့် သိမ်းပိုက်ထားလိုသောဆန္ဒ၊ တပ်စွန်းသော ရာဂအပူမှလည်း မကင်းသေး။
- ဆန္ဒရာဂတို့၏ သွေးထိုးမှုကြောင့် ငါ့ဟာ ဟူ၍ စွဲလမ်းမှု အပူဘေးမှလည်း မကင်းသေး။
- စွဲလမ်းနေမှုကြောင့် လုံခြုံနွေးထွေးစွာထားသိုရခြင်း ဒုက္ခမှလည်း မကင်းသေး။
- ငါ့ဟာအထင် သိမ်းဆည်းမှုအငင်ကြောင့် မပေးကမ်းလိုမှုမှလည်း မကင်းသေး။
- မိမိကာမ သူတစ်ပါးလက်သို့ မကျစေလိုခြင်းကြောင့် စောင့်ရှောက်ရမှု ဒုက္ခမှလည်း မကင်းသေး။

စောင့်ရှောက်မှုကြောင့် ခိုက်ရန်ဖြစ်မှု ဒုက္ခမှလည်း မကင်းသေးချေပြီ။ အကယ်တိတိ ဒါနကလည်း ဒါနမည်ကာမတ္တမဟုတ်။ ကာမပြစ်ကိုမြင်စေသော ဉာဏ်ယှဉ်ဒါန ဖြစ်ခဲ့ပါမူ သီလကလည်း သီလမည်ကာမတ္တမဟုတ်။ ကာမပြစ်မှ လွတ်မြောက်စေသော ဉာဏ်ယှဉ်သီလ ဖြစ်ခဲ့ပါမူ ကုသိုလ်အကျိုးကို အကုသိုလ် အလိုဆိုးများ မဖက်။ သက်သက် (ကုသိုလ်သန့်သန့်ချည်း) ခံစားခွင့်ရစေသော ရှာမှီးစရာလည်း မလို။ သဝန်တိုစရာမရှိ။ စောင့်ရှောက်ရန် အစုအပုံမျှပင် မရှိသော နတ်ဘဝ နတ်စည်းစိမ်တို့ကို ခံစားရပါမူကား ထိုလူ့ဘဝထက် သာလွန်နေကြောင်း ပဋ္ဌမ နှုတ်ခွန်းတော်ဆက် စကားမြွက်အဖြစ်ဖြင့် ဟောကြားတော် မူခဲ့ပါချေသည်။

တစ်ဖန်လည်း နတ်ဘဝသည်၏ မကြောင့်မကြ မတောင့်မတ ဖြစ်သဖြင့်

မည်မျှ ကောင်းမွန်ပစေဦး။ ယနေ့နတ်မင်း နက်ဖြန်တွင် လူတို့၏ မစင်တွင်းဝယ် ပိုးလောက်မင်းလည်း ဖြစ်နိုင်ချေရှိသေးသဖြင့် စင်စစ် အပါယ်ဘေးကြီးမှ မကင်းသေး။ မဝေးသေး။

တစ်လောကလုံးကို ပိုင်ကျုံးအစိုးရသော ဗြဟ္မာမင်းကြီးပင် ဖြစ်ပစေဦး။ ယနေ့ ဗြဟ္မာပြည်မှာတဝင်းဝင်း၊ နက်ဖြန်တွင် ဝက်စားကျင်းမှာ တရှုတ်ရှုတ် ဖြစ်နိုင်ချေ ရှိသေးသဖြင့် စင်စစ် အပါယ်ဘေးကြီးမှ အေးရပြီဟူ၍ မဆိုသာ။

ငါ တစ်ချက်ကို သွက်သွက်ကျိုးအောင် ဖျက်ချိုးပတ်လွှင့်ပြီးသော သောတာပန်၏ အဖြစ်သည်ကား အောက်သို့ကျရန် မလို၊ အထက်သို့တက်ရန်သာကိန်းသော ဖြစ်ဘိ၏။ ဒုက္ခတို့ စုဆောင်းရန်မရှိ။ သုခစစ်ကို ရှာမှီးရန်သာ ကိန်းသေဘိဖြစ်၏။ ကာမဥ္စ ငြိတွယ်ရန် မရှိ၊ လက်ရှိကာမကို ဘယ်နေ့ အပြီး စွန့်လွှတ်ပစ်ရပါ့မလဲ ဟူသော အတွေးသာ ကိန်းသေဖြစ်ဘိ၏။ သို့ကြောင့် နတ်ဘဝ နတ်စည်းစိမ် ခံစားရခြင်းထက် မဂ်ရဘဝဖြင့် မဂ်စည်းစိမ် ခံစားရခြင်းက သာ၍သာ၍ အကျိုးကြီးမားလှကြောင်း ဆဠမ မိန့်ခွန်းတော်အဖြစ်ဖြင့် ဟောကြားတော်မူခဲ့ပါချေသည်။

ထိုနှုတ်ခွန်းဆက်စကားတော် ခြောက်မျိုးတို့သည် စည်းစိမ်၏ ပြည့်စုံစေခြင်း ဒါန၊ အခြွေအရံ၏ ပြည့်စုံစေခြင်း သီလတို့ကို အခြေခံအစထားသဖြင့် ခြေနှစ်ချောင်းစုံပါသော အစကောင်း ဒေသနာတော်ပင် ဖြစ်ပါချေ၏။

- ကာမဂုဏ်၏ အပြစ်တို့ကို ဆင်ခြင်ရှုမှတ်ရင်းက ကာမအာရုံကို ခံစားစေခြင်း။
- ကာမဂုဏ်နှင့် မိမိစိတ် ကင်းကွာစေရင်းက ကာမအာရုံကို ခံစားစေခြင်း။

အထက်ပါနှစ်ချက်တို့ကို အရံထားသဖြင့် လက်နှစ်ချောင်းစုံပါသော အစကောင်း ဒေသနာတော်ပင် ဖြစ်ပါချေ၏။

အထက်တန်းကျ နတ်(ဗြဟ္မာ)ဘဝတို့ဖြင့် ပါရမီဆယ်ချက် ရင့်ကျက်စေခြင်းဖြင့် ကိုယ်ထည်ပါသော အလယ်၏ကောင်းခြင်း ဒေသနာတော်ပင် ဖြစ်ပါချေ၏။

ထိုပါရမီဆယ်ချက် ရင့်ကျက်ပြီးစီး၍ ကိုယ်သည် လောကီစည်းစိမ် ခံစားရင်းက စိတ်သည်ကား ထိုလောကမှ လွတ်မြောက်နေခြင်း၊ ကိုယ်သည် ဒုက္ခနှင့် ရင်ဆိုင်နေရရင်းက စိတ်သည်ကား ထိုဒုက္ခမှ လွန်မြောက်နေခြင်းတည်း ဟူသော အရိယာဇာတ်၊ သောတာပတ္တိမဂ်ဖြတ်သို့ ကပ်ရောက်စေခြင်းဖြင့် ဓမ္မစက္ခု၊ ဉာဏ

စက္ကူ (နှစ်ကွင်း) အလင်းပါသော ဥက္ကောင်းရှိအဆုံး၏ ကောင်းခြင်းဒေသနာတော်ပင် ဖြစ်ပါချေ၏။

– ဤသည်မှာ ဘုရားရှင် သွားတော်မူခဲ့သော လမ်းတည်း။

– ဤသည်မှာ ဘုရားရှင် သွားစေလိုသော လမ်းပင်တည်း။

ထိုစဉ်က ဘုရားရှင်သည် ပွင့်တော်မူသစ်စဖြစ်ပြီး ဝေနေယျတို့ကား ယောင်နနဘဝတည်း။ ယခုသော်ကား ဘုရားရှင် ပွင့်ပြီးဖြစ်ခဲ့ပြီး ဝေနေယျတို့ကား လမ်းစသိပြီး၊ ရှိပြီးတည်း။ သို့ကြောင့် ဤနှုတ်ခွန်းဆက်စကားတော်များသည် ပွင့်စက သာသနာတော်၏ အဝင်ဝမုခ်ဦးအဖြစ် တည်ရှိပြီး ပရိနိဗ္ဗာန်စံလွန်ပြီးသော ပွင့်ပြီး ယခုကာလသည် သာသနာတော်၏ အထွက်ဝမုခ်ဦးအဖြစ်သို့ ရောက်ရှိလာခဲ့ချေပြီ။ မုခ်ဦးကား မှန်၏။ အရှေ့နှင့်အနောက်ပမာ အဝင်အထွက်အားဖြင့်ကား ကွာခြားလျက်ရှိချေပြီ။

သို့ပါသောကြောင့် ဤနှုတ်ခွန်းဆက်စကားတော်ခြောက်ခွန်းတို့ကို ဤဌ်ကား လက်ရှိပစ္စက္ခနှင့် မျက်မြင်ကာလသို့ရည်၍ သင့်လျော်သလို စဉ်ပါမည်။ ထိုဘုရားပွင့်တော်မူစက အရိယာဇာတ်သို့ ရောက်ရှိရေးသည် အဓိကဖြစ်ခဲ့ပြီး ဤဌ်ကား ဘဝချုပ်ပြတ် အငြိမ်းဓာတ်ကြီးကို အဓိကထား၍ ဖွင့်ဆိုပါမည်။

သာသနာတော်၏ အဝင်ဝဘုရား ဖြစ်တော်မူစအခါကာလတွင်ကား ဘုရားအဖြစ် အသိအမှတ်ပြုခြင်း၊ ဘုရားအဖြစ်ယုံ၍ ကိုယ်နှင့်ဘဝကို ပုံအပ်ခြင်း၊ ထိုကဲ့သို့ ပုံအပ်ပြီးသည့်အနောက် ဘုရားစကား အသက်နှင့်မခြား တလေးတစားလိုက်နာခြင်းများသည် ကောဏ္ဍည ဦးစွာထားသော ပဥ္စဝဂ္ဂီငါးပါးတို့သည် အစဦးပင်တည်း။ ယသကို အစထား၍ ယသ၏ မိဘ၊ မယားများနှင့် အဆွေတော်ငါးယောက်၊ မိတ်ကောင်းငါးဆယ်တို့ကား ဒုတိယလက်ဦးပင်တည်း။

ထိုသို့ ဦးနှစ်ဦးရှိရာတွင် ကောဏ္ဍညနှင့် ပဥ္စဝဂ္ဂီတို့အား ဓမ္မစကြာ တရားမြတ်များဖြင့် မူဝါဒ ကြွေးကြော်ချက်ကို စတင်တော်မူခဲ့ချေပြီး ယသ သတို့သားနှင့် မိဘမယား ဆွေမိတ်များတို့အားကား အနုပုဗ္ဗိကကထာဖြင့် မူဝါဒ ကြွေးကြော်ချက်ကို စတင်တော်မူခဲ့ပါချေ၏။

ဤသို့ ကြွေးကြော်ချက်နှစ်ပါး ထားရှိတော်မူရာတွင် –

– အစပထမ ဓမ္မစကြာသည်ကား ထမ်းပိုးရေးမူဝါဒစကားတည်း။

- အစဒုတိယ ဤအနုပုဗ္ဗိက ကထာကား သွားရောက်ရာ ခရီးစဉ်၏ မူဝါဒစကားတည်း။

တစ်နည်းအားဖြင့်လည်း ဖဝါးလှမ်းနှင့် သွားလမ်းဟူ၍လည်း ဆိုသည့်ချေသေး၏။ အဘယ်ကြောင့်ဆိုသော် ဓမ္မစကြာမူဝါဒအတိုင်း စိတ်ကို အစွန်းနှစ်ပါး၏အကြား၊ အလယ်လမ်း၌ပင် တည့်မတ်စွာထား၍ ဤအနုပုဗ္ဗိက ကထာ၏ မူဝါဒအတိုင်း သွားရိုးလမ်းစကို ခြေချရမည် ဖြစ်သောကြောင့်ပင် ဖြစ်ပါချေ၏။ သို့ကြောင့် ဓမ္မစကြာ၏ မူဝါဒသည် ထမ်းဆောင်ရန်တာဝန်အဖြစ် သတ်မှတ်ထားပြီး ဤ အနုပုဗ္ဗိက ကထာကိုကား အိတ်ဆောင်မှတ်တမ်းအဖြစ် သို့မဟုတ် ခရီးလမ်းညွှန်အဖြစ် သတ်မှတ်ထားလျှင်ကား လှမ်းအားနှင့် မှန်းအားသည် တစ်သားတည်း ကျလေရာ၏။

ဤသို့ လှမ်းအားမှန်းအား နှစ်စားရှိရာတွင် မှန်းအား၏ခရီးစဉ် ဖြစ်သော ဤအနုပုဗ္ဗိက ကထာ၏ ရည်ညွှန်းချက်ပါအတိုင်း ချိန်ဆရာတွင် -

(၁) အပါယဒုက္ခ - ကာမအာရုံ၌ လက်လွန်မိသဖြင့် ခံရမည့် ကိုယ်စိတ်ဆင်းရဲမှု။

(၂) ကာမဒုက္ခ - ကာမအာရုံ၌ ခုံမင်နေခြင်းကြောင့် ခံရမည့် ကိုယ်စိတ်ဆင်းရဲမှု။

(၃) ဘဝဒုက္ခ - ဘဝအာရုံ၌ ခုံမင်နေခြင်းကြောင့် ခံရမည့် ကိုယ်စိတ်ဆင်းရဲမှု။

အထက်ပါဒုက္ခတို့ကို လက်ဦးသိထားမှ ဤလက်ဦးရတားတို့ကို လိုက်စားသင့်၏။

လက်ဦးတရားတို့ကို လိုက်စားတော့မည်ဆိုလျှင် ထိုဆင်းရဲသုံးမျိုးတို့ကို ဦးစွာ သိထားမှသာ အဆင့်တက်ရာတွင် လွယ်ကူချောမောမည် ဖြစ်၏။

ထိုတွင် အပါယဒုက္ခသည် ဘောဂသမ္ပတ္တိကို အရင်းတည်၍ခံရသော ဒုက္ခစင်စစ် ဖြစ်ချေ၏။ လူ့ဘဝရှိ ဒါန၊ သီလတို့၏ အကျိုးဖလ, ဝိပါကဖြစ်သော စည်းစိမ်ဥစ္စာ ရတနာတို့ကို အခြေခံ၍ မိမိဘဝနှင့် မိမိစည်းစိမ်တို့ကို အထင်ကြီးကာ မြတ်နိုးလွန်လွန်းလာသောအခါမျိုး၌ ရာဂစိတ်သည် မတရားလက်လွန် သူ့ပိုင်နက်သို့ ခြေကျွံစေ၏။ ငါကောင်းစားရေးဖြင့် ငါတကောကောစေ၏။ ထိုငါတကော၏

လှူ့ဆော်မှုကြောင့် တစ်ဖက်သတ် ပြစ်မှားခြင်း၊ စော်ကားခြင်း၊ ဆုံးဖြတ်ခြင်းများ ဆက်တိုက်ဖြစ်ပေါ်၍လာချေရာ တစ်ဖက်သားအထိနာသလောက် ကိုယ့်မှာ အပါယ် ဆင်းရဲမှုကို ခံစားရချေ၏။ မိမိ၏ အစွဲကြီးသလောက်လည်း အကျနာချေ၏။

လက်ရှိ၌ စိတ်ပူပန်ခြင်း၊ ပူ့လွင့်ခြင်း၊ စိုးထိတ်ခြင်းများ ဖြစ်တတ်၏။

နောင်၌ကား ရာဂဖြင့် ပြိတ္တာ၊ ဒေါသဖြင့် ငရဲ၊ မောဟဖြင့် တိရစ္ဆာန်ဘဝ ပပကြီး ခံရတတ်၏။

ကာမဒုက္ခသည်လည်း ဘောဂသမ္ပတ္တိကိုပင် အရင်းတည်၍ခံရသော ဒုက္ခ စင်စစ်ပင် ဖြစ်ချေ၏။ ဝတ္ထုအာရုံ၊ ကာမဂုဏ်တို့အပေါ် ခုံမင်ကြီးစွာဖြင့်ပြုသော ဒါန၊ သီလမျိုးတို့သည် ဝဋ်ကို မှီခိုမှုမကင်းသဖြင့်လည်းကောင်း၊ ကာမစိတ်ခေါ် ပုဂ္ဂိုလ်၌ ခင်မင်စိတ်ဖြင့် ပေးကမ်းခြင်း၊ ခင်မင်စိတ်ဖြင့်ပင် ရှောင်ကြဉ်ခြင်းများမှ မကင်းသေးသဖြင့်လည်းကောင်း၊ ကာမစည်းစိမ်ခံစားရရာဖြစ်သော လူ့ဘဝ၊ နတ် ဘဝမျိုးလောက်မျှသာ ရောက်စေရစေတတ်၏။

လူ့ပြည်၌ ထိုမိန်းမကို မယားအဖြစ်လိုချင်လျှင် ထိုမိန်းမ၏ ဖျက်ဆီးမှုကို ခံရမည်မှာ မလွဲချေပြီ။ အကြိုက်ပေးရင်းက ညှဉ်းပန်းနှိပ်စက်ခံရခြင်း၊ အမျက် ရှရင်းက ညှဉ်းပန်းနှိပ်စက်ခံရခြင်း ဒုက္ခမှ ဘယ်သို့မျှ ပြေးမလွတ်တော့ပြီ။

သည့်အတူ သားသမီးစည်းစိမ်၏ သက်ရှိသက်မဲ့၊ အခြံအရံ၏ သက်ရှိ သက်မဲ့များကလည်း တစ်ဦးသို့ ခုံမင်လျှင် ထိုတစ်ဦး၏ ကြိုက်ညှဉ်း၊ မကြိုက်ညှဉ်း များကို လည်းကောင်း၊ တစ်ခုခုကို ခုံမင်ပြန်လျှင်လည်း ထိုတစ်ခုခု၏ ကြိုက်ညှဉ်း၊ မကြိုက်ညှဉ်းများကို လည်းကောင်း၊ မိမိ၏ လိုစိတ်သို့လိုက်၍ ဒုက္ခ ခံရတော့သည် မှာ မငြင်းသာတော့ပြီ။

ဤလူ့ပြည်၏ မယားတစ်ယောက်၊ သားတစ်ယောက် စသည့် ဒုက္ခသည်ပင် သည်မျှ အဖျက်ဆီးခံနေရသေးလျှင်ကား မယားပြောင်းဆန် သားပေါင်းလန်နေသော နတ်ပြည်၊ ကာမအလုပ်မှတစ်ပါး ဘာအလုပ်မျှမရှိသော နတ်ပြည်၌ကား စဉ်းစား စရာပင် မလိုတော့ပြီ။

ဘဝဒုက္ခသည်ကား ဘဝသမ္ပတ္တိကို အရင်းတည်၍ ခံရသော ဒုက္ခသာ ဖြစ်ချေ၏။ အရင်းတည်ဟူ၍သုံးခြင်းမှာ ဘောဂနှင့် ဘဝဟူ၍ သမ္ပတ္တိနှစ်မျိုး ရှိရာတွင် စီးပွား၏ ပြည့်စုံခြင်း၊ ဘဝ၏ သာယာခြင်းနှစ်မျိုး တစ်မျိုးမျိုးကိုမူတည် ထား၊ နောက်တစ်မျိုးကား အခြံရံအနေဖြင့် ထောက်ပံ့ထားခြင်းကို ရည်ညွှန်း၏။

(က) ကာမချမ်းသာသည် ထိုထက်ကောင်းချင်ရာမှ ထို့အောက်သို့ ကျဆင်းသွားခြင်း ဖြစ်၏။ ဘဝချမ်းသာသည်ကား ထို့ထက် ကောင်းချင် ရာမှ ထို့ထက် တိုးတက်သွားခြင်း ဖြစ်၏။

(ခ) ကာမချမ်းသာသည် တစ်ဖက်ရှိဝတ္ထုနှင့် အာရုံတို့သို့ စိတ်မေးတင်ထားတတ်၏။ ဘဝချမ်းသာသည်ကား မိမိ၏ခန္ဓာသို့သာ စိတ်မေးတင်ထားတတ်၏။

(ဂ) ကာမချမ်းသာသည် အာရုံကို မေ့မေ့ကြီးဖြင့် စိတ်မျက်စိမှိတ် ခံစားလေ့ရှိတတ်၏။ ဘဝချမ်းသာသည်ကား အာရုံကို မမေ့သော သတိဖြင့် စိတ်မျက်စိဖွင့် ခံစားလေ့ရှိတတ်၏။

သို့ကြောင့် ဘဝချမ်းသာဟုသုံးနှုန်းလျှင် ဉာဏ်ယှဉ်ကာမကုသိုလ်စိတ်များနှင့် ဈာန်ဝင်ရူပကုသိုလ်စိတ်များကို ရည်ညွှန်း၏။

ဘဝသမ္ပတ္တိဖြစ်သော လူ့ဘဝ၊ နတ်ဘဝတို့သို့ ရောက်ရှိလာကြ၍ ထိုဘဝတို့နှင့် ထိုက်တန်သော ကာမစည်းစိမ်တို့ကို ခံစားခွင့်များရရှိတတ်ချေရာ အာရုံသို့လည်း မလိုက်၊ ဝတ္ထုကိုလည်း မနှစ်ခြိုက်လေဘဲ ထိုထိုဝတ္ထု (ကာယကံရှင်၏ အထည်ကိုယ်ဒြပ်)၊ ထိုထိုအာရုံ (ကာယကံရှင်၏ အဆင်းအသံ စသည်များ) တို့ဖြင့် ထိတွေ့မိတိုင်း သတိလက်မလွှတ်၊ လင် ဖြစ်၍ လင့်ကျင့်ဝတ် (မယားဖြစ်၍ မယားကျင့်ဝတ် စသည်)အဖြစ်ထက် မပိုစေသော ခံစားမှုသည် အသိဉာဏ်ရှင်၏ ခံစားမှုမည်၏။ တစ်ဖန် ထိုကာမတို့ကို ရှောင်ခွာလျက်က ဓမ္မအာရုံဖြင့်သာ ဉာဏ်ဝင်စားနေခြင်းမျိုးသည်လည်း အသိဉာဏ်ရှင်၏ ခံစားမှုသည်သာမည်၏။

ထိုခံစားမှုမျိုးသည်

- ကာမသို့ လက်လွန်ခြေလွှတ်မျိုး မဟုတ်ချေသဖြင့် အပါယဒုက္ခသို့ မကျစေတတ်။
- ကာမသို့ ခုံမင်တပ်စွဲစိတ် မချင့်ရဲမှုကင်းသဖြင့်လည်း ကာမဒုက္ခသို့လည်း မကျစေတတ်။
- ကာမကိုခံစားရင်းက ထိုကာမ၏ သဘောနှင့် အကျိုးအပြစ်တို့ကို သဲကွဲစွာ သိမြင်ခြင်း။
- ကာမကို ခံစားရင်းက ထိုကာမမှ မိမိစိတ်ကို လွတ်မြောက်နေခြင်း။

- ကာမကို စွန့်လွှတ်လျက်က ကာမထက်သာသော စျာနသို့ ပြေးဝင်နေခြင်းများကြောင့် ယုတ်ရှုံးသောဘဝမှ မြင့်မြတ်သောဘဝ (ဗြဟ္မာဘဝ)သို့ လားရတတ်ချေ၏။

ထိုဗြဟ္မာဘဝသည်လည်း ရုပ်တစ်မျိုးသာရှိသော ဗြဟ္မာမျိုးသည်လည်း ထိုရုပ်တစ်မျိုး၏ ဘဝဒုက္ခကို လှလှကြီးခံရဦးမည် မုချ။

နာမ်လေးမျိုးသာရှိသော ဗြဟ္မာမျိုးသည်လည်း ခံစားပေးနေရခြင်း၊ မှတ်သားပေးနေရခြင်း၊ ကြောင့်ကြစိုက်ပေးနေရခြင်း၊ ဆုံးဖြတ်ချက် ချပေးနေရခြင်းတည်းဟူသော ထိုနာမ်လေးမျိုးတို့၏ ဘဝဒုက္ခကို လှလှကြီးခံရဦးမည် မုချ။

ရုပ်တစ်မျိုး၊ နာမ်လေးမျိုးတို့ဖြင့် ခန္ဓာစုံရှိသော ဗြဟ္မာ့ဘဝမျိုးသည်လည်း ဖော်ပြန်သည်က ဖောက်ပြန်၊ ခံစားမှတ်သား ကြောင့်ကြထား၊ ဆုံးဖြတ်ချက်ထား စသည်တို့ကလည်း သူတို့ဒုက္ခနှင့်သူတို့ လက်မလည်ကြလေသဖြင့် ဘဝဒုက္ခ လှလှကြီးပင် ခံရဦးမည် မုချ။

သို့ကြောင့် ဒါနမှု၊ သီလမှုမှဖြစ်သော ဘဝသမ္ပတ္တိ ဘောဂသမ္ပတ္တိတို့သည် မသုံးတတ်သူတို့အတွက် ဘေးသာ ဖြစ်၏။ သုံးတတ်ပါမူကား ဆေးအဖြစ်သို့ ရောက်စေ၏။ သုံးတတ်ရန်မှာ ထိုအပါယ၊ ကာမ၊ ဘဝဒုက္ခ သုံးမျိုးတို့၏ အကျိုးအပြစ်ကို ဦးစွာ သုတမယဉာဏ် (လေ့လာထားခြင်းဖြင့်) စိန္တာမယဉာဏ် (မိမိ၏ အတွေးအခေါ်ဖြင့်) နှစ်မျိုးတို့ဖြင့် ကြေညက်ထားပြီး ဤအနုပုဗ္ဗိက ကထာ၏ လမ်းညွှန်အတိုင်း ထိုဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိတို့ကို အရင်းအနှီးအဖြစ်ထားကာ အရိယာဇာတ်အဆင့်ဆင့်သို့ တက်လှမ်းရန်ပင် ဖြစ်ပါချေ၏။

- ဒုက္ခကို ဒုက္ခမှန်း တကယ်မြင်၍ တကယ်ကြောက်လျှင်၊
- ဒုက္ခ၏ဇစ်မြစ်၊ ကာမပြစ်ကို ရွံ့မုန်း၍ တကယ်ပယ်လိုလျှင်၊

ဤစာစဉ်၏ရည်ရွယ်ချက် အောင်မြင်ပြီဟူ၍ မှတ်ယူပါသတည်း။ ။



# တက်လမ်းရှင်တို့၏ ပန်းတိုင်

သီးပင်တို့၏ မကြီးထွား မတိုးတက်သည်မှာ –
– အပူလွန်၍သော်လည်း ဖြစ်တန်ရာ၏။
– လောင်းရိပ်မိ၍သော်လည်း ဖြစ်တန်ရာ၏။
– အောက်ခံမြေ မကောင်းခြင်းကြောင့်လည်း ဖြစ်တန်ရာ၏။
– မျိုးစေ့ကပင် ညံ့ဖျင်းနေခြင်းကြောင့်လည်း ဖြစ်တန်ရာ၏။

ထိုအပူလောင်းရိပ်စ မိနေလေသော သစ်ပင်သည် –
– သေစရာရှိက သေပေးရသည်က များတတ်၏။
– ညှိုးခြောက်စရာရှိကလည်း ၎င်းသာလျှင် ဦးစွာ ဖြစ်တတ်၏။
– အညွန့်အခက်အလက်တို့ဖြင့် တက်လမ်း မရှိချေ။
– အပွင့်အသီး အရင့်အမှည့်တို့ဖြင့်လည်း ဝေဆာခြင်းမရှိချေ။

ထို့အတူ အမြင့်သို့ တက်လှမ်းလိုသူ တက်လမ်းရှင်တို့သည် –
– အနိမ်သို့ မသက်ဆင်းမှသာ အမြင့်သို့ ရောက်တတ်၏။
– ကိလေသာအပူဘေး ကင်းဝေးစင်ကြယ်မှသာ အမြင့်သို့ရောက်တတ်၏။
– မီးဝေးရာသို့ အဆင့်ဆင့် ရွှေ့ပြောင်းနိုင်မှသာ အမြင့်သို့ ရောက်တတ်၏။

စင်စစ် တက်လမ်းကို ရှာဖွေနေကြလေသူတိုင်း –

မိမိစိတ်၏ ကြီးထွားနှုန်းကို ဟန့်တားစေတတ်သော၊ မိမိစိတ်၏ ကြည်သန့်မှုကို ညစ်ပေစေတတ်သော၊ မိမိစိတ်၏ ချမ်းသာမှုကို ဖျက်ဆီးပစ်တတ်သော ကိလေသာအပူဘေးမှ ကင်းဝေးရန်ပင်တည်း။ ။

# ၁။ ဒါနနှင့်စပ်ဆိုင်သောစကား (ဒါနပဋိသံယုတ္တကထာ)

တကာ်လမ်းရှာအပေါင်းတို့–

ဒါနနှင့်စပ်ဆိုင်သော အကြောင်းခြင်းရာတို့ကို မဆွေးနွေးမီ ဦးစွာ 'ဒါန' ဟူသော စကားလုံးကို ပုံဖော်ကြည့်သင့်သည် ထင်၏။ 'ဒါန'ဟူသော စကားလုံး၏ အဓိပ္ပာယ်ကို မသိဘဲလျက် ဒါနအကြောင်း ပြောဆိုဆွေးနွေးသော် မိမိလိုချင်သည့် ကုန်ပစ္စည်းကို နာမည်ဖော်မပြဘဲ ဈေးဝယ်နေသူကဲ့သို့ ဖြစ်တတ်သောကြောင့်ပင် ဖြစ်၏။ သက်ဆိုင်ရာသို့ အမှုတိုင်တောရာဝယ် အမှု၏ လက်သည်တရားခံနာမည် မဖော်ပြဘဲ တိုင်သကဲ့သို့လည်း ဖြစ်တတ်သောကြောင့်ပင် ဖြစ်၏။

'ဒါန'ဟူသော စကားကို ငါတို့မြန်မာတိုင်း ကျွမ်းနီးပြီးသားပင် ဖြစ်ချေ၏။ သို့တစေလည်း 'ဒါနဟူသည် ဘာလဲ' မေးသော် 'အလှူပေါ့'ဟူသော **'ပေါ့'**စကား ဖြင့်သာ အဆုံးသတ်ခဲ့ကြသည်က များချေ၏။ အလှူဆိုသော စကားရပ်သည်လည်း မှန်ပါ၏။ သို့သော် မမှန်တတ်သေးဟူ၍သာ ဖြေဆိုသင့်၏။

ဒါန – ပေးခြင်း၊ စွန့်လွှတ်ခြင်း။

မိမိပိုင်ဆိုင်သည်ဟု အထင်ရှိနေသော ဝတ္ထုအာရုံတို့ကို သူတစ်ပါးတို့သို့ ပေးကမ်းခြင်း၊ စွန့်လွှတ်ခြင်းသည် ဒါန–ပေးခြင်း ဟူသော စကား၏ အဓိပ္ပာယ်ပင် ဖြစ်ချေ၏။

## ဒါနသည် ရယူရန်မဟုတ်၊ စွန့်လွှတ်မှုသက်သက်မျှသာ

သို့ကြောင့် ဒါနဟုဆိုလျှင် စွန့်လွှတ်ရတော့မည်ကို ကြိုတင်သိရှိထားစေချင်၏။ သတ္တဝါတိုင်းသည် အေးမြခြင်းဟူသော သန္တိသုခကို တောင့်တမြဲ ဖြစ်၏။ သင်လည်း အိမ်တစ်ဆောင် မီးတစ်ပြောင်နှင့် အိမ်ရာတည်ထောင်စကပင် ထို အေးမြခြင်း ဟူသော စကားကို ပုံစံအမျိုးမျိုး ဖော်ကြည့်နေသူဖြစ်သည် ထင်၏။

- ငါသည် အိမ်ထောင်ရှင်ဘဝရောက်လျှင် ဒူး ဗုံလုပ်တီးပြီးနေနိုင်အောင် ကြိုးစားမည်။

– ငါသာ အိမ်ထောင်ရှင်ဘဝရောက်လျှင် ထမင်းအေး ယပ်ခတ်စားနိုင်အောင် ကြိုးစားမည်။

သည်အသုံးအနှုန်း စကားလုံးမှန်သမျှ ထိုအေးမြခြင်းကိုပင် မျက်စပစ်ကာ ပြောသော စကားရပ်များချည်းဟု ငါတို့ တွေးထင်၏။

အိမ်ထောင်ကျတော့ တကယ် အေးသလော။

ထောင်ပါဆိုလေမှ အေးသည်ဟူသည် ရှိမတဲ့လား မေးချင်၏။ ထောင်ဟူသည် ဆူသူကို အပူပေးရာစခန်းချည်း ဟူ၍ မှတ်ယူထားသင့်၏။

သူ့မိ၊ သူ့ဘတို့ ပိုင်ဆိုင်ကြသည်ဟု အများက သမုတ်ထားသော သူ့သား၊ သူ့သမီးကို သွားရောက်တောင်းရမ်းခြင်း၊ လက်ခံခြင်း ပြုမိကတည်းက –

– ဟောဒါ မောင့်မယားပဲကွဲ့၊ မသေမချင်း လုပ်ကျွေးပေရော့။

– ဟောဒါ အမိလင်ကွဲ့၊ မသေမချင်း ပြုစုပေရော့။

ဤသို့ဆိုလျှင် အုပ်ထိန်းသူတို့က မင်္ဂလာဆွမ်းကျွေးအမည်တပ်ကာ သံဃာထံမှောက် ရေစက်ချ၍ သားလှူပွဲ၊ သမီးလှူပွဲလည်း ကျင်းပခဲ့ကြသည်။ အနီးအဝေးဆွေမျိုးမိတ်သင် အကျွမ်းဝင်သူအပေါင်းတို့ကိုလည်း သားလှူပွဲ၊ သမီးလှူပွဲ သို့မဟုတ် သားစွန့်ပွဲ၊ သမီးစွန့်ပွဲ အသိအမှတ်ပြုပါရန် ဖိတ်ကြား၍ ကျွေးမွေးညှော်ခံကာ ဆောင်ရွက်ခဲ့ပါချေ၏။ ထိုအချိန်မှစ၍

– သူ့သမီးကို ငါ့ဇနီးဟူ၍ လက်ခံသိမ်းပိုက်မိချေ၏။

– သူ၏သားကို ငါ့လင်သားဟူ၍လည်း လက်ခံသိမ်းပိုက်မိချေ၏။

ထိုအခါတွင် စွန့်လွှတ်ခဲ့သူ သူ့မိသူ့ဘတို့မှာကား 'အင်း– ဝန်တစ်ခုတော့ အေးကပြီ' ဟူ၍ ကျွေးမွေးစောင့်ရှောက်ထားရသောသား လက်ကလွှတ်သဖြင့် စိတ်ချလက်ချ နေရ၊ ထိုင်ရ၊ စားသောက်ကြရ၏။ သမီးရှင်တို့ဘက်မှလည်း ထိုနည်း၎င်းပင် ထိန်းသိမ်းထားရသောသမီး လက်လွှတ်ပြီဖြစ်သဖြင့် စိတ်ချလက်ချပင် နေရ၊ ထိုင်ရ စားသောက်ကြရ၏။ သူ့သား၊ သူ့သမီးကို အပြီးစီး လက်ခံ သိမ်းပိုက်မိခဲ့ကြသော ဤမှာဘက်တွင်မူကား–

– ကိုယ့်လင် အချိန်တန်အိမ်ပြန်မရောက်၊ စိတ်ဒေါင်းတောက်ရပြီ။

– ကိုယ့်မယား မျက်ကွယ်ရာသွားသော် စိတ်ဂဏှာမငြိမ် သောကမီးထိန်ရပြီ။

သူ့ပေါ်ကိုယ့်အပေါ် အလိုကြီးသလောက် အားမရခြင်း၊ စိတ်မချခြင်း၊ အလိုမကျခြင်း စသည့် အပူလုံးများသည် တစ်လုံးတစ်လုံးစင့်လျက် တက်ချေတော့၏။ ငါစားဖို့ စသည့် 'ဘို့' တစ်လုံးမှသည် ငါရယ်၊ မယားရယ်စားဖို့ စသည့် 'ဘို့'တစ်လုံးလည်း အတက်ပေါက်လာချေတော့၏။ ခိုင်းနွားကြီးသည် 'ဘို့' တစ်လုံးတည်းဖြင့်ပင် အလွန် အရုန်းသန်သေးသော်၊ ဘို့နှစ်လုံးပါသော ထိုလင်၊ ထိုမယားကား ခိုင်းနွား၏ ရုန်းအားထက် နှစ်ဆတက်ချေပြီ။ ခိုင်းနွားကား သခင်ညွှန်မှ သွားခြင်း၊ ရပ်ခြင်း၊ ရုန်းခြင်း၊ သယ်ခြင်း စသည်များကို ကြောင့်ကြမဲ့ ပြုလုပ်ရသော်လည်း သည်လင်သည်မယားကား အလိုကြီးမှုကို ဆရာတင်၍ သခင်မဲ့ဖြင့် ကိုယ့်သောကမီး ကိုယ်မွေးကာ ပြေးသင့်ပြေး၊ သွားသင့်သွား စသည်ဖြင့် ရုန်းကန်နေကြရသဖြင့် ကြောင့်ကြမဲ့ခိုင်းနွားထက် စိတ်လည်းပမ်း၊ လူလည်းနွမ်းဖြစ်ကြရ၏။ အအေးနှင့်လည်း ဝေးသထက် ဝေးကွာစေ၏။ ကိုယ်ပူစိတ်ပူတို့၏ ဖျက်ဆီးခြင်းကြောင့်လည်း ရုပ်ပျက်ဆင်းပျက် ဖြစ်လာ၏။ မိုးတွင်းကာလ အခိုင်းနာထားသော နွားကြီးကဲ့သို့ ခြေမသယ်ချင်၊ လက်မသယ်ချင် ဖြစ်လာ၏။

- ထိုနေ့ခင်း၏ မယားပူကို ညဉ့် မယားမြူခြင်းဖြင့် အေးစေမည်။
- ထိုနေ့ခင်း၏ လင်ပူကိုလည်း ညဉ့် လင်မြူခြင်းဖြင့် အကြွေးချေမည်။

ထိုစိတ်ကူးကား စိတ်ကူးမှုသာ ဖြစ်၏။ ထိုကဲ့သို့ အေးမည်ထင်ကာ လင်ကိုယ်မယားတို့ နှစ်ယောက်တည်း ပျော်ပါးမဟဲ့အထင်ဖြင့် ချစ်ကြင်ကြလေရာ ညော့်သည်တို့ကား ဟော– တစ်ယောက်၊ ဟော– တစ်ယောက်ဖြင့် ထိုအိပ်ခန်းထဲမှပင် အလျှိုလျှို ထွက်ပြူလာကြလေကုန်၏။

- အိမ်ရှေ့ခန်းကလာသော ညော့်သည်က တစ်ခဏဖြင့် ပြန်တတ်၏။
- အိပ်ခန်းထဲက ထွက်လာသော ညော့်သည်ကား တစ်ခဏဖြင့် မပြန်။ တစ်ဘဝနှင့်လည်း မပြန်တတ်ချေ။

ထိုအခါ တို့နှစ်ယောက်ထဲမှ သားရယ်၊ သမီးရယ် စသည်စသည်ဖြင့် အေးစကြားမှ အပူမီးပွားများ ထွက်လာချေရကား ထိုလင်ထိုမယား၏ အိပ်ခန်းမှ အအေးသည် ငရဲမီးဖြင့် ခဲထားသော ရေခဲရည်သောက်ရသည့်ပမာ အေးလျက်က အပူသို့ တစ်မုဟုတ်ချင်း ရောက်ကြရချေ၏။ သားတစ်ယောက် ထွန်းကားလာခြင်းသည် အိမ်ရှေ့ခန်းမှ မီးခွက်တစ်ခု ထတောက်လာဘိသို့၊ သမီးတစ်ယောက် ထွန်း

ကားလာခြင်းသည်လည်း နောက်ဖေးခန်းမှ မီးဖိုတစ်ခု ထတောက်လာဘိသို့ သားဖို့၊ သမီးဖို့ စသော 'ဘို့'တို့သည် ထိုလင်၊ ထိုမယားတို့၏ ကျောပေါ်ဝယ် ကိုယ်စီ ပေါက်ကြလေကုန်၏။ 'ဘို့'များလေ၊ အရုန်းသန်ရလေလေ၊ မီးအလောင် များလေ၊ လေပင့်သန်လေလေဘဝသို့ ရောက်ရှိလာကြရာ ခါးမှ အဝတ်ပင် ချွတ် ပစ်ချင်စိတ် ပေါက်လာကြလေကုန်၏။

ထိုမယားနှင့် ထိုလင်၊ ထိုသား၊ ထိုသမီးများကို အကြောင်းပြု၍လည်း မြို့ ဖြစ်က မြို့ဒေသအလိုက် ကား၊ ဈေးဆိုင်၊ ရုံးလုပ်ငန်း စသည့် အဆွယ်အပူများသည် လည်းကောင်း၊ တောဖြစ်ကလည်း တောဒေသအလိုက် နွားလှည်း၊ ယာ၊ လယ်၊ ထယ်၊ ထွန် စသည့် အဆွယ်များလည်း ဒုနဲ့ဒေးပင်။

- အရက်မူးသမားကား သောက်သလောက် သွေးဆူ၊ သွေးဆူသလောက် ပင် မူး၏။
- တစ်ဖန် မူးသလောက်မသိ၍ မသိသလောက်ပင် ပျော်ရွှင်တတ်ချေ၏။

သည့်အတူ လင်မှိုင်း၊ မယားမှိုင်းမိနေကြသော ထိုလင်၊ ထိုမယားတို့သည် လည်း ဒုတိယ ဆယ်နှစ်သက်တမ်းဖြစ်သော ဆယ့်ရှစ်၊ ဆယ့်ကိုးစသည် နှစ်ဆယ် တွင်းအရွယ် ဖြစ်ခဲ့သော် ပျော်၍ပါး၍ကောင်းတုန်းအရွယ် ဖြစ်သဖြင့် တစ်ယောက် မျက်နှာ တစ်ယောက်ကြည့်ကာ ပျော်မဆုံးမော်မဆုံးဖြင့် လင်အပေါ်၊ မယားအပေါ် အလိုကြီးသလောက် ချစ်သွေးဆူကြလေကုန်၏။

တစ်ဖန် တတိယ ဆယ်နှစ်သက်တမ်းဖြစ်သော နှစ်ဆယ့်တစ်မှ သုံးဆယ် အတွင်း အရွယ် ဖြစ်ခဲ့သော် သွေးသား အစင်ကြယ်ဆုံးကာလဖြစ်၍ လှပအား အဖွံ့ဖြိုးဆုံးအရွယ် ဖြစ်ရကား တစ်ယောက်မျက်နှာတစ်ယောက်ကြည့်ကာ ကြည့်မဝ၊ ရှုမဝဖြင့် အလိုကြီးသလောက် မိုးမမြင်လေမမြင် ဖြစ်တတ်ကြကုန်၏။

စတုတ္ထ ဆယ်နှစ်သက်တမ်းဖြစ်သော သုံးဆယ့်တစ်မှ လေးဆယ်အတွင်း အရွယ် ဖြစ်ခဲ့သော်ကား ဗလအားကောင်း၊ မီးရုံမီးပွား သမီးသားများကလည်း အရွယ်တက်လာကြပြီ ဖြစ်သဖြင့် ကြည့်ပျော်ရှုပျော်ကလည်း ကောင်းလာချိန် ဖြစ်ရကား

- သည်သားကြီး ကြီးမှ လောကကြီး ခါးစောင်းတင်မဟော့။
- သည်သမီးကြီး အရွယ်ရောက်မှ လောကကြီး ဖနောင့်နဲ့ပေါက်မဟဲ့။

ကြိမ်းဝါးကာ ဗလအင်အားပေါ်တွင် ဓနအင်အား၊ ကာမအင်အားများ ဆင့်ပိုး ထမ်းရွက်ကာ ထိုလင်၊ ထိုမယားတို့၏ မျက်နှာစုံတို့သည် သားမျက်နှာ ဘက်သို့ လည်းကောင်း၊ သမီးမျက်နှာဘက်သို့လည်းကောင်း လှည့်ကြလေကုန်၏။ စီးပွားရေး၏ သော့ချက်ဖြစ်သော ငွေမျက်နှာသို့သာ ကြည့်ကြလေကုန်၏။ ထို အခါ ဘာဆိုဘာမှ မမြင်ကြသည့်အလျှောက် စိတ်ကူးဖြင့် အပျော်ထူးကြလေ ကုန်၏။

မကြာပါချေ။ အရွယ်ရောက်လာသော သားသည် အရွယ်သွေးကြောင့် မုန်ယိုလာချေရကား၊ ၎င်းဆန္ဒအတိုင်း မယားယူသွားချေရာ–

– စကားနားမထောင်တဲ့သား နေပစေ။ သမီးကြီး ကျန်သေးတာပဲ။

ဤသို့လျှင် အားကိုးတစ်ခု မျှော်လင့်ချက်တစ်ခု ဆုံးရှုံးသွားပြီဖြစ်သဖြင့် တစ်ခုပေါ်သို့ အားတင်ထားခြင်း၊ မျှော်လင့်ထားခြင်းများဖြင့် ထေလိုက်ကြကုန်၏။ သားအပေါ်ထားရှိသော ချစ်စိတ်ကို မုန်းစိတ်ဖြင့် ဖုံးအုပ်ထားလိုက်ကြလေကုန်၏။

– အရွယ်ချင်းပြိုင်တက်လာလျှင် အကျချင်းလည်း ဆိုင်နေတတ်သည်။
– စိတ်ချင်းတူနေပြန်လျှင်လည်း အယူချင်းလည်း အတူတူပင် ဖြစ်နေ တတ်သည်။

သား လူလားမြောက်နှင့် ယှဉ်တက်လာသော သမီးကြီးကလည်း ကာမစိတ် မုန်ယိုလာသောအခါ ဘာကိုမှလည်း မမြင်တတ်သည့်အလျောက် ဘာစကားမှလည်း နားမဝင်တော့သည့်အလျှောက် ကလေးစိတ်သည် ကလေးသိမျှသာ ရှိသဖြင့် ကလေးချင်း၌သာ ငြိတတ်ချေရကား တစ်ယောက်နောက်သို့ (မရှေးမနှောင်းပင်) ပါသွားပြန်ချေပြီ။

– အမိုက်မ၊ မိဘအရှက်ခွဲသွားတာ၊ သွားပစေဦး။ သားငယ်၊ သမီးငယ်များ ကျန်သေးတယ်။

ဤသို့ဖြင့် ရှေ့ခြေကုပ်လွတ်တိုင်း နောက်အားကိုးမျှော်ခဲ့ကြရာ၊ ဘယ် လက်ဆုပ်ပြေသွားတိုင်း ညာလက်ဖြင့်ပြင်၍ ဆုပ်လာခဲ့ကြလေရာ ထိုလင် ထိုမယား တို့၏အရွယ်ကား ဆုတ်ယုတ်စပျိုးလာသော ခြောက်ဆယ်တွင်းသို့ ချဉ်းနင်း လာခဲ့ချေပြီ။ မြို့ဒေသ၏အခြေဖြစ်ခဲ့သော် ကားလည်းအို၊ အင်အားကလည်းအို၍

အိမ်များလည်း အိုမင်းလာချေပြီ။ တောဒေသအခြေ ဖြစ်ခဲ့သော် နွားလည်းအိုအို၊ လူအိုအိုနှင့် အိမ်အိုယာဟောင်း အခြေအနေတို့ ပြောင်းလဲလာခဲ့ချေပြီ။ စလယ်ဝင်နှင့် စခဲ့သော အိမ် စလယ်ဝင်သို့သာ ပြန်ဆိုက်ချေ၏။

– အိမ်ထောင်ကာစက သတို့သမီးနှင့် သတို့သား ဖြစ်ခဲ့သော်လည်း

– ယခုသော်ကား အဖိုးကြီးနှင့် အဖွားကြီး ဖြစ်ရချေပြီ။

ယခင် အိမ်ထောင်တည်စ စလယ်ဝင်အိုးကား သစ်လွင်တောက်ပ၏။ ကြွားယောင် ရှိ၏။ ယခု အိမ်ထောင်သိမ်းခါနီး စလယ်အိုးကား အိုမင်းကုန်းကွဖားသယောင် ပြ၏။

တစ်ချိန်က အိမ်နီးချင်းတို့ ခြံခတ်လေသောအခါ တူရွင်းကလေး တစ်ပြားစာမျှ မိမိအိမ်ကွက်၏ ပိုင်နက်ထဲသို့ကျော်နင်းလာသော် သက်ဆိုင်ရာသို့ တိုင်တန်းကာ ဖြေရှင်းခွင့်ရခဲ့၏။ လျော်ကြေးလည်း ရခဲ့၏။ ဝန်ချတောင်းပန်မှုကိုပင် ခံယူခဲ့ရ၏။ ယနေ့ အားကိုးမဲ့ဖြစ်နေချိန် မယားနောက်ပါ၊ လင်ခေါ်ရာ လိုက်ပြေးခဲ့ကြသော သားကြီး၊ သမီးကြီးများက ပိုင်နက်တွင်းသို့ အိမ်တစ်လုံးစာ ဝင်ဆောက်ကြလေရာ သားပဲဟူသော လိုစိတ်ဖြင့် ခေါင်းညိတ်ခဲ့ရ၏။ ဘာလျော်ကြေးမျှမရ။ အဖိုးအခမှလည်း ဝေးရ၏။ သားကြီးလာသဖြင့် ငါ့သားကြီး အနားမှာရှိသည်ဆိုကာ အားတက်ခြင်းဖြင့်ပင် ကျေနပ်ရ၏၊ မိမိတို့ကသာ သားကြီးရယ်၊ အဖေတို့ အမေတို့ကို ပစ်မထားပါနှင့် ဟူ၍ တောင်းပန်ခဲ့ရချေသေး၏။ ထိုသားကြီး အိမ်ဝင်းထဲ ရောက်လာသဖြင့် ရရှိလာသောရလာဒ်မှာ မြေးထိန်းပေးရခြင်းပင်။ လောကကြီး ခါးစောင်းတင်မည့်အစား မြေတို့ကိုသာ ခါးစောင်းတင်ရချေပြီ။

တစ်ဖန် သမီးကြီးက ထွန်စရာမရှိ၍ဆိုကာ ခိုင်းနွားကြီးတစ်ကောင် ဝင်ဆွဲပြန်ရာ တိတ်တိတ်ဖြင့်ပင် ကျေအေးရတော့၏။ သူစိမ်းတစ်ရံဆံ နွားသူခိုး ဖြစ်ပါမူကား ရိုက်ပုတ်ခြင်းဖြင့်လည်း ဆုံးမလေရာ၏။ သက်ဆိုင်ရာ ဖမ်းဆီး ပို့အပ်ခြင်းဖြင့်လည်း ဒဏ်သင့်စေရာ၏။ ယခုသော်ကား သမီးလက်သို့ အသာတကြည်အပ်ကာ မတ်တပ်ကြည့်ရုံမျှသာ ဖြစ်ချေ၏။ လောကကြီး ဖနောင့်နှင့်ပေါက်မည့်အစား အိမ်ကြမ်းခင်း ဖနောင့်နှင့် နင်းရုံမျှဖြင့် ကျေနပ်ရချေပြီ။

– မပိုင်သည်ကို အပိုင်ထင်၍ လက်ခံသိမ်းပိုက်မိခြင်းသည် ပူပန်ခြင်း၏ အရင်းခံ။

- မဆိုင်သည်ကို ဆိုင်ပြီထင်၍ လက်ခံထိန်းသိမ်းခြင်းသည်လည်း ပူပန်ခြင်း၏ ဇစ်မြစ်ပင်။

ထို မပိုင်ဆိုင်သည့် သူ့သမီး၊ သူ့သား ယူမိရာမှ ပေါ်ပေါက်လာသော အေးချမ်းခြင်းနောက်ကွယ်မှ အပူတို့သည် အရွယ်ကုန်၍ မာန်ကျလာသောအခါ တွင်ဝယ် ထန်းရည်မူးသမား၏ အမူးပြေမှ နောင်တရဘိသို့ နောင်တကြီးစွာ ရချေ၏။ ထိုအခါ–

- သားမရှိသဖြင့် သားဒုက္ခမခံရသည်ကို ရိပ်မိလာ၏။
- သမီးမရှိသဖြင့် သမီးဒဏ် မခံရသည်ကိုလည်း အပိုင်သိလာ၏။

သည့်အတူ ငါ့သားဟု ငါက ပြောသော်လည်း သူ့မယားက သူ့လင်ပါဟူ၍ ပြော၏။ သူ့သား၊ သူ့သမီးများကလည်း သူတို့ဖအေပါ ဟူ၍ ပြောကြလေကုန်၏။ ထိုစကားတို့ကို ကြိမ်ဖန်များစွာ ကြားကြားလာရသောအခါ ငါ့သားဟူသည် ငါက ထင်နေတာပါ ဟူသော ထင်တစ်လုံး၏အစွဲကို အကဲခတ်မိလာချေတော့၏။ ထိုမှထောက်၍ ငါ့အိမ်၊ ငါ့ယာ စသည်များကိုလည်း အထင်ပါ ဟူသော အဖြေ၍ အမြဲပေးနေတတ်ချေ၏။ ငါ့ကိုယ်ငါပင် ငါပိုင်ဟူသည့် အဖြေသည် မှားယွင်းနေသောအဖြေမှန် ဟူ၍ သဘောပေါက်လာချေ၏။

ထိုသို့ အရွယ်လွန်၍ ခြေကျုံလက်လွန်တို့ဖြင့် နှုတ်မရ၊ ဖြေမရသောသူတို့သည် စွန့်လွှတ်မှု၏ အေးမြခြင်းကို အဖြေမှန်အဖြစ် မြင်သိလာချေ၏။ အေးမြခြင်း၏ အစစ်အမှန်သည် စွန့်လွှတ်မှုတစ်ခုတည်းသာ ဖြစ်ချေသည်ဟု (ကိုယ်တွေ့ဖြစ်စဉ်များဖြင့်) သဘောပေါက်လာချေ၏။ မပိုင်ကို အပိုင်ထင်ဖြင့် ဆုပ်ကိုင်ထားသောကြောင့် မြတ်နိုးခြင်း၊ အထင်ကြီးခြင်း၊ မျှော်လင့်ခြင်းများဖြင့် ပူစိတ်၊ ပြန့်စိတ်များ ထိုးဖောက်ဝင်ရောက်လာတတ်ပြီး သိုမှီး သိမ်းဆည်းရခြင်း ဒုက္ခ၊ စောင့်ရှောက်ရခြင်းဒုက္ခ၊ အကြိုက်ခြင်းဆုံသဖြင့် လုယက်ခံရခြင်းဒုက္ခတို့ကိုလည်း မြင်သိလာချေ၏။

- မည်သူသည် ဓားပြအရိုက်ခံရသဖြင့် ဆေးရုံတက်နေရသည်၊
- မည်သူသည်ကား ဓားပြတို့ သတ်ဖြတ်ခံရသဖြင့် သေဆုံးသွားပြီ၊

ဟူသော စကားသည် တကယ်မဟုတ်သော အဟုတ်စကားဟူ၍မြင်သိလာ၏။

စင်စစ် တကယ်ဟုတ်သော အဟုတ်စကားမှာ

- ထိုသူ့ကို ဓားပြတို့ကရိုက်သည် မဟုတ်၊ မိမိဘေးနားရှိ ရွှေငွေတို့ကသာ၊
- ထိုသူ့ကို ဓားပြတို့ကသတ်သည်မဟုတ်၊ မိမိလက်ဝယ်ရှိ ရွှေငွေတို့ကသာ။

ဓားပြသည် လူတွေ့တိုင်း ရိုက်နှက်တတ်သည်မရှိ။ သတ်ဖြတ်သည်လည်း မရှိချေပြီ။ ရွှေငွေတို့ကို မထုတ်လွှတ်ဘဲ ဆုပ်ကိုင်ထားသူတို့ကိုသာ ရိုက်နှက်တတ်၊ သတ်ဖြတ်တတ်ပါချေ၏။ တစ်ဖန်လည်း ထိုသို့ ရိုက်နှက် သတ်ဖြတ်ရာတို့၌ ငါပိုင် ရွှေ၊ ငွေဟူသော အထင်များ၊ အမြင်များဖြင့် ဆုံးဖြတ်ကာ ထိုပစ္စည်းတို့ပေါ်၌ အထင်ကြီးခြင်း၊ မြတ်နိုးခြင်း၊ တပ်စွန်းခြင်း၊ မာန်ဝင်ခြင်းများဖြင့် ခုခံသူတို့ကိုသာ ထိုခုခံသော မာန၊ ဒေါသ၊ ရာဂတို့ကို လက်လွှတ်စေလိုသဖြင့် နှိပ်စက်ခြင်းမျှသာ။ ရာဂမရှိ၊ မာနမရှိ၊ ဒေါသလည်းမရှိ။ ပင်ကိုယ်စိတ်ဖြင့် အသာတကြည် စွန့်လွှတ်သူတို့ကိုကား ကျွန်တော်တို့မရှိ၍ ဤသို့ ပြုကျင့်ရပါသည်ဟု တောင်းပန်ကာ မနှိပ်စက်သည့်အပြင် ကန်တော့၍ပင် သွားချေပါသေး၏။ သို့ကြောင့် ထိုသူ့အား ရိုက်နှက်ပုတ်ခတ် သတ်ဖြတ်သည်မှာ တရားခံကား ဓားပြများ မဟုတ်ပါချေ။ ယင်း၏ တရားခံအစစ်မှာ အနားရှိ ရွှေ၊ ငွေတို့က ထချခြင်းနှင့် ကိုယ်တွင်းရှိ အစွဲအငြိတို့က ထသတ်ခြင်းမျှသာ ဖြစ်ချေ၏။

ထိုသို့ မြင်သိလာသူ၌-

- ရွှေ၊ ငွေ စသည့် (အစွဲက သိမ်းပိုက်ထားသော) ပစ္စည်းမှန်သမျှ အတွင်းရန်သူအစစ်၊
- မဆိုင်သည် အပိုင်ထင်မိ၊ မှားနေခြင်းသည် ရန်သူခိုအောင်းရာ တောအုပ်

ဤသို့လျှင် သိလာချေတတ်၏။

ထိုသို့ မြင်သိလာသောအခါ စွန့်လွှတ်ခြင်းဖြင့် တောအုပ်လည်း ပျက်သုဉ်းစေရန်၊ သူလည်းပြေးစေ ဟူသော ရည်ရွယ်ချက်သည် တစ်ခဲနက် ဖြစ်ပေါ်၍ လာချေ၏။ တကယ်ပိုင်၍ တကယ်နိုင်သော စွန့်လွှတ်မှုစေတနာမှ ပေါ်ထွန်းလာမည့် တန်ပြန်ကောင်းကျိုးကိုလည်း ကိုယ်ပိုင်ဥစ္စာအစစ် ဟူ၍ တစ်ခဲနက်ဖြစ်ပေါ်လာချေ၏။ ထိုစွန့်လွှတ်မှုကြောင့် အေးမြသော အေးချမ်းခြင်း၊ သန္တိသုခသည်သာ တကယ် အေးမြသော စိမ့်ရေစမ်းရေ အစစ်ဟူ၍ တစ်ခဲနက် ဖြစ်ပေါ်လာချေ၏။ ထိုသို့

မြင်သိသူ၏ စွန့်လွှတ်မှုသည်သာ ဒါန၏ စကားလုံးကို ချောမောအပြေပြစ်ဆုံး ပုံဖော်ခြင်းဟူ၍ ကင်ပွန်းတပ်ထိုက်ချေသည်တကား။

## စွန့်လွှတ်မှု၏ ပထမ

တက်လမ်းရှာအပေါင်းတို့-

ထိုစွန့်လွှတ်မှုခေါ် ဒါနသည်-

(၁) ငါ့ပစ္စည်းဟူ၍ ငါပိုင်အစွဲကို စိတ်ထဲက စွန့်လွှတ်လိုက်ခြင်းက တစ်မျိုး။

(၂) ငါ့ပစ္စည်းဟူ၍ စွဲနေသော လက်ဝယ်ရှိ ဝတ္ထုအာရုံတို့ကို လက်ထဲမှ စွန့်လွှတ်လိုက်ခြင်းက တစ်မျိုး။

ဤသို့လျှင် နှစ်မျိုးနှစ်စား ကွဲပြားချေ၏။

ထိုတွင် အမှတ် (၁) ကို စေတနာဒါန ဟူ၍ အသိမှတ်ပြုပြီး၊ အမှတ် (၂) အချက်ပြကိုကား ဒေယျဓမ္မဒါန ဟူ၍ အသိမှတ်ပြုစေချင်ပါ၏။

ဆိုလိုသည်မှာ လက်ထဲရှိပစ္စည်းတို့ကို လက်လွှတ်စွန့်ကြဲပြီးသည့်နှင့် တစ်ပြိုင်နက် စိတ်ထဲမှလည်း ငါ့ပစ္စည်း မဟုတ်တော့ဘူး ဟူ၍ စေတနာ ပြောင်းလဲပစ်တတ်ရန်ပင် ဖြစ်ချေ၏။

ပစ္စည်းတစ်ခုခုကို မိမိဘေးနားဝယ် စုပုံထားလျက်က ငါ့ဖို့ဟူ၍ လည်းကောင်း၊ ငါမယားဖို့၊ ငါ့သားဖို့ ဟူ၍ လည်းကောင်း၊ ကြံစည်စိတ်ကူးကြည့်လိုက်စမ်းပါ။ ထို အကြံအစည်အတိုင်း ဆုံးဖြတ်ပြီးသည်နှင့် တစ်ပြိုင်နက် ထိုပစ္စည်းပုံကို သိမ်းပိုက်လိုသောဆန္ဒ၊ တပ်မက်ငြိစွန်းသော ရာဂ၊ ချစ်ခြင်းပေမနှင့်ယှဉ်သော အကုသိုလ် စေတနာများ တဖွားဖွား ပေါ်ထွက်လာပါမည်။ လက်တွေ့ စမ်းကြည့်ပါလေ။ တစ်ဖန် ငါ့ပစ္စည်းမဟုတ်၊ ငါ့မယား၊ ငါ့သား စားသုံးရန်မဟုတ်။ အများဖို့ ဟူ၍ ကြံစည်စိတ်ကူးစိတ်လေးများဖြင့် ဆုံးဖြတ်ကြည့်လိုက်စမ်းပါ။ ထိုအခါ သိမ်းပိုက်လိုသောဆန္ဒ ကင်းသွားသည်ကို လည်းကောင်း၊ တပ်မက်မှုရာဂ ရှင်းသွားသည်ကို

လည်းကောင်း၊ ချစ်ခြင်းပေမ ရှဲသွားသည်ကို လည်းကောင်း ဒိဋ္ဌ ခံစားရပါမည်။ လက်တွေ့ စမ်းသပ်ကြည့်ပါ။ အာရုံပြု မှန်ကန်မှု၊ စေတနာထားတတ်မှုသည် အရေးကြီးကြောင်း သဘောပေါက်ပါလေ။

တစ်နည်း မှတ်သားစေချင်သေးသည်မှာ–

ဒါနသည် စွန့်လွှတ်မှုသက်သက်မျှသာ ဖြစ်ပါသဖြင့် မိမိ ပိုင်ဆိုင်သည် ထင်သော ပစ္စည်းတို့ကို ငါ မသုံးစွဲတော့ပါပြီ။ ငါကဲ့သို့ တစ်ပါးသူများ ချမ်းသာ စေရန် စွန့်လွှတ်မည်ဟူ၍ စိတ်က ကြံစည်ဆုံးဖြတ်ခြင်းသည် စေတနာဒါန မည်ပြီး ထိုကြံစည်ပြီးအတိုင်း ကိုယ်ထိလက်ရောက် စွန့်လွှတ်ခြင်းသည် ဒေယျဓမ္မ ဒါန မည်ချေ၏။

“စေတနာဖြင့် အာရုံဖြတ်တောက်၍ ဝတ္ထုဖြင့် ငါပိုင်အစွဲကို နှုတ်ပယ်၏”

ဤဋ္ဌ ဝတ္ထုနှင့်အာရုံဟူသော စကားနှစ်ခွန်း ခွဲခြား၍သိသင့်သည် ထင်သေး ၏။ ဝတ္ထုဟူသည် အထည်ကိုယ်ဒြပ်ကို သတ်မှတ်ပြီး အာရုံကား ထိုဝတ္ထုရုပ်ကို မှီ၍၊ ကပ်၍ ဖြစ်နေသော အဆင်းအရိပ်၊ အသံရိပ် စသည်များကို ဆိုလို၏။

နံနက်ခင်းဝယ် နေမထွက်မီ အရုဏ်ရောင်တည်းဟူသော ရောင်နီသည် နေလုံးကြီးလာတော့မည်ဟု ရှေ့ပြေး ကြွေးကြော်လျက်က ပြေးလာသည့်ပမာ ဦးစွာ တွေ့ရှိရတတ်၏။

သည့်အတူ တစ်ဖက် ဝတ္ထုရုပ်နှင့် မထိတွေ့၊ မစပ်ယှက်ရမီ မိမိစိတ်ကို ညှို့ယူတတ်သော အဆင်းရိပ်၊ အသံရိပ် စသည့် ကာယကံရှင် (ဝတ္ထုရုပ်)၏ ရှေ့ပြေးသည် ဦးစွာ တိုက်လည်းတိုက်၊ ဆွဲလည်းဆွဲအားဖြင့် ပေါ်လွှင်နေချေ၏။

မိမိစိတ်သည် ထို(ဝတ္ထုအထည် ကိုယ်ဒြပ်၏ ရှေ့ပြေးဖြစ်သော) အဆင်းရိပ် စသည်သို့ ဦးစွာ နားသက်ပြီး စုံစမ်းခြင်း၊ ဆုံးဖြတ်ခြင်းများ ပြုမူရချေ၏။

ထိုသို့ အာရုံသို့ မိမိ၏ စိတ်ခိုနားကာ စုံစမ်းဆုံးဖြတ်၍ မိမိသဘောကျ ကောင်း၊ မကောင်း သိရသောအခါတွင်မှသာ ထိုကာယကံရှင်နှင့် ထိတွေ့ဆက်ဆံရန် ကြိုးစားရချေ၏။ ထိုကြိုးစား၍ ရယူသိမ်းပိုက်စဉ်အခါဌပင်လျှင် ကိုယ်ထည်၏ အတွင်းသဘောနှင့် သဘာဝတို့ကို အပြင်ရှိ ကိုယ်ထည်၏ အတွေ့အာရုံပေါ်တွင် မိမိစိတ်နားခိုရင်းက စုံစမ်းခြင်း၊ ဆုံးဖြတ်ခြင်းများဖြင့်ပင် ခံစားကြည့်ရချေသေး၏။

ထိုသို့ အပြင်မှာ စိတ်နားခိုလျက် ခံစားပြီးမှသာ မကောင်းဘူး၊ ကောင်း၏ အရှိကို သိရချေ၏။ သို့ကြောင့် အာရုံသည် ရှေ့ပြေးညွှန်ကြီး ဝတ္ထုကား နောက်နေညွှန်ခံဟူ၍ ခွဲခြား မှတ်သားသင့်ချေ၏။

သည်နေရာဝယ် ထင်ရှားသော ဥပမာတစ်ခုဖြင့် ပုံစံထုတ်ပြရသော် ထမင်းပွဲတစ်ပွဲ စွန့်လွှတ်ရာ၌ ဝက်သားဟင်းဖြင့် ညွှန်ခံပါသည် ဆိုပါအံ့။ ထိုစဉ် စားပွဲဝိုင်း ထိုင်ချလိုက်သည်နှင့် ပန်းကန်ထဲရှိ ဝက်သားဖတ်ဆိုသော ဝတ္ထုရုပ်၏ အထည်ကိုယ်ဒြပ်မှ ထိုးတက်လာသော အဆင်းသဏ္ဍာန်သည် လည်းကောင်း၊ အနံ့သည်လည်းကောင်း ဦးစွာ ကြိုဆိုမည်သာ ဖြစ်ချေ၏။

မိမိက မျက်စိ၊ နှာခေါင်းတို့ဖြင့် စုံစမ်းကြည့်လိုက်သောအခါ အရောင်အသွေးလေးကြည့်ကလည်း စားချင့်စရာ၊ အနံ့ကလေးကလည်း စားချင့်စရာ တွေ့ရသဖြင့် ကောင်းမည်၊ စားလိုက်မည်ဟု ဆုံးဖြတ်မှု ပေါ်လာချေ၏။ ထိုဆုံးဖြတ်မှုသည် ဝက်သားဖတ်၏ ရှေ့ပြေး အဆင်းအနံ့သို့ မိမိစိတ် နားခိုပြီးမှ ဆုံးဖြတ်သော ဆုံးဖြတ်မှုပင် မဟုတ်လော။

တစ်ဖန် ထိုဆုံးဖြတ်ချက်အတိုင်း ဦးစွာ အထည်ကိုယ်ကို ကိုင်ကြည့်၏။ အတွေ့အာရုံက ခရီးဦး ကြိုဆို၏။ စားကြည့်ဝါးကြည့်ပြန်၏။ ရသာရုံက ခရီးဦး ကြိုဆိုပြန်၏။ ထိုစားရင်းဝါးရင်းကပင်လျှင် ဝက်သားဖတ်၏ အတွင်းသဘာဝဓာတ်သတ္တိတို့၏ လှုပ်ကြွလာခြင်း၊ ပျက်ကျသွားခြင်းစသော အကြောင်းစုံ အကုန်သိရခြင်းမျိုးတည်း။

ထိုသို့ ဝတ္ထုအာရုံနှစ်စုံ ရှိရာတွင် သူတစ်ပါး ကောင်းစားရေးသို့ အာရုံရှေ့ရှုပြီး မိမိသုံးလိုစွဲလိုစိတ်အာရုံအား ဖြတ်တောက်ခြင်းကို စေတနာဒါနကတာဝန်ယူရပြီး လက်ရှိ ဝတ္ထုပစ္စည်းတို့အား လွှတ်လွှတ်စွန့်ခြင်းကို ဒေယျဓမ္မဒါနကတာဝန်ယူရ၏။

အို– တက်လမ်းရှာ

သင်သည် ဒါနမှုတစ်ခုပြုရာတွင်

- ဝတ္ထုနောက် စေတနာပါပါ၏လော၊ (သို့မဟုတ်)
- ပစ္စည်းသာစွန့်လွှတ်၍ အစွဲကို စွန့်လွှတ်ခဲ့ပါ၏လော၊ (သို့မဟုတ်)

– ပစ္စည်းသာပေး၍ သဒ္ဓါကျွေးကော ဖြစ်ပါ၏လော။

မိမိပိုင်ပစ္စည်းတစ်ခုကို စွန့်လွှတ်လိုက်တိုင်း ပစ္စည်းလက်မှ လွှတ်သည်နှင့် စေတနာကလည်း ငါပိုင်ဟူသော အစွဲကို လက်လွှတ်မှသာ စွန့်လွှတ်မှုဟူသော စကားလုံး၏အဓိပ္ပါယ် ပြည့်စုံပေလိမ့်မည်။ ထိုသို့ ပစ္စည်းက လက်ထဲမှခုန်ချလျက်က တစ်ဖက်သို့ လိုက်ပါသွားသော်လည်း စေတနာက ငါပိုင်အထင်ကပ်လျက်က မိမိဘက်မှာသာ လက်ကျန်ထားချေသော်–

– မယားဆုံးသော်မှ ငါ့မယားကား ဆုံးပါးလိမ့်ဦးမည် မဟုတ်ချေပြီ။

– သားဆုံးသော်မှ ငါ့သားကား ဆုံးပါးလိမ့်ဦးမည် မဟုတ်ချေပြီ။

ထိုအဖြစ်အပျက်တို့သည် မြို့ဒေသ၌ လလည်အလွမ်း၊ နှစ်လည်အလွမ်း စသည်အားဖြင့် မိမိ၏ အသက်မဆုံးမချင်း သွားလေသူကား ပြန်လာနေဆဲပင်တည်း။ တောအရပ်ဒေသများ၌လည်း တစ်ရွာလုံးမှ သူ့အဖေဆုံးပါပြီ ပြောကြသော်လည်း အဖေရဲ့၊ အဖေရဲ့အော်ကာ ငိုကောင်းတုန်းပင် ဖြစ်ခဲ့၏။ တစ်နယ်လုံးမှပင် သူ့အဖေဆုံးသွားပြီ ပြောကြသော်လည်း ခမျာမှာကား တစ်လနှင့်မဆုံးသေး၊ တစ်နှစ်နှင့်လည်း မဆုံးသေးပင်တည်း။

ဤသည်မှာ ဒါနမှုတစ်ခု ပြုစဉ်တိုင်း ပြုစဉ်တိုင်း လက်လွှတ်ပစ္စည်းနောက် စေတနာ ပါရှိမသွားခြင်းကြောင့်ပင် ဖြစ်ချေ၏။ သို့ကြောင့် ရုပ်ပြတ်သော်လည်း စိတ်မပြတ်ပြီ။

အကြင်သူသည် ဒါနပြုရာ၌ ဝတ္ထုနောက် စေတနာလိုက်မသွားခဲ့မိချေပြီ။

ထိုသူသည် လောကဓံနှင့်တွေ့ရာ၌ ခိုင်ကြည်သော စိတ်ဓာတ်မွန်ကို မရနိုင်။ တစ်ဖန်လည်း ဒါနမှုပြုလေတိုင်း မိမိကဲ့သို့ တစ်ဖက်အလှူခံ ကောင်းစားစေလိုသော မှုစိတ်မထားရှိလေဘဲ ဝတ္ထုကို သူ့အား ပေးလျက်က စေတနာကား ကိုယ့်ဖို့မျှော်ပါမှုကား ထိုဒါနသည်လည်း စွန့်လွှတ်ခြင်း ဟူသော စကားလုံး၏ အဓိပ္ပါယ်ကို ပြီးပြည့်စုံအောင် မဖော်နိုင်သေးချေ။

ထိုသို့ပစ္စည်းကား သူ့လက်သို့ တွန်းပို့လိုက်ပြီး စေတနာမှာမူကား ကိုယ့်ဘက်သို့ ဆွဲယူထားမိချေသော်–

– သားမက်လက်ထဲ သမီးရောက်သော်မှ ငါ့သမီးကား ဆင်းသွားလိမ့်

မည် မဟုတ်ချေပြီ။

– ချွေးမလက် သား ဝက္ကွက်အပ်နှံပြီးသော်မှ ငါ့သားကား ဆင်းသွားလိမ့်မည် မဟုတ်ချေပြီ။

ထိုအဖြစ်အပျက်တို့ကား သင်သည်ပင် လွတ်ကောင်းမှ လွတ်ချေမည်။ တစ်ရွာလုံးက မည်သူ့ ယောကျ်ားလေးဟူ၍ အသိအမှတ်ပြုကြသော်လည်း သင်ကား ငါ့သားပင် ရှိချေသေးသည် မဟုတ်လော။ တစ်ရွာလုံးက မည်သူ့ မိန်းမလေး ပြောကြသော်လည်း သင်ကား ငါ့သမီးအဖြစ်မှ တစ်ဆစ်မျှ အလျှော့မပေး မဟုတ်လော။

ထိုအခါ မိမိသမီးကိုမှီ၍ သားမက် ချမ်းသာစေလိုသော စေတနာ ပါရန် ခဲယဉ်းလှတော့၏။ ငါ့သမီးခိုင်းစားဖို့ နွားတစ်ကောင် ဝယ်ပေးထားသည် ဟူသော အစွဲမှ ကျော်လွှန်နိုင်လိမ့်မည် မထင်။ သို့ကြောင့် သမီးက သားမက်ကိုနိုင်ရသော် ပျော်လို့မော်လို့။ အကယ်တိတိ သားမက်က သမီးကိုမျှား မယားနေစ ကြောင်သေမှ စိမ်ကိန်းကြီးအတိုင်း အကောင်အထည် ဖော်ပါမူကား အော်ထုတ်ရန်၊ ကလော်ထုတ်ရန် အဆင်သင့်ပင်တည်း။

ဤသည်မှာ ဒါနမှုတစ်ခု ပြုစဉ်တိုင်းပြုစဉ်တိုင်း လက်ခံသူသို့ လက်လွှတ်ပစ္စည်း ထည့်မိပြီးနောက် စေတနာ ပါရှိမသွားခြင်းကြောင့်ပင် ဖြစ်ချေ၏။ သို့ကြောင့် ရုပ်သာပေး၍ စေတနာကား မပေးကမ်းတော့ပြီ။ ပေးပြီးဖြစ်လျက် ဆွဲငင်အားမှ မကျော်နိုင်ပြီ။

အကြင်သူသည် ဒါနဝတ္ထုကို အလှူခံသို့ပေးအပ်ပြီး စေတနာကလည်း သုံးစေလိုမှု မပါရှိခဲ့။

ထိုသူသည် လှူပြီးနောက် ဒါနမြောက်ရန် မလွယ်ကူပြီ။

# စွန့်လွှတ်မှုဒုတိယ

တက်လမ်းရှာအပေါင်းတို့-

ထိုစွန့်လွှတ်မှုဒါနသည်

(၁) စွန့်စားမှုဒါနကတစ်မျိုး

(၂) စွန့်လွှတ်မှုဒါနကတစ်မျိုး

ဤသို့လျှင် နှစ်မျိုးနှစ်စား ခွဲခြားသင့်သေး၏။ ထိုတွင် စွန့်စားမှုဒါနကို ဝဋ္ဋနိဿိတ(ဝဋ်မျှော်)ဒါနဟု သုံးနှုန်းစေပြီး စွန့်လွှတ်မှုဒါနကိုကား ဝိဝဋ္ဋနိဿိတ (ဝဋ်ထွက်)ဒါနဟု သုံးနှုန်းချေ၏။

စွန့်စားမှုဒါနသည် ငါကောင်းစားရေးသို့ ငဲ့၏။ စွန့်လွှတ်မှုဒါနသည်ကား သူတစ်ပါးကောင်းစားရေးသို့သာ ငဲ့၏။

ယခင်က မလှူမိ၍ ယခုမရှိ၊ ယခုလှူသော် နောင်ရှိအံ့ဟူသော စကားသည် မရောက်သေးသောအားကို ရင်ကော့ခံနေသော ဝဋ်မျှော်ဒါနပင် ဖြစ်ချေ၏။

တံငါသည်သည် ငါးမျှားချိတ်ဝယ် ငါးကလေးများတပ်ဆင်၍ ရေအိုင်၊ ကန်၊ မြစ် ငါးတို့ပျော်ရာဒေသတို့၌ စွန့်ချလေ၏။ ထိုစွန့်ချမှုသည် ထို အိုင်ကန်၊ မြစ်တို့ရှိ ငါးတို့စားသုံးရန် စေတနာကား မပါပြီ။ ငါးကြီးကြီး လိုချင်သဖြင့် ငါးကလေးတို့ဖြင့် မျှားယူနေခြင်းမျှသာ။ ငါစားရရန် သူစားပေးဝေနေခြင်းမျှသာ။ သည့်အတူ မိမိ ကောင်းစားရေးအတွက် အမျှော်ဖြင့် လှူသောဒါနသည်လည်း စင်စစ် စွန့်လွှတ်မှုဟူသော စကား၏ အဓိပ္ပါယ်နှင့်လည်း မကိုက်မိ။ တစ်ဖက်သား ကောင်းစားစေလိုသောစေတနာလည်း မပါရှိပြီ။ မိမိကောင်းစားရေးသို့သာ ရှေ့ရှု ထားသော စွန့်လွှတ်မှုမျိုးသာ ဖြစ်သဖြင့် အမျှော်လှူဒါနသာ ဖြစ်ဘိ၏။ စွန့်ပြီးနောက် စားလိုသော စေတနာဆိုးတို့ ကြီးစိုးလေသောကြောင့် စွန့်စားမှု ဒါနမျိုးသာ ဖြစ်ချေဘိ၏။

ထိုဒါနမျိုးသည် ငါ၌ ငြိကပ်နေသော တဏှာ၊ ဝတ္ထုပစ္စည်းတို့၌ ငြိကပ်နေသော တဏှာ၊ အလှူခံပုဂ္ဂိုလ်တို့၌ ငြိကပ်နေသောတဏှာ။ ထိုတဏှာကို လက်ရင်း၊

တင်းလင်းကြီး ပါရှိလေသောကြောင့် ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့၌ အထင်ကြီးမှု၊ မြတ်နိုးမှု၊ မာန ဟူသော လက်စွဲတဏှာ။ ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့၌ အပိုင်ထင်မှု ဒိဋ္ဌိဟူသော လက်စွဲတဏှာသုံးမျိုးတို့မှလည်း မလွတ်ကင်းတတ်ပြီ။

ထိုဒါနမျိုး၌ အမျှော်သည် လည်းကောင်း၊ အပျော်သည် လည်းကောင်း၊ မတော်သည်လည်းကောင်း အမြဲကပ်လျက် ပါရှိချေရာ ဘယ်လက်ကဝတ္ထု လွှတ်လျက်က ညာလက်က ရရန်သို့သာ ကြိုဆို ငံ့လင့်နေတတ်ချေ၏။ ဘယ်လက်က လွှတ်လွှတ်စွန့်ချလျက်က ညာလက်က ဆုတ်ကိုင်လျက်သားလည်း ဖြစ်နေတတ်၏။

- ထိုအလှူမျိုးသည် အမျှော်လှူသက်သက်ချည်းသာတည်း။
- ထိုအလှူမျိုးသည် အပျော်လှူသက်သက်ချည်းသာတည်း။
- ထိုအလှူမျိုးသည် မတော်လှူသက်သက်ချည်းသာတည်း။

သို့ကြောင့် ဦးဘောဂသည် သောင်းချီ၊ သိန်းဆိုက်စေသော ဒါနပွဲကြီးကို အံ့ချီးဖွယ်ရာ လှူဒါန်းနေပါလျက်က (မိမိမြတ်နိုးသော) လက်တွင်းရှိ ဆေးလိပ်တို လေးအား အနီးပါးမှ လူအများက အလှူခံသော် မျက်နှာပျက်သွားခဲ့သည် မဟုတ် လော။ သောင်းချီသိန်းဆိုက်စေသော ဒါနပွဲကြီးမျိုးကို ရှေ့တိုး၍ လှူနေပါလျက် က နောက်မှနေ အလှူခံ သူတောင်းစားတစ်ယောက်က ငွေတစ်ကျပ်လောက်မျှ အလှူခံသော် လက်တွန့်သွားစေခဲ့သည် မဟုတ်ပါလော။

အို- တက်လမ်းရှာ-

စွန့်လွှတ်မှုဒါနသည်ကား ထိုစိတ်ထားနှင့် လားလားမျှ မပတ်သက်ပြီ။ ငါသို့ ငဲ့သောကြောင့် မျှော်လင့်ခြင်းမရှိ။ ဝတ္ထုကိုလည်း ဦးစားမပေးသောကြောင့် အပျော်လည်းကင်း၏။ ပုဂ္ဂိုလ်သို့လည်း စိတ်မရောက်သောကြောင့် မတော် အလှူမှလည်း လွတ်၏။

ထိုဒါနမျိုး လှူတတ်ရန်မှာ အနည်းဆုံး ဝိပဿနာဉာဏ်၏ အခြေခံလမ်းစ ဖြစ်သော ရုပ်နာမ်တို့၏ လှုပ်ရှားပုံတို့ကို ကွဲပြားစွာ သိသိနေခြင်း၊ ထိုရုပ်နှင့်နာမ် တို့၏ အပြန်အလှန် အပေးအယူလုပ်ကာ လှုပ်ရှားနေပါသည်ကို သိသိနေခြင်း လောက်ကို ကိုယ်ပိုင်သိရှိနှင့်ထားမှသာ လှူတတ်ပါ၏။

- ငါသည် ငါမဟုတ်ဟု အပိုင်သိသူ၌ ဒိဋ္ဌိမကပ်သာပြီ။

- ငါသည် သူမဟုတ်ဟု အပိုင်သိသူ၌ကား တဏှာမကပ်သာပြီ။

အကြင်သူသည် ရုပ်နှင့်နာမ်တို့၏ တခြားစီ အပြန်အလှန် အလုပ်လုပ်နေပုံကို ဉာဏ်မဝင်စားမိ။ ထိုသူသည် ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့သို့ ငြိကပ်မှုမှ မကင်းစေနိုင်ပြီ။

အကြင်သူသည်ကား မိမိရှိ ရုပ်နှင့်နာမ်တို့၏ တခြားစီ အပြန်အလှန် အလုပ်လုပ်နေကြပုံ၊ ခန္ဓာတွင်း သတိစိုက်၍ နှိုက်နှိုက်ချွတ်ချွတ် ကြည့်နေမိ၏။

ထိုသူသည်ကား ရုပ်၊ နာမ် နှစ်ပါးတို့၌ ငါဝင်မကပ်သာချေသဖြင့် ဒိဋ္ဌိမှ ကင်းရှင်း၏။ အလှူဝတ္ထုနှင့် အလှူခံပုဂ္ဂိုလ်တို့၌လည်း ငါ ဝင်မကပ်သာချေတော့သဖြင့် တဏှာမှလည်း ပြတ်ရချေတော့၏။

ထိုအလှူမျိုးသည်သာ လှည်းစီးရင်း ပဲလှော်ဝါးရသည့်ပမာ စင်ကြယ် မြင့်မြတ်သော ဒါနအကျိုးတို့ကို တိုး၍ခံ၊ စံလျက်က ဝဋ်မှလွတ်မြောက်ခွင့်ရချေ၏။

သို့ကြောင့် သင်သည် အသိဉာဏ်မပါသော မိရိုးဖလာအလှူမျိုးမှ ကြဉ်ရှောင်၍ အသိဉာဏ်ပါဝင်သော ကိုယ်ပိုင်အလှူဖြစ်ရန် ဝိပဿနာဉာဏ်များကိုလည်း လေ့လာတတ်မြောက်ထားရမည်သာ ဖြစ်ချေ၏။ ထိုသို့ တတ်မြောက်ထားသဖြင့် အရုံမှန်၊ စိတ်ထားမှန်တို့ဖြင့် လှူခွင့်ရသော် သံသရာ၌ အငြိအစွန်းမရှိ၊ စွန့်လွှတ်မှု၏ အရသာပြည့်ကို ခံစားခွင့်ရပြီး သံသရာမှ လွတ်လမ်းကိုလည်း တန်းမတ်စွာ သွားခွင့်သာချေ၏။

- လောကရှိ သူဌေး၊ ဆင်းရဲတို့သည် ဒါနမှု-မစင်ကြယ်ခဲ့ကြ၍၊
- လောကရှိ သူမွဲ၊ ချမ်းသာတို့သည် ဒါနမှု နည်းပါးခဲ့ကြ၍။

လူကား ပစ္စည်းရှိလူကုံထံ ဖြစ်ရပြီး၊ စိတ်မချမ်းသာမှု ခံရသူမှန်သမျှ ဒါနဝိသုဒ္ဓိ မဖြစ်သောကြောင့်ပင် ဖြစ်ချေ၏။ ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့၌ အာရုံမှန်၊ စိတ်မှန် မသွင်းထားတတ်မှု မှန်သမျှသည်လည်း ဒါနဝိသုဒ္ဓိ မဖြစ်ခြင်း၏ ပင်မဟူ၍ သိထားသင့်၏။ လူဆင်းရဲတို့ သီချင်းအော်ဟစ်ဆိုနေချိန်၊ လူချမ်းသာတို့ တိုက်ကြီးပေါ်၏ ပန်ကာအောက်တွင် ချွေးပြန်နေချိန် ဖြစ်၏။ လူဆင်းရဲကား အချိန်မတော်လည်း သွား၏။ အိမ်မှာနေသော်မှ အိမ်တံခါးပိတ်၍ မအိပ်တတ်။ လူချမ်းသာဆိုသူတို့ကား နေဝင်လျှင် အိမ်ပြင် မထွက်ဝံ့တော့ပြီ။ အိမ်တံခါး မဆိုထားဘိ၊ ခြံတံခါးကြီးကိုပင် မဖွင့်ရဲချေပြီ။

# စွန့်လွှတ်မှု တတိယ

တက်လမ်းရှာအပေါင်းတို့-

ထိုစွန့်လွှတ်မှုဒါနသည်-

(၁) အသိဉာဏ်အဆံ ပါသော စွန့်လွှတ်နည်းက တစ်မျိုး

(၂) အသိဉာဏ်အဆံ မပါသော စွန့်လွှတ်နည်းက တစ်မျိုး

ဤသို့လည်း နှစ်မျိုးနှစ်စား ခွဲခြားသင့်သေး၏။ ထိုနှစ်ပါးတို့ကိုကား- ဉာဏ်ယှဉ်ဒါန (ဉာဏသမ္ပယုတ္တဒါန)၊ ဉာဏ်ကားဒါန (ဉာဏဝိပ္ပယုတ္တဒါန) ဟူ၍ မှတ်သားထားသင့်၏။

မိမိ စွန့်လွှတ်တော့မည့် ဝတ္ထုပစ္စည်းကား ရုတ်တရက် ဉာဏ်မဝင်ဆံ့သာသော ခိုင်မာပစ္စည်းဖြစ်နေခဲ့သော် ဦးစွာ မိမိကိုယ်တွင်းသို့ သတိစိုက်၍ အသိဉာဏ်လိုက်ထားရချေ၏။ ထိုသတိ၏ စူးစိုက်အားကြီးသည် ခန္ဓာ၏ တစ်ခုတည်းသောနေရာသို့လည်း စိုက်ကျနေမည်။ ခန္ဓာ၏ လှုပ်ရှားမှုကြီးကိုလည်း အပေါ်စီးမှ ရှုခွင့်သာစေမည် ဆိုပါက-

- ဝင်လေထွက်လေတို့၏ ဘယ်ပြန်ညာပြန် ထိုးနှက်မှုကြောင့် စိစိညက်ညက် ကြေမွသွားသော ရုပ်စဉ်၊ နာမ်စင်တို့ ဖြစ်အင်၊
- ခန္ဓာတွင်းရှိ ဓာတ်လေးစင်းတို့၏ အချင်းချင်းသတ်ဖြတ်မှုကြောင့် စိစိညက်ညက် ကြေမွသွားသော ရုပ်စဉ်၊ နာမ်စဉ်တို့၏ ဖြစ်အင်။

ထိုနှစ်ချက်ကို ကွက်ကွက်ကွင်းကွင်း အမြင်ရှင်းစွာ သိသိလာချေသော် ပထမ အဝင်မှ ရုပ်၊ နာမ်နှစ်ပါးတို့သည် ထိုပထမအထွက်သို့ထိ ပါမသွားသည်ကိုလည်းကောင်း၊ ပထမအထွက်မှ ရုပ်နာမ်နှစ်ပါးတို့သည်လည်း ဒုတိယအဝင်သို့ ပြန်ပါမလာသည်ကိုလည်းကောင်း၊ တစ်ဖန် ပထမအဝင်၌ပင် ဝင်စမှ ရုပ်၊ နာမ်နှစ်ပါးတို့သည် အလယ်ခရီးစဉ်အထိ ပါမသွား။ အလယ်ခရီးစဉ်မှ ရုပ်၊ နာမ်နှစ်ပါးသည်လည်း အဆုံးခရီးစဉ်သို့ ပါမသွား။ ထိုအဆုံးမှ ရုပ်၊ နာမ်တို့သည်လည်း ပထမ၏ အထွက်စအထိ ပါမလာသည်တို့အထိ အသေးစိတ် သိခွင့်ရချေတော့၏။

ထိုအခါ မြဲသလား၊ မမြဲလေသလား စဉ်းစားစရာပင် မလိုချေပြီ။ ဖြစ်သလောက် ပျက်၍၊ ဖျက်သလောက် ပျက်နေသည်တို့ကိုသာ တွေ့ရဖန်များသဖြင့် ကောင်းသလား၊ ဆိုးသလား မေးစရာပင် မလိုချေပြီ။ နေပျောက်ကို လိုက်လံကောက်နေရသည်သို့သာ သိရသဖြင့်လည်း ပိုင်သလား၊ မပိုင်လေသလား တွေးတောစရာပင် မလိုချေပြီ။ ပိန္နဲသီး၏ သူ့အတွင်း ဖြစ်ပျက်နေသော မှည့်၊ မမှည့်တို့ကို အပေါ်ယံကို လက်ဖြင့် ပုတ်ကြည့်ရုံမျှဖြင့် ထိုမှည့်၊ မမှည့်၏ လက္ခဏာကို အတွင်းထိုးဖောက်ကာ မြင်သိရဘိသို့ မိမိခန္ဓာ၏ အနိစ္စလက္ခဏာ၊ ဒုက္ခလက္ခဏာ၊ အနတ္တလက္ခဏာများကိုလည်း ခန္ဓာအရှိ သတိစိုက်ကြည့်ရုံမျှဖြင့် သိရှိနိုင်ချေ၏။

– ကိုယ့်အကြောင်းသည် သူ့အကြောင်းနှင့် ဘာမျှမထူး။

– သူ့အကြောင်းသည်လည်း ကိုယ့်အကြောင်းနှင့် ဘာမျှမထူး။

အဘယ်ကြောင့်ဆိုသော် တစ်ခုတည်းသော ဓာတ်လေးပါးတို့၏ လောကတွင်း အတူလျှင်နေကြရလေသောကြောင့်တည်း။

သို့ကြောင့် မိမိခန္ဓာ၏ ဖြစ်ပျက်မှုမှ တစ်ဆင့် ဖြစ်ပုံပျက်ပုံ ဟူသော လက္ခဏာစုံတို့ကို တွေ့မြင်ရသောအခါ သက်မဲ့အလှူဝတ္ထု၏အပေါ်၌လည်းကောင်း၊ သက်ရှိ အလှူခံပုဂ္ဂိုလ်၏အပေါ်၌ လည်းကောင်း မှန်ကန်သော သုံးသပ်ချက်ကို ပေးနိုင်ပြီးသားပင် ဖြစ်ချေတော့၏။

ဤသို့ ဉာဏ်ဝင်စားလျက်က လှူတတ်ရန်မှာ ဝိပဿနာဉာဏ်၏ သမ္မာသနမှ ဥဒယဗ္ဗယသို့တိုင် ပေါက်မြောက်စွာ လေ့ကျင့်ထားပါမှသာ စွမ်းဆောင်နိုင်ရာ၏။ ထိုဉာဏ်တို့သည် လက္ခဏာနှင့် ဖြစ်ပျက်တို့ကို အပီပြင်ဆုံး ပြသပေးနေကြသော ဆရာများ ဖြစ်ကြခြင်းကြောင့်ပင် ဖြစ်ချေ၏။

ထိုသို့သော ဉာဏ်ရှင်၏ အလှူမျိုး၌ စွန့်လွှတ်မှုဟူသော စကားလုံး၏ အဓိပ္ပါယ်သည် အတော်ပင် ပီပြင်လာပြီ ဖြစ်ချေတော့၏။ မိမိခံတွင်းဝမှ ထွေးအံချလိုက်သော တံတွေးနှင့် ချွဲခန်းသလိပ်များကို တစ်ဖန် လက်ဖြင့်ခံယူကာ မစားသောက်သူနှင့် တူချေတော့၏။ မသိသူများက စွန့်ချထားသော စုပုံပစ္စည်းများကို ကြည့်လျက်က တအံ့တသြဖြင့် အလှူရှင်ဘယ်သူပါလဲ မေးသော်မှ ငါပါ ဟူသော စကားတစ်ခွန်းကို ပြောရဲရန် အတော်အားယူရမည်ထင်၏။

ထိုအလှူသည် ဆန်အလှူတော် ဆိုပါအံ့။ ထိုဆန်၏ အရင်းအမြစ်ဖြစ်သော လယ်သမားကြီးက စိုက်ပျိုးစဉ်ကပင် လှူမည်၊ တန်းမည်၊ ပေးမည်၊ ကမ်းမည် အဓိဋ္ဌာန်ဖြင့် စိုက်ကြဲထားသောဆန် ဖြစ်နေခဲ့သော်–

တစ်ဖန် ထိုလယ်သမားကြီးမှပင် ကောင်းရောင်းကောင်းဝယ်ဖြင့် ဝယ်ယူလာသော ဆန်ပွဲစားကြီးကလည်းပဲ အင်း– ငါ့လက်ဝယ်ရှိဆန်သည် မြို့ပေါ်ရှိ လှူလိုသူတို့လက်ဝယ်သို့ရောက်၍ လှူလိုက လှူကြပါစေ။ မင်္ဂလာဆွမ်း၊ သဒ္ဓါဆွမ်း၊ မသာဆွမ်းကအစ ခန်းချ အသုံးအဆောင်အဖြစ် ကျွေးလိုက ကျွေးကြပါစေ။ မိမိနှင့် မိမိမယား၊ သမီးသားများကိုသော်မှ မွေးလိုကမွေး၊ ကျွေးလိုက ကျွေးကြပါစေ ဖြင့် ကျူးသန်းခဲ့ချေသော်–

တစ်ဖန် ဆန်ကုန်သည်ကြီးများကလည်းပဲ ထိုပွဲစားကြီးထံမှပင် တစ်ဆင့်ဖောက်ကားခဲ့ပြီး အင်း– ငါ့ဆိုင်မှဆန်များကို အကြောင်းပြု၍ အလှူအောင်ပွဲကြီးများ ကျင်းပလိုက ကျင်းပကြပါစေ။ မင်္ဂလာအောင်ပွဲမှသည် ကင်ပွန်းတပ်၊ ပုခက်တင်၊ ခေါင်းဆေး စသည့် မင်္ဂလာသို့အထိ ကျင်းပလိုက ကျင်းပကြပါစေဟူ၍ ရည်ရွယ်ရင်းဖြင့် ရောင်းချခဲ့သော်–

ယခုလှူနေသော ဦးဘောဂကြီးသည်လည်း ထိုဆန်ကုန်သည်ကြီး၏ ဆိုင်မှပင် လိုသလောက်ဆန်၊ တောင်းသလောက်ဈေးဖြင့် ကြေးပေး၍ ဝယ်ယူကာ လှူဒါန်းနေသော်–

အလှူရှင်သည် ･မည်သူ ဖြစ်ပါသနည်း။

အို– တက်လမ်းရှာ

ဉာဏ်ကင်းသော ဒါနသည်ကား ထိုနှင့် ဆန့်ကျင်ဘက်ဟူ၍ မှတ်ထားလေဦး။ အပျက်ကို မမြင်သဖြင့် ဖြစ်ရန်သို့သာ အားထား၍ လှူလေ့ရှိတတ်၏။ အဖြစ်ကိုသော်မှ မမြင်သဖြင့် မိမိတို့ဘာသာ၊ မိမိတို့လူမျိုး၊ မိမိတို့ဒေသ၏ ထုံးသို့လိုက်ကာ လှူဒါန်းလေ့ ရှိ၏။ သို့ကြောင့် ကုသိုလ်၏ အထောက်ပံ့အကြောင်းခံများ ဖြစ်ကြသော တဏှာကို ခွာနှုတ်ထားခြင်း၊ အလိုမကျမှုကို ပယ်စွန့်ထားခြင်း၊ ပျံ့မှုနှင့် ဇဝေဇဝါကို မှုတ်လွှင့်ထားခြင်းမျိုး မရှိပြီ။

– သို့ကြောင့် အများက မြှောက်ပင့်လျှင် မြှောက်သလောက် မြှောက်
တက်နေတတ်၏။
– အများက ချလျှင်လည်း ချသလောက်ပင် အထိနာနေတတ်၏။
– အများက အမှားကို အတည်ပေါက်ဖြင့်ပြောလျှင်လည်း ပြောသလောက်
ပင် ယုံထင်ကြောင်ထင် ထင်တတ်လှချေ၏။

ထိုအခါ မိမိ၏ အာရုံပြုစိတ်စေတနာတို့သည် ဘောလုံးသမား၏ ခြေခွင်ထဲရှိ
ဘောလုံးတစ်လုံးကဲ့သို့ လည်းကောင်း၊ ဆန်ရွေးသူမ၏ စကောထဲရှိ ဆန်စေ့၊
ပဲစေ့များကဲ့သို့ လည်းကောင်း လိမ့်သလောက်လိမ့်၍ ခါသလောက် ကျကြရချေပြီ။

တစ်ခါက အညာသားတစ်ဦး ရန်ကုန်တစ်ဖက်ကမ်း၌ အခြေကျကာ ကြီးပွား
လာသည်ဆို၏။ လယ်တောကြီးပေါင်းများစွာဖြင့် ဇနီးချော၊ သမီးလှ၊ သားအရွယ်ရ
တို့ကို လူ၊ နွားများ ငှားရမ်းကာ လုပ်ကျွေးနိုင်သည်အထိ တိုးတက်လာချေ၏။

တစ်နေ့ လယ်များကလည်းပဲ အခြေအနေကောင်း၊ သားများကလည်း ရှင်
လောင်းအရွယ်သို့ ရောက်လာပြီဖြစ်၍ ဇနီးသည်နှင့် ဦးစွာတိုင်ပင်၏။ ထို့နောက်
လက်ရှိ သားသမီးများနှင့်လည်း တိုင်ပင်ချေ၏။ ဤအစဉ်လာသည် ကောင်းသော
အစဉ်လာပင် ဖြစ်ချေ၏။

လင်တစ်ဦး၏ သဘောဆန္ဒအလျောက် စွန့်လွှတ်သော် သားသမီးနှင့် ဇနီး
တို့ မကျေချမ်းပါက လင်မှာ ကုသိုလ်တစ်ကျပ်သားရ၍ မယားနှင့် သားသမီးတို့
မှာကား အကုသိုလ်တစ်ကျပ်သားစီ ရတတ်ချေ၏။

အကယ်တိတိ မယားတစ်ဦးတည်းက ငါတကောကောပြန်လျှင်လည်း ထို
မယားသာ ကုသိုလ်တစ်ကျပ်သားပြည့် ရရှိတတ်ပြီး ကျန်လင်သားနှင့် သားသမီး
များမှာမူကား အကုသိုလ်တစ်ကျပ်သားစီ ကိုယ်စီကိုယ်ငှ ရတတ်ကြ၏။

ထိုအခါ အကျိုးပေးရာ၌ အကျိုးတူ မခံစားရတော့ပြီ။

အကယ်တိတိ အကျိုးတူ ခံစားလိုကြပါလျှင် အတိတ်ဘဝက အကြောင်းတူ
ခဲ့ကြသဖြင့် ယခုဘဝ ရရှိခံစားရသော အကျိုးတူ ထိုပစ္စည်းတို့ကို မျိုးစေ့တစ်ဖန်
ချပြန်လိုလျှင်–

– ဝတ္ထုချင်းကလည်း အတူဖြစ်ပါမှ၊
– စေတနာချင်းကလည်း တူပါမှ။

ဤနှစ်ချက်ဖြင့် ပြည့်စုံမှသာ နောင်အကျိုးတူ ခံစားခွင့်ရစေ၏။ ဘဝချင်း ဆုံတွေ့ပါရစေဟူ၍ ဆုတောင်းရန်ပင်မလိုပြီ။ သို့ကြောင့် ဝတ္တုတူပြီး စေတနာလည်း တူညီကြစေရန် မလှူမီက မိမိဇနီး၊ သားသမီးတို့ စိတ်လက်ကြည်သာချိန်ကို စောင့်ဆိုင်းကာ ဆန္ဒတောင်းခံရချေသေး၏။ ဆန္ဒတူရပြီးသော် သီလဖြူစင်မှုကို ရယူရာ၏။ သီလဖြူစင်ပြီးသော် ကိုယ်ထိလက်ရောက် လှူဒါန်းမှုကိုလည်း ပြုကျင့်ရာ၏။

သို့ကြောင့် အထက်ပါ တိုင်ပင်မှုသည် ကောင်းသောအစဉ်လာဟူ၍ ငါတို့ ဆိုခဲ့ပါ၏။ ထိုသို့ မိသားစုနှင့် ဆန္ဒတူညီမှု ရပြီးသောအခါ ရွာဦးကျောင်းသို့ သွားရောက်ကာ မိမိတို့ ဆရာတော်အား လျှောက်ထားရာ ဝမ်းမြောက်စွာ သာဓု ခေါ်ချေ၏။ ထို့နောက် 'ဒကာကြီးအလှူက တကယ့်အလှူကြီးဗျ။ ဒကာကြီးနာမည်နှင့် လိုက်ဖက်ပါပေတယ်။ သို့သော်လည်း ထိုနာမည် ဘယ်တော့မှ တိမ်ကော မသွားရလေအောင် ကြေးသွန်းဘုရားကြီးတစ်ဆူလောက်တော့ ကမ္ဗည်းထိုးနှင့် မဏ္ဍလေးမှ ပင့်ဆောင်ရမည်။ နယ်ကုန်သံဃာ ပင့်ရမည်။ တစ်ပါးတစ်ပါးလျှင် ဗန္ဓုလသက်နှ်း (၁) နံပါတ်တစ်စုံစီ လှူရမည်'ဟူ၍ အမိန့်ရှိရာ ထိုမိန့်သည့်အတိုင်း ကတိခံ၍ အိမ်သို့ ပြန်လာခဲ့ချေ၏။

ညနေတွင်ကား ရွာထဲရှိ လူကြီးများကို ဖိတ်ကြား၍ တိုင်ပင်ပြန်ချေ၏။ ထိုလူကြီးများကလည်း လှူမတဲ့ဆိုသဖြင့် အားလုံးကပင် ကောင်းချီးကိုသာ ပေးကြချေ၏။ သို့သော်လည်းတဲ့ မင်းနာမည်နှင့်လိုက်အောင် ကျွေးမွေးတဲ့အခါ တော်စွ၊ လျော်စွတော့ မလုပ်နဲ့ဟေ့။ ဝက်သားကြော်နဲ့တော့ ကျွေးရမကွာ၊ အရေးဆို၏။ ထိုဆိုသည့်အတိုင်းပင် လူကြီးများနှင့်ကား အစားဖြင့် ဈေးတည့်သွားကြချေ၏။

တစ်ဖန် နောက်တစ်ညနေတွင်ကား ရွာထဲရှိ ကာလသား၊ ကာလသမီးများကို ဖိတ်ကြားကာ တိုင်ပင်ရပြန်၏။ ထိုထိုကာလသားသမီးများကလည်း လှူတော့မတဲ့ ဆိုသဖြင့် အားလုံးကပင် ဝမ်းသာမဆုံး၊ တပြုံးပြုံးပင် ရှိကြချေ၏။ သို့သော်လည်းတဲ့ ဦးကြီးရဲ့ဂုဏ်နှင့် လိုက်ဖက်အောင် အလှူဆိုရင် ဇာတ်အဖွဲ့ပါမှ ဟူ၍ အရေးဆိုကြ၏။ ထိုဆိုသည့်အတိုင်း ယင်း ကာလသားသမီးများနှင့်ကား ပွဲဖြင့် ဈေးတည့်သွားချေ၏။

ဤသို့ဖြင့် လယ်တို့ ရိတ်သိမ်းပြီးသော တပို့တွဲ၊ တပေါင်းတွင်ကား အလှူပွဲတော်ကြီး စတင်ချေတော့၏။ မန္တလေးသို့သွားကာ ဘဏ်တော်သုံးတောင်မျှရှိသော ကြေးသွန်းဘုရားကြီးကိုလည်း အလှူဒါယကာ၊ ဒါယိကာမတို့မိသားစု ကမ္ဗည်းထိုး၍လည်းကောင်း၊ အကောင်းဆုံးသော ဗန္ဓုလပေါပလင်သကၠန်းစုံများနှင့် ပရိက္ခရာစုံများကို လည်းကောင်း သင်္ဘောစင်းလုံးငှားကာ စုန်ဆင်းလာခဲ့ချေ၏။ ရွာသို့ရောက်သော် ကမ်းလုံးညွှတ်မျှ အတီး၊ အမှုတ်၊ အက၊ အခုန်များတို့ဖြင့် အလှူပွဲကျင်းပရာ လယ်တောကွင်းပြင်ရှိ မဏ္ဍပ်ကွင်းသို့တိုင်အောင် ပင့်ဆောင်ကြဆို၏။

ညှော့ခံကျွေးမွေးများကား လိုလေသေးမရှိချေ။ လိုသလောက်ကို ရန်ကုန်၏ တရုတ်ကုန်စုံဆိုင်ကြီးမှ သွားယူရန်၊ ထိုတရုတ်ဈေးသည်ကြီးများကလည်း စာရင်းမှတ်၍ စိတ်ချစွာပေးလိုက်ပါရန် အပြီးမှာထားပြီး ဖြစ်ခဲ့၏။

ဤသို့ဖြင့် အလှူပွဲကြီး စတင်ပါပြီ။

စည်ကားလှသည်မှာ မြေကြီးပင် ခွက်ဝင်ခမန်း၊ ချီးမွမ်းကြသည်မှာလည်း နားပင် အလျှံ။ ထိုစဉ်က အလှူ့ဒကာ၊ အလှူ့အစ်မတို့၏ စိတ်သည် ပျော်လည်းပျော်၏၊ မော်လည်းမော်၏။ ဤမျှ စည်ကားခမ်းနားသော မြင်ကွင်းကြီးကို မျက်စိတဆုံး မေ့မေ့ကြီး ကြည့်နေမိ၍ မောလည်းမော၊ ကောလည်းကော၏။ ထိုမြင်ကွင်းထဲ၌ အမြင်မတော်သော ကိစ္စရပ်များ အတောမသတ် တွေ့ကြုံရင်ဆိုင်နေရ၏။

ပျံ့လည်းပျံ့၏၊ လန့်လည်းလန့်၏။ မြင်ကွင်းစုံ အကုန်ထောင့်စေ့အောင် ပါဝင်နေရပြီး ပေးသည်ထက် ယူသည့်ဘက်က ပိုမိုများပြား‌နေ၍ နုံးလည်း နုံး၏၊ ချုံးလည်းချုံး၏။ ဝန်နှင့်အား၊ မြားနှင့်လေး မမျှမတ ရှန်းကန်နေရသဖြင့် ကိုယ်စိတ်နှစ်ပါး ပင်ပန်းနွမ်းနယ်လှ၍...။

အလှူပွဲကြီးကား အောင်မြင်စွာ ပြီးစီးသွားချေပြီ။

ရေစက်ချ အမျှပေးဝေပြီး၍ နောက်ရက်များ စာရင်းရှင်းသောအခါ တင်ကျန်နေသောကြွေးကား နောင်နှစ် မိုးကောင်းလှ၍ လယ်တောစုံ အကုန်ထွက်ရှိသော စပါးထွက်နှုန်းများ အကုန်ရောင်းချ၍ ချေသော်မှ အကြွေးတစ်ဝက်မျှ ကျေမည်ဆို၏။

အလှူ့ဒကာကား အိမ်ရှေ့ကြမ်းပြင်ဝယ် ထရံမှီလျက်က ခါးအထက် အဝတ် မကပ်နိုင်တော့ချေပြီ။

အလှူ့အစ်မကား အိမ်နောက်ခန်းဝယ် ထရံကြောပေး လဲလျောင်းလျက်က ကွေးကွေးလေး မှေးနေသည်မှာ ပြင်ပအသံ ဘာသံမျှ မကြားတော့ပြီ။

ကြေးသွန်းဘုရားကြီးကား လယ်ကွင်းရှိ မဏ္ဍပ်ပျက်ကြီးထဲဝယ် တစ်ပါးတည်း ငုတ်တုတ်သီတင်းသုံးလျက်က ဝေယျာဝစ္စပြုလိုသူ ကင်းရှင်းနေချေပြီ။

ဤသို့ဖြင့် နောက်တစ်နှစ် လယ်လုပ်ငန်းများစတင်ရန် မိုးတို့သည် ရွာသွန်း လာကြလေကုန်၏။ အခြား လယ်သမားတို့သည်လည်းကောင်း၊ မိမိလူငှားတို့သည် လည်းကောင်း ထွန်ရေးလည်း စကြလေကုန်၏။ သို့ကြောင့် ရွာရှိ လူကြီးတို့သည် လယ်ကွင်းထဲရှိ ကြေးဘုရားကြီးအရေး တွေးတောကြကာ သောကရောက်ကြရလေ ကုန်၏။ အလှူ့ဒကာ၊ အလှူ့အမတို့ ကြည့်ပြန်တော့လည်း အလှူပွဲ၏ ပျော်၊ မော၊ ပျံ့၊ နုံး၊ ပစ္စည်းဆုံးမှုများကြောင့် မပြောသာမဆိုသာ ရှိကြချေ၏။ ရွာဦးဆရာတော် သည်လည်း စကားတော် မသွက်၊ ပြောမထွက် ရှိချေ၏။

သို့တစေလည်း ကြေးဘုရားကြီး၏ ကံကြမ္မာတော် နလံထူနိုင်စေရန် ရွာ လူကြီးတို့သည် အရဲစွန့်ကာ အလှူ့ဒကာအိမ်သို့ စုဝေးရောက်ရှိလာကြပြီး–

'မောင်ရင်ရေ၊ သည်လိုနေလို့တော့ ဖြစ်ပေသေးဘူးကွာ။ မိုးကလည်းပဲ အားကြီးလာပြီ။ ကြေးဘုရားကြီးကို အကျဉ်းရုံးပြီးတော့ ကျောင်းအရောက်တော့ ပို့ဦးမှဖြစ်မကွဲ့.' ဟူ၍ စကားဆိုကြလေရာ အလှူ့ဒကာထံမှ ခွန်းတုံ့စကား တစ်လုံး တည်းသာ ကြားရဆို၏။ ထိုစကားသည်ကား 'တော်စမ်းပါဗျာ။ သည် ကြေးဘုရား ကြီးမျက်နှာ ကြည့်ကို မကြည့်ချင်တော့ဘူး' ဟူ၏။

## စွန့်လွှတ်မှု စတုတ္ထ

တက်လမ်းရှာအပေါင်းတို့–

ထိုစွန့်လွှတ်မှုဒါနသည်

(၁) မိမိစေတနာအလျောက် စွန့်လွှတ်ခြင်းက တစ်မျိုး၊

(၂) သူတစ်ပါးလှူ့ဆော်ပေးမှ စွန့်လွှတ်ခြင်းက တစ်မျိုး။

ဤသို့လည်း နှစ်မျိုးနှစ်စား ခွဲခြားသိသင့်သေး၏။ ၎င်းကိုကား အသင်္ခါရိကဒါနနှင့် သသင်္ခါရိကဒါနဟူ၍ မှတ်သားထားသင့်၏။

မိမိဆန္ဒအတိုင်း အလိုအလျောက် စွန့်လွှတ်တတ်သူသည်–

- ပင်ကိုယ်စေတနာ ထက်သန်လွန်းသူလည်း ဖြစ်မည်။
- သူတစ်ပါးဂုဏ်တို့၌ ပုံ၍ ယုံကြည်မိသူလည်း ဖြစ်မည်။
- တရားသဘောကို ပေါလောသိပြီးနေသူလည်း ဖြစ်မည်။

ထိုသုံးချက်တို့နှင့် ပြည့်စုံသောသူသည် ဘယ်သောအခါမျှ လက်မတား၊ အဘယ်ပစ္စည်းကိုမှလည်း ချန်မထား၊ အဘယ်ပုဂ္ဂိုလ်ကိုမှလည်း မဟန့်တားတတ်ပြီ။

ပင်ကိုယ်စေတနာထက်သူသည် မိမိစေတနာအလျောက် စွန့်လွှတ်သော်မှ အချိန်အခါနှင့်ပစ္စည်း၊ ပုဂ္ဂိုလ်တို့ကို ရွေးချယ်နေတတ်သဖြင့် လက်နှေးတတ်ချေသေး၏။

သူ့ဂုဏ်သို့ပုံ၊ ယုံသူသည်လည်း ကိုယ်ယုံကြည်ရာမျှလောက်ကိုသာ ကွက်ကျား‌မိုး ရွာသွန်းတတ်ချေ၏။

ထိုအလှူမျိုးလှူတတ်ရန်မှာ ဝိပဿနာဉာဏ်၏ ဘင်္ဂဉာဏ် (အရာရာ ပျက်စီးနေသည်ကိုသာ တွေ့ရသောအမြင်)၊ ဘယဉာဏ် (အရာရာတိုင်း အချင်းချင်း ဖျက်ဆီးနေသည်ကိုသာ တွေ့ရတော့သဖြင့် ကြောက်လန့်သောအမြင်)၊ ထိုဉာဏ်များမှစ၍ ပဋိသင်္ခါဉာဏ် (အရာရာတိုင်း အနိစ္စသဘော၊ ဒုက္ခသဘော၊ အနတ္တသဘောချည်းကိုသာ ထပ်ချည်းတလဲ တွေ့နေရသောအမြင်) အထိ ပေါက်မြောက်စွာ လေ့ကျင့်ထားမှသာ စွမ်းဆောင်နိုင်ချေ၏။

ထိုသူ၏ အလှူမျိုးသည် စွန့်လွှတ်ခြင်းဟူသော စကားလုံးကို လှပစွာ အသုံးချနိုင်သည့်အဆင့်သို့ တက်လာပြီ ဖြစ်၏။ အစာကောင်းကို အထက်မှ သွင်းလျက်က အစာဟောင်း (အစာပုပ်)ကို အောက်မှ စွန့်ချထုတ်ပစ်သည်သို့သာ ရှိ၏။ ဆိုလိုသည်မှာ စွန့်လွှတ်မှု၏ တန်ပြန်အားကိုသာ ရယူပြီး လက်ရှိအပျက်ကို စွန့်ပစ်နေခြင်းပင် ဖြစ်၏။

ထိုအလှူသည် ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ် သုံးမျိုးလုံးတို့၌ နှစ်သက်ခြင်းကင်းသဖြင့် နမြောခြင်းမရှိ။ ပုဂ္ဂိုလ်၌ မှီကိန်း၍ဖြစ်၊ ပွင့်နေသောဂုဏ်သို့သာ ဦးတည်ထားသဖြင့်

တွန့်တိုခြင်းလည်း မရှိပြီ။ ထက်သန်နေသော စေတနာ နောက်ဆုတ်ခြင်း၊ ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့၌ နစ်ဝင်နေခြင်းမျိုးမှလည်း ကင်းစင်၏။ သို့ကြောင့် ဆုတ်နစ်မှုမရှိသော ထက်သန်မှု ဟူ၍ သုံးနှုန်းရချေ၏။ ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့အပေါ်ဝယ် အယုတ် ဟူ၍လည်းကောင်း၊ အလတ်ဟူ၍လည်းကောင်း၊ အမြတ်ဟူ၍လည်းကောင်း ခွဲခြားမှုမရှိတော့သဖြင့် အားလုံးကိုပင် ပျက်စုအမြင်အားဖြင့် တူညီနေသည်သာ ဖြစ်ချေတော့၏။

ထိုအလှူမျိုးသည်သာ အဆင့်မီသော အမြတ်စားကုသိုလ်မျိုး မည်ချေ၏။ သူတော်ကောင်း အလောင်းတော်တို့ ကျင့်သုံးကိုင်စွဲသော စွန့်လွှတ်မှုမျိုးလည်း ဖြစ်ချေ၏။

သုမနပန်းသည်၏ စိတ်ထားမျိုးသည် ဤ၌ သာဓက ကျန်ရစ်စေခဲ့၏။ သုမနဟူသည် ဘုရားလက်ထက်တော်ကာလတုန်းက ရာဇဂြိုဟ်မြို့တွင် ဗိမ္ဗိသာရ မင်းကြီး၏ ပန်းတော်ဆက်တည်း။ ၎င်းသည် တစ်နေ့လျှင် မြလေးပန်းရှစ်စလွယ် ဘုရင်အား ဆက်သရပြီး ဘုရင့်ထံမှ အသပြာရှစ်ကျပ် ရနေကျဖြစ်၏။

တစ်နေ့ ဘုရားရှင်ကလည်း ရောင်ခြည်တော်ခြောက်ချက် တစ်ခဲနက် တောက်ပလျက်ဖြင့် မြို့တော်တွင်းသို့ ဆွမ်းခံကြွအလာ၊ သုမနကလည်း ဘုရင့်ထံ ပန်းတော် ဆက်ရန် ပန်းခြင်းကြီးဖြင့်အလာ တစ်ခုသောနေရာတွင် ဆုံမိကြလေရာ ဘုရားရှင်အား ဖူးတွေ့လိုက်ရသည်နှင့်–

– ယနေ့ ဘုရင့်က ငါ့အား ပန်းမဆက်သဖြင့် သတ်လိုက သတ်ပါစေ၊

– သို့မဟုတ် ငါ့အား ထောင်သွင်းအကျဉ်းချလိုက ချပါစေ၊

ဤပန်းတို့ဖြင့် ဘုရား ပူဇော်မည်။ ဘုရင်ပေးသောရှစ်ကျပ်၊ နေ့စဉ် ထပ်၍ရခြင်းဖြင့် တစ်သက်တာသာ စားသုံးနိုင်သည်။ ဘုရားရှင်ပေးသော စွန့်လွှတ်မှု၏ တန်ပြန် အားကား ကမ္ဘာကုန်သော်မှ ကုန်အံ့မထင်။

ဤသို့ဆုံးဖြတ်၍ ဦးစွာ ပန်းနှစ်ဆုပ်ဖြင့် ဘုရားရှင်၏အထက်သို့ ပစ်ကြဲ လိုက်လေရာ ပန်းဆိုင်းများဖြစ်လာပြီး ဘုရားရှင်အား အထက်မှ မိုးပေးထားသော မျက်နှာကြက်ကဲ့သို့ တည်ချေ၏။ တစ်ဖန် ကျန်သောပန်းတို့ဖြင့် ဝဲယာပတ်လည် ပူဇော်လေရာ ပုဆိုးတို့ဖြင့် ကာရံထားဘိသို့ (ဘုရားရှင်မျက်နှာတော် ရှုသာရုံလောက်

အပေါက်ကလေးမှချန်ကာ) တည်နေသည်ဆို၏။

– ထိုပန်းတို့သည် ဘုရားရှင်ကြွသော် အတူလိုက်ပါကြပြီး၊

– ဘုရားရှင်ရပ်သော်ကား အတူပင် ရပ်တန့်သည်ဆို၏။

သုမနသည် မိမိလှူသောပန်းတို့၏ အခြင်းအရာကိုကြည့်လျက်က ပီတိတို့သည် ရိုးတွင်းခြင်ဆီမှပင် စိမ့်၍၊ သိမ့်၍ တက်စေသည်ဆို၏။

မြို့သူမြို့သားတို့သည်လည်း ထိုအလှူခံ၏ ထူးကဲခြင်း၊ အလှူပေး၏ထူးကဲခြင်း နှစ်ဖက်ဆုံမိရာမှ ပေါ်ထွန်းလာသော ပန်းတို့၏ တည်နေဟန်တို့ကို ကြည့်ကာကြည့်ကာ ပီတိများဖြစ်လာကြပြီး ရှေ့မှ သူ့ထက်ငါ ပုဆိုးတို့ဖြင့် ဖြန့်ခင်းလျက် ပူဇော်ကြခြင်း၊ ဆွမ်းခဲဘွယ်တို့ဖြင့် ပူဇော်ကြခြင်း စသည်ဖြင့် တစ်ဦး၏သဒ္ဓါအကြောင်းပြု၍ သဒ္ဓါပေါင်းများစွာ ပွင့်ပေါ်ကြသည်ဆို၏။

သုမနအိမ်ပြန်ရောက်၍ ထိုအခြင်းအရာကို ဇနီးသည်အားပြောပြရာ ဇနီးသည် ဘုရင့်စီးပွား၊ သူ့စီးပွား ထိပါးစေမည့်အလှူမျိုး လုပ်ခဲ့ရပါမို့လား ဆိုကာ ဆဲရေးတိုင်းထွာချေ၏။ ထို့နောက် ဘုရင့်ထံမှောက် အစစားဝင်ကာ အရှင်မင်းကြီး ဤကိစ္စသည် ကျွန်တော်မျိုးမနှင့် လုံးဝ မသက်ဆိုင်ပါ။ ကျွန်တော်မျိုးမသည် အခုပင် ထိုလင်နှင့် ကွာရှင်းခဲ့ပြီးဖြစ်ပါသဖြင့် ထိုလင်အား စွန့်ပယ်၍လာခဲ့ပါပြီ။ ဤသို့လျှင် ပြေးနှင့်ကာ သံတော်ဦးတင်ချေ၏။

သုမန ဘုရင့်ထံ အစစားဝင်ရောက်သောအခါတွင်မူကား ထက်လွန်းသော လက်ဦးစေတနာ၏ ချက်ချင်းအကျိုးပေးမြဲ ဓမ္မတာအား လျော်ညီစွာ သေဒဏ်၊ ထောင်ဒဏ်တို့အစား ဆင် (၈) စီး၊ မြင်း (၈) ကောင်၊ ကျွန်ယောကျ်ား (၈) ဦး၊ ကျွန်မိန်းမ (၈) ဦး၊ အမွှန်မြတ်ဆုံးဝတ်စုံ (၈) စုံ၊ အသပြာ (၈) ထောင်၊ တန်ဆာအပြည့်အစုံဆင်ယင်ပြီးသော အပျိုတော် (၈) ယောက်၊ ရွာကြီး (၈) ရွာ ဟူသော ရှစ်မျိုးပေါင်း ရှစ်ခုတို့ဖြင့် ဆုတော်များ ချမှတ်ပေးသနား မြှောက်စားချေတော့၏။ သုမန၏ သံသရာဝယ် ရရှိမည့်ဆုကား ဤစွန့်လွှတ်၏ တန်ပြန်အားကြောင့် (၉၁) ကမ္ဘာ အပါယ်လားခွင့်မရှိခြင်း၊ ပစ္စေကဗုဒ္ဓါအဖြစ်ဖြင့် နိဗ္ဗာန်ဝင်စံရခြင်း ဟူသည့် ဆုမြတ်ပေတည်း။

အို တက်လမ်းရှာ–

သူတစ်ပါးတိုက်တွန်းလေမှ ပြုသောဒါနမှုသည်ကား ၎င်းနှင့် ဆန့်ကျင်ဘက်ဟူ၍ ဦးစွာ မှတ်သားခဲ့စေချင်ပါ၏။

- သူတစ်ပါးတိုက်တွန်းမှလှူသော ဒါနတွင် သင့်စေတနာတစ်ဝက်သာ ရှိချေ၏။
- သင့်စေတနာ တစ်ဝက်သာ ရှိသောကြောင့်လည်း သူတစ်ပါး ဝင်၍ တိုက်တွန်းပေးရချေ၏။

စေတနာဟူသောစကားသည် စေ့ဆော်ခြင်း၊ တိုက်တွန်းခြင်း ဟူ၍ ဘာသာပြန်ဆိုရချေ၏။ မိမိစိတ်သို့ စေ့ဆော်တိုက်တွန်းပေးတတ်သော မိမိပိုင်စေတနာ မပါရှိသူအတွက် သူတစ်ပါး၏ စေတနာက ဝင်ရောက်တိုက်တွန်းခြင်းကို ခံရမည်သာ ဖြစ်ချေ၏။

- ဘာကြောင့် စေတနာမရှိသနည်းမေးသော် မယုံလို့။
- ဘယ်သူ့ကိုတုန်းဟု မေးသော်ကား ကံကြောင်းတရားနှင့် အလှူခံ ပုဂ္ဂိုလ်တို့အပေါ်

စွန့်လွှတ်ခြင်းသည် ရရှိခြင်း၏ အကြောင်းခံအမှန်တရား သို့မဟုတ် မျိုးစေ့တို့ကို စွန့်လွှတ်သဖြင့် စပါးရမည်ကို အကြွင်းမဲ့ယုံသော လယ်သမား တစ်ဦးကဲ့သို့ ယုံစိတ်မထားရှိနိုင်သူသည် ဘယ်သောကာလမှ လက်ဝယ်ရှိ ကောင်းမှုမျိုးစေ့တို့ကို ကြဲချလိမ့်မည်မဟုတ်ပြီ။ စပါးမျိုးစေ့ကား စပါးပင် ဖြစ်ထွန်းမည်။ သဒ္ဓါမျိုးစေ့ကား သဒ္ဓါသီးစားရမည်ကို အပိုင်သိသည်ပင်ထား။ ထိုစပါးနှင့် လိုက်ဖက်မည့်၊ ထိုစပါးမျိုးကို လက်ခံမည့် မြေအမျိုးအစားကို ရှာဖွေ မတွေ့ရှိခြင်း၊ တွေ့ပါသော်ကော မြေအမျိုးအစား မခွဲခြားတတ်သဖြင့် မယုံကြည်ခြင်းများ စိတ်ဝယ် ဖြစ်ပွားနေချေသော် မျိုးကြဲခြင်းသို့ ချက်ခြင်း မရောက်ရှိဘိသို့ ပုဂ္ဂိုလ်၌ ယုံစိတ် ကင်းမဲ့နေပြန်သော်လည်း စွန့်လွှတ်မှုသည် နှေးကွေးတတ်သည်ပင်။

ထိုနှေးကွေးသူတို့၌ လှုံ့ဆော်သူ နိဗ္ဗာန်ဆော်ကား ကြားဝင်ပေးရတတ်သည်သာ။ နိဗ္ဗာန်ဆော်သမား သို့မဟုတ် သူ့မြေနှင့်သူမျိုး၊ သူ့မိုးနှင့်သူ့ရေ အကြောင်းတို့ကို ခိုင်လုံစွာ အပိုင်သိထားသူက အကျိုးအကြောင်းပြ နှိုးဆော်ပေးပါမှ စွန့်

လွှတ်မှုသို့ ရောက်ရတတ်ချေ၏။ ထိုစွန့်လွှတ်မှုမျိုးသည် သူတစ်ပါး တိုက်တွန်းလေမှ စွန့်လွှတ်ရသည်သာ ဖြစ်ခြင်းကြောင့် မိမိပိုင်စေတနာလောက် အကျိုးပေးမသန်ပြီ။

– တစ်ဦးမှာကား မျိုးစေ့တော့ရှိသည်၊ လယ်ကား မရှိချေ။

– တစ်ဦးမှာကား လယ်ကားရှိ၏၊ မျိုးစေ့ကား မတတ်နိုင်ပြီ။

ထိုသူနှစ်ဦး ဖက်စပ်၍ ပြုရသော လယ်လုပ်ငန်းတွင်ကား အကျိုးပေးသည် ထက်ဝက်စီ ခံစားရမည်သာ ဖြစ်ချေ၏။ ထိုနှစ်ဦးတွင် မျိုးစေ့သာပေး၍ လယ်ကို ကိုယ်တိုင် ဝင်မလုပ်သူထက်၊ မျိုးစေ့မပါ၊ လယ်ကိုကား ကိုင်တိုင်ဝင်လုပ်သူက အကျိုးပို၍ဖြစ်ထွန်း၏။ မိုး၌ နွားများကို လယ်ကြားလှန်ထားခွင့်ရခြင်း၊ နွေ၌ ကောက်ရိုးများ ရရှိခဲ့သဖြင့် နွားစာ ကျန်ရစ်ခြင်းများ စသည့် အကျိုးဆက်များ ရရှိတတ်၏။

တစ်ဖန် လယ်ကိုသာ လုပ်ခွင့်ပြု၍ ကိုယ်တိုင်ဝင်မလုပ်သူ ဖြစ်နေပြန်ကလည်း မျိုးစေ့စိုက်ထုတ်ကာ လယ်ကို ကိုယ်တိုင်ဝင်လုပ်သူလောက် အခွင့်အရေး မရရှိသည် ကိုလည်း သတိရှိစေရာ၏။

ပါယာသိမြို့စား စော်ဘွားကြီးသည်ကား မိမိ၏တပည့် ဥတ္တရလုလင်ကို လွှဲအပ်၍ သံဃာ့ဒါန ဆွမ်းကပ်ပွဲကြီး ကြီးကျယ်ခမ်းနားစွာ ပြုလုပ်စေ၏။

ထိုပွဲ၌ ဥတ္တရသည်ကား မိမိသည် အမိန့်ပေးခံ၊ တိုက်တွန်းခံအဖြစ်ဖြင့် လုပ်ရသော်လည်း မိမိအလှူကဲ့သို့ သဘောထားကာ ပြုလုပ်ကျင်းပ၏။ တစ်ဖန် မိမိဝန်းကျင်ရှိ လူအများကိုလည်း စည်းရုံးလှုံ့ဆော်ကာ မိမိသည် တိုက်တွန်းသူ နိဗ္ဗာန်ဆော်၊ လူအများက အတိုက်တွန်းခံ (လက်ဝေခံ) အဖြစ်ဖြင့်လည်း ပြုလုပ်ကျင်းပစေ၏။

သို့ကြောင့် ပါယာသိမြို့စားကြီးကား လယ်ရှင်၊ ဥတ္တရာကား မျိုးစေ့ စိုက်ထုတ်၍ ကိုယ်တိုင်လုပ်သူအဖြစ် မြင်တွေ့ရ၏။ တစ်ဖန် ဥတ္တရကား မျိုးစေ့စိုက်ထုတ်၍ လူအများကား ကိုယ်တိုင် လယ်ဆင်းလုပ်သူ ဟူ၍လည်း မြင်တွေ့ရမည် ဖြစ်ချေ၏။

၎င်းတို့အသက်ကံအတိုင်း လူ့ပြည်ဝယ်နေကြပြီး သေလွန်သွားကြသော အခါ ဥတ္တရလုလင်ကား တာဝတိံသာနတ်ပြည်ဝယ် အခြွေရံပေါင်း မြောက်မြားစွာ

တို့ ဖြင့် ခံစားခွင့်ရခဲ့ချေ၏။ ပါယာသိမြို့စားကြီးမှာမူကား ဥတ္တရလုလင်ထက် အဆင့် နိမ့်ကျသော စတုမဟာရာဇ်နတ်ပြည်ဝယ် နတ်သမီး၊ နတ်သား၊ အခြွေရံ ကင်းမဲ့ လျက် တစ်ပါးတည်းပင် သေရီသကနတ်ဗိမာန်၌ သွားရောက်နေရဆို၏။ အို တက်လမ်းရှာ–

– သင်သည် သူတစ်ပါးအတိုက်တွန်းမဲ့ စေတနာထက်သူပေလော။

– သို့တည်းမဟုတ် သူတစ်ပါးနှိုးမှ ထသော အိမ်မှုန်စုံမွှားလေလော။

သင့်ကိုယ်သင် သုံးသပ်ကြည့်စေချင်လှသည်။

အထက်နှင့်အသန်သည် ပစ္စည်းတစ်ခု၏ ဦးထမ်းပဲ့ထမ်း ဖြစ်ပါချေ၏။ အကျိုးပေးသန်ခြင်းသည် စေတနာထက်ခြင်းမှ ပေါက်ဖွားလာသည်ကို ယုံသင့်၏။

နတ်ပြည်ခြောက်ထပ်သည် စေတနာထက်မှု၊ နုံမှုဖြင့် အဆင့်သတ်မှတ်ထားသော ဘုံမြို့များဟု မှတ်သားသင့်၏။

လူ့ဘုံ၊ လူ့မြို့၌ပင် သင့်ရှေ့မှာကြည့်လျှင် သိနိုင်လောက်ပါ၏။

– အချို့ကား လူမျှသာ ဖြစ်လာ၏။ အခြွေရံစည်းစိမ်လက်မဲ့။

– အချို့ကား လူဖြစ်ကာမတ္တ မဟုတ်ပါလေ၊ စားနိုင်သောက်နိုင်ကြီး။

– အချို့ကား စားဖြစ်သောက်ဖြစ်ရုံမတ္တ မဟုတ်ပါလေ။ သုံးမကုန် စွဲမကုန်ပါ။

– အချို့မှာကား သုံးမကုန်ရုံလောက်မတ္တ မဟုတ်ပါလေ။ ထားမနိုင်ကြီးပါ။

– အချို့မှာကား ထားမနိုင်ရုံမျှမတ္တ မဟုတ်ပါလေ။ လက်ညှိုးညွှန်ရာရေ ဖြစ်ပါ၏။

ဤသည်တို့မှာ ထက်စိတ်ဖြစ်သော အသခ်ါရိက မျိုးစေ့များမှ ပေါက်ဖွားလာသော အပွင့်အသီးများဟူ၍ တစ်ထစ်ချမှတ်စေချင်ပါ၏။ နုံစိတ်၏ အကျိုးပေးမှာကား ထက်သူကိုမှီသော် ထိုထက်သူတက်သလောက် တက်ခွင့်ရသော်မှ ထိုသူ၏ အခြွေရံကျေးကျွန်မျှသာပါ။ အကယ်တိတိ မိမိတစ်ကိုယ်တော်အကျိုးခံစားခွင့် ရရှိပါမူကား လူ့အောက်ဘုံများသို့ပင်ဆင်းကာ အသူရကာယ်မျိုးဖြင့်လည်း ရရှိဇာတ် သေး၏။ ခွေးစသည့်ဘဝဖြင့် ချမ်းသာမှုကို ခံစားရတတ်၏။ ဗမာခွေးဖြစ်သော် ဘုန်းတော်ကြီးကျောင်းဝယ် မကြောင့်မကြ၊ မတောင့်မတနေရမည် စိတ်ချ။ ဗိုလ်

ချွေး ဖြစ်ခဲ့သော် သူ့ဌေးအိမ်များဝယ် မကြောင့်မကြမတောင့်မတဖြင့် နေရမည်ကေန်။ ဤသည်တို့မှာ ထက်သန်မှုမရှိသော သူတစ်ပါးတို့ တွန်းအားပေးမှု ပြုကျင့်ရသော ဒါနမှ ပေါက်ဖွားသည့် အောက်ဆုံးအထစ် ဒါနအကျိုးပေးများပင် ဟူ၍ တစ်ထစ်ချမှတ်ပါလေ။

# စွန့်လွှတ်မှုပဉ္စမ

တက်လမ်းရှာအပေါင်းတို့-

- ကိလေသာကိုပယ်စွန့်၍ ပစ္စည်းလက်လွှတ်သည်ကတစ်မျိုး၊
- ကိလေသာကိုကား မစွန့်ပစ္စည်းကိုသာ လက်လွှတ်ရသည်ကတစ်မျိုး၊

ဤသို့လည်း ခွဲခြားသင့်သေး၏။ ၎င်းကိုကား ပါရမီဒါန၊ ရိုးရိုးဒါနဟူ၍ မှတ်သင့်၏။

ဝဋ္ဋကိုဖြိုခွဲ၍ အစွဲကို နုတ်ပယ်ခြင်းသည် 'ပါရမီ'။

ဤ၌ ပါရမီဟူသော စကားကိုလည်း အဓိပ္ပါယ်သိသင့်သေး၏။ အဓိပ္ပါယ်မသိက သဘောသို့ မသက်ရောက်တတ်။ သဘောသို့ မသက်ဝင်မိသူ၏ စွန့်လွှတ်မှုသည် စေတနာ လွဲမှားတတ်ချေ၏။ စေတနာ လွဲမှားသော်ကား အာရုံမှန်၊ အဆံမပြည့်။ အဟောသိကံ သဲထဲရေသွန်သို့သာ ဖြစ်တတ်လှချေ၏။ သို့ကြောင့်မည်သည့်ကိစ္စမဟူ အဓိပ္ပါယ်သိဖို့ အလွန်အရေးကြီးလှချေ၏။

တစ်ဖက်ကမ်းသို့ တက်လှမ်းလေ့ရှိသော စိတ်သည် ပါရမီ။

ဒါနကို စွန့်လွှတ်လျက်က တဏှာလှိုင်းဂယက်ကြားမှ မိမိစိတ် တစ်ဖက်ကမ်းသို့ ကူးတက်လိုက်ခြင်းသည် ဒါနပါရမီဟူ၍ မှတ်ထားရမည်။

- လောကကြီးကို ကြိုက်စိတ်ဖြင့် ဖန်တီးထားသည်သာ။
- ထိုကြိုက်စိတ်၏ ဆွဲငင်အားဖြင့် လောကကြီးကို ဆွဲငင်ထားသည်သာ။
- ဘယ်အရာမဆို အားလုံးတိုင်းက ကြိုက်စိတ်၏အလိုသို့ လိုက်နေရသည်သာ။

ထိုတဏှာ ဦးဆောင်သော ကိလေသာသည် သို့မဟုတ် တဏှာဦးဆောင်သော ဒိဋ္ဌိမောဟတို့၏ ယိုစီးရာ အာသဝလေးပါးသည် စိတ်မှ ဖြစ်သည်ချည်းပင်။

ထိုတဏှာယှဉ်တွဲသောစိတ် (ကြိုက်စိတ်)ဖြင့်ပင် သင်သည် မယားယူ၊ အိမ်ဆောက်ပစ္စည်းစု စသည့် ကာမဘုံ ကာမလောကကြီးကို ဖန်တီးခဲ့သည်သာ ဖြစ်၏။

သို့ကြောင့် သင့်လက်ဝယ်ရှိ ပစ္စည်းစုမှန်သမျှ ကြိုက်စိတ် (တဏှာ)ဖြင့် ဖန်တီးထားသော လောကကြီးပင် ဖြစ်ချေ၏။ သင်ဆိုသော ဘဝလောကကြီးသည် ပင် သည်ဘဝကိုနှစ်သက်သော ကြိုက်စိတ် ခုနစ်ခါ ကျရောက်ပြီးမှသာ သည်ဘဝ ရခဲ့သည် မဟုတ်လော။

- လက်ဝယ်ရှိမယားကိုလည်း တဏှာဖြင့် (ကြိုက်စိတ်ဖြင့်) ဆွဲငင်ထား၏။
- လက်ဝယ်ရှိ သားသမီးများကိုလည်း ထိုတဏှာဖြင့်ပင် ဆွဲငင်ထားချေ၏။
- လက်ဝယ်ရှိ မယားစာ၊ သားစာထားရာ ပစ္စည်းအားလုံးလည်း ထိုတဏှာဖြင့်ပင် ပြင်ပလောကသားတို့ထံမှ တကူးတက ဆွဲငင်ထားသည်ချည်း ဖြစ်ချေ၏။
- မယားဆွဲထားသော် မယားပူမိ၊ မချိအောင် ဖြစ်တတ်လှ၏။
- သားဆွဲထားသော် သားပူမိ၍ မချိအောင်ပင် ဖြစ်တတ်လှ၏။
- တခြားပစ္စည်းများ ဆွဲထားသော်ကား ပစ္စည်းပူမိ၍ မချိအောင်ပင် ဖြစ်တတ်လှ၏။ တစ်ဖန် ထိုမယား၊ ထိုသား၊ ထိုပစ္စည်းများရှိ အာရုံနှင့် ဝတ္ထုတို့ကလည်း သင့်စိတ်ကို တဏှာဖြင့် အမိဖမ်း၍ ငန်းမန်းတက်စေပြီး ဆွဲငင်ထားသည်လည်း ရှိသေး၏။
- မိမိပစ်လွှတ်လိုက်သောမြားသည် သူတစ်ပါး အထိနာစေသည်သို့၊
- သူတစ်ပါးတို့က ပစ်လွှတ်လိုက်သောမြားတို့ကလည်း မိမိကို စူးဝင်စေ၏။

တစ်ဦးနှင့်တစ်ဦး ရယူ သိမ်းပိုက်ကြရာတိုင်း၌ မိမိရှိ အဆင်း၊ အသံ စသည့် အာရုံတို့သည် တစ်ဖက်သားသို့ ထိမှန်ကျဆုံးစေပြီး ထိုတစ်ဖက်ရှိ အဆင်း၊ အသံ စသည့် အာရုံတို့ကလည်း မိမိသို့ ထိမှန်ကျဆုံးစေ၏။

ဤသို့ဖြင့် ပြိုင်တူပစ်၍ ပြိုင်တူပင် ကျဆုံးတတ်၏။ တစ်ဖက်၏ အာရုံကြောင့် မိမိ ကျဆုံးခြင်းရှိသလို၊ မိမိတဏှာ၏ လက်ချက်ကြောင့်လည်း မိမိပင် ကျဆုံးနေတတ်၏။ မိမိ၏ အာရုံများကြောင့် တစ်ဖက်သား ကျဆုံးရသလို သူ့ထံရှိ တဏှာ၏ လက်ချက်ကြောင့်လည်း သူ့ဖာသာ ကျဆုံးခြင်းလည်း ရှိတတ်၏။

- တိုက်ပွဲကား မမြင်လိုက်နှင့် ဖြစ်နေကြပြီ။
- တိုက်ပွဲကား မတွေ့လိုက်နှင့် ဖေ့နေကြပြီ။

ဤသို့လျှင် တဏှာနှင့်ယှဉ်သောစိတ်၊ ထိုကြိုက်စိတ်ကြောင့် အေးရသည် မရှိ၊ လှိုင်းပုတ်သလောက် လေ့လူးနေရချေ၏။ အေးချင်၍ မယား၏အနား တိုးကပ်ကြည့်သော် မိမိ၏တဏှာပူနှင့် မယားထံမှ အာရုံပူတို့က နှိပ်စက်ခြင်းကြောင့် ပူပူလောင်လောင်နှင့်ပင် အအေးစိတ်မှတ်ဖြင့် ကပ်ခွာ လုပ်ခဲ့ရ၏။ သည့်အတူ သားဘက်ကြည့်၊ သမီးဘက် ကြည့်လျှင်လည်း တဏှာပူ၊ အာရုံပူတည်းဟူသော အတွင်းပူ၊ အပြင်ပူတို့၏ ရှို့မြှိုက်ခြင်းကြောင့် နှလုံးသွေးပွက်ပွက်ဆူကာ စိတ်ပူခဲ့ရသည်ချည်း ဖြစ်ခဲ့ရ၏။ ပစ္စည်းကိုင်ကြည့်သော်လည်း ငါ့ပစ္စည်း၊ ငါ့ရွှေ ငါ့ငွေ ဟူသော မှတ်သားခြင်းနှင့်အတူ တဏှာပူတို့သည်သာ လှိုက်ဆူခဲ့ရချေ၏။

- ကြိုက်စိတ်တဏှာသည် ဝတ္ထုအာရုံကို မှီ၍ ဖြစ်နေသည်ပါ။
- ဝတ္ထုအာရုံတို့သည် ထိုကြိုက်စိတ်တဏှာ၏ ဆွဲငင်ထားမှုကြောင့် ရှိနေရသည်ပါ။

သို့ကြောင့် ထိုဝတ္ထု (အာရုံ)တို့ကို စွန့်လွှတ်တော့မည်ဆိုလျှင် ငါစွဲ၊ ပစ္စည်းစွဲ၊ တဏှာကိုလည်း စိတ်မှ ခွာချပစ်သင့်၏။ ဝတ္ထုသာ စွန့်၍ စိတ်စွဲကို မစွန့်ပယ်မိချေသော် ရုပ်ပြတ်သော်လည်း စိတ်မပြတ်ချေပြီ။

ရုပ်ဝတ္ထုကား မိမိလက်မှ လက်လွှတ်သွားချေပြီ။ စိတ်ကား ငါ့ပစ္စည်းစွဲ မကုန်သေး။ ထိုဒါနမျိုးသည် စွန့်လွှတ်ခြင်း ဟူသော စကားလုံးကို အပြည့်အစုံမဖော်နိုင်သေးပြီ။

- ဘုရားဒကာ ဘုရားပြန်စောင့်ရသည်မှာ သည့်ကြောင့်၊
- ကျောင်းဒကာကြီး ကိုယ့်ကျောင်း ကိုယ်ပြန်စောင့်နေရသည်မှာလည်း သည့်ကြောင့်ပင်။

# ချုပ်အောင်လှူမှ ချုပ်ရာသို့ရောက်စေသည်

စင်စစ် စွန့်လွှတ်မှုဟူသောစကားသည် စိတ်နှင့်သာ လုံးလုံး သက်ဆိုင်ချေ၏။ မယားစွန့်လွှတ်ခြင်း၊ သားစွန့်လွှတ်ခြင်း ဟူသော ခေတ်ပေါ် သတင်းစာကြော်ငြာများကို လေ့လာလျှင် ထိုစိတ်စွန့်လွှတ်မှုနှင့် အနီးကပ်ဆုံး သက်ဆိုင်နေသည်ကို တွေ့ရမည် ဖြစ်၏။ သို့ကြောင့် စွန့်လွှတ်မှုဆိုလျှင် စိတ်နှင့်သက်ဆိုင်သော စကားလုံးဟူ၍ မှတ်ပါလေ။

အကြင်ဝတ္ထုကိုဖြစ်စေ၊ အာရုံကိုဖြစ်စေ၊ အကြွင်းမဲ့ ငြိစွန်းခြင်း ကင်းလျက်က ရုပ်မျက်စိ၊ စိတ်မျက်စိရှေ့တို့မှ ပျောက်ကွယ်သွားစေခြင်းသည် ချုပ်ပြတ်ခြင်း။

ထိုသို့ ချုပ်ပြတ်ခြင်းကို ဖြစ်စေလိုလျှင် မိမိပိုင်ဝတ္ထုနှင့် အာရုံတို့ကို မိမိဝမ်းဗိုက်မှ ယိုစီးထွက်ကျလာသော မစင်ပုံကို စွန့်လွှတ်ပို့ချထားဘိသို့ လွတ်လွတ်စွန့်ကြဲခဲ့ပါလေ။

ထိုသို့ စွန့်ချပို့လွှတ်ပြီးနောက် ထိုမစင်ပုံ၌ ငြိကပ်တွယ်တာခြင်း အလျဉ်းမရှိဘိသို့ မိမိပိုင်ဝတ္ထုတို့ကို စွန့်လွှတ်ပြီးနောက် အာရုံခံ၍ မကြည့်တော့လေလင့်။

ထိုစွန့်ချပြီး မစင်ပုံနှင့်ပတ်သက်၍ ကြည့်ရှုနားထောင်ခြင်း၊ လေ့လာခံစားခြင်း၊ မှတ်သားခြင်း၊ ကြောင့်ကြစိုက်ခြင်း၊ ဆုံးဖြတ်ခြင်း အလျဉ်းကင်းဘိသို့ မိမိပိုင်ဝတ္ထုတို့ကို စွန့်လွှတ်ပြီးနောက်လည်း အာရုံမှ လုံးဝ လွတ်ကင်းနေပါစေ။

တစ်ဖန် ထိုမစင်ပုံသည် တစ်ချိန်ချိန်ဝယ် ငါ့အား မည်သို့များ အကျိုးဖြစ်ထွန်းလေဦးမလဲ ဟူ၍ အမျှော်ကင်းဘိသို့ မိမိပိုင်ဝတ္ထုများကို စွန့်လွှတ်ပြီးနောက် စိတ်အာရုံဝယ် မျှော်လင့်ချက် ကင်းရှင်းနေပါစေ။

အမျှော်သည် တဏှာ၊ အကျိုးပေးမှာကား စေတနာ။

ယုန်တောင်ပြေး၊ ခွေးမြောက်လိုက် မဖြစ်စေသင့်ပြီ။ အားကိုးမှုကို စေတနာ၌သာ မေးတင်ထားလျှင် စေတနာသန်လျှင် အကျိုးပေး အဆင့်မြင့်တက်စေပြီး၊ စေတနာသန့်လျှင် အကျိုးပေးဘဝ လှပမည်ကို အသေအလဲ အသည်းစွဲနစ်နေအောင် တစ်ထစ်ချ မှတ်သားထားသင့်၏။

ထိုချုပ်မှုသည် ဝတ္ထု၌သော်လည်းကောင်း၊ အာရုံ၌သော်လည်းကောင်း၊

မိမိ စိတ်၌သော်လည်းကောင်း လှုပ်ရှားမှုတို့ကို မျက်ခြေမပြတ် မှတ်တမ်းတင် ကြည့်နေမှသာ ချုပ်မှုကို မြင်ရ၏။

ထိုဝတ္ထု၊ အာရုံစိတ် သုံးမျိုး တစ်မျိုးမျိုးပေါ်သို့ ရှုမှတ်မှု မှတ်တမ်းတင် ကင်းမဲ့နေချေသော် စိတ်ဝင်စားစရာ အာရုံမှန်ကို မရရှိလေသောကြောင့် မိမိစိတ်သည် ဝတ္ထုသို့သော်လည်းကောင်း၊ ထိုဝတ္ထုရှိ အာရုံသို့သော်လည်း ပုဂ္ဂိုလ်တည်း ဟူသော ဝတ္ထုသို့သော်လည်းကောင်း၊ မိမိထံရှိ အာရုံသို့သော်လည်းကောင်း ကျရောက်နေတတ်၏။ ထိုအခါ ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ် ဟူသော သုံးပွင့်ဆိုင်၏ ဖွက်အိုင်ကြီးထဲသို့ တိုးဝပ်နေတတ်၏။ ငါသို့ (မိမိသို့ ပြန်လှည့်၍) စိတ်ကပ်သော် ဒိဋ္ဌိမကင်းသော စွန့်လွှတ်ခြင်းသို့ ရောက်တတ်၏။ ဝတ္ထုပုဂ္ဂိုလ် (အလှူခံ)တို့၏ အပေါ်သို့လည်း ကျရောက်နေတတ်၏။ ထိုအခါ ထိုစွန့်လွှတ်မှုသည် တဏှာမစင်သော စွန့်လွှတ်မှုထဲသို့ ကျရောက်တတ်၏။

- ငါ့ပစ္စည်းဟူသည် တဏှာက ထပြောသော စကားလုံးသားပါ။
- ငါ ကိုးကွယ်သူဟူသည်လည်း တဏှာခံတွင်းတွေ့သော စကားလုံးသာပါ။

အိမ်နောက်ဖေးဝယ် မိမိဝမ်းဖြင့် လွယ်ထားရာမှ စွန့်ပယ်ထားသော မစင်တို့ကို တွင်းတူးမြှုပ်ထားသော မစင်ပုံတွင်း အိမ်သာကျင်းလည်း ရှိ၏။

ထိုအိမ်နောက်ဖေး၌ပင် မိမိ ရှာဖွေသိမ်းပိုက်ထားပြီး စိတ်မချသဖြင့် တွင်းတူး မြှုပ်ထားသော ရွှေ၊ စိန်၊ သလင်း၊ မြ ကျောက်တွင်းလည်း ရှိ၏။

- သင်သည် ဘယ်ကို ငါ့ပစ္စည်း ပြောမည်နည်း၊
- သင်သည် အဘယ်ကို စိတ်မချ ဖြစ်လေမည်နည်း၊

မေးကြည့်သော် မိမိတဏှာသည် မစင်ကျင်းကိုကား လက်ညှိုးထိုးမည် မထင်။

တစ်ဖန် ပြည်တွင်းပြည်ပတို့မှ ပြုလုပ်သော မီးခြစ်ကလေး။

ထိုမီးခြစ်ကလေး ကုန်သည်၊ ပွဲစား၊ ဆိုင် လက်အဆင့်ဆင့် ကူးပြောင်းလျက်က မိမိ၏ အနီးအပါး (လက်လှမ်းမှီရာရှိ) ဆိုင်လေးသို့ ရောက်ရှိလာချေ၏။

- မိမိအသုံးမလိုမီက ငြိစွန်းမှုမရှိ။
- မိမိအသုံးလိုလာသောအခါ ငြိစွန်းမှုသတ္တိ ပြတတ်၏။

ထိုမီးခြစ်လေး ဆိုဈေး၊ ဆစ်ဈေး ကြေးကိုက်သဖြင့် လက်ဝယ် သိမ်းပိုက်မိချေသောအခါ ငါ့မီးခြစ် ဟူ၍ မီးခြစ်နှင့်ငါ တဏှာက တွဲစပ်ပေးထား၏။ ထိုအခါ စိုးရိမ်စိတ်၊ စိတ်မချစိတ်တို့သည် ငယ်ထိပ်တက်နှက်ချေရကား၊ သူတစ်ပါး ပစ္စည်း၊ အလကားနေရင်း စောင့်ရှောက်ပေးရသူအဖြစ်သို့ ရောက်ရှိသွားချေတော့၏။ ဤသည်မှာ တဏှာ၏ လှည့်လုံးစကားဖြစ်ပြီး တဏှာဖြင့် ဆွဲငင်ထားသော သံသရာလောကပင် မဟုတ်လော။

ဤသို့ဖြင့် သူတကာ့သားကြီး၊ သမီးကြီးတို့ကို ခေါ်ဈေးဖြင့် ကြေးဆစ်ပြီး မယားအဖြစ်၊ လင်အဖြစ် တည့်အောင်ပေါင်းသင်းခြင်းကအစ ဆေးလိပ်၊ ကွမ်းယာ အထိတို့သည် တဏှာ ဖန်တီးပေးသော သံသရာလောက (ပြုလုပ်မှုဖြင့် တစ်ဖန် ပြန်ပျက်စေသော)ချည်းသာ ဟူ၍ မှတ်ယူသင့်ချေ၏။

– ထိုတွင် ဝတ္ထုကို စွန့်လွှတ်ခြင်းဖြင့် ဒါနအမှုပြုလုပ်စေပြီး
– အာရုံကို စွန့်လွှတ်ခြင်းဖြင့် ပါရမီသို့ တက်ရောက်သင့်၏။

ထိုသို့ ပြုတတ်ရန်မှာ ချမ်းသာ၊ ဆင်းရဲတို့ကို တန်းတူထား ဆက်ဆံနိုင်စွမ်း ရှိသော ဝမ်းသာ၊ ဝမ်းနည်းတို့ကို မမွေ့သုတ်သုတ် မှုတ်ထုတ်နိုင်စွမ်းရှိသော သံသရာပေက္ခာဉာဏ်ခေါ် လောကီဉာဏ်၏ အထွတ်အထိပ်တို့သို့ ရောက်ရှိနေသည့် ကလျာဏပုထုဇဉ်ရင့်မာကြီးများနှင့် မဂ်သို့ သက်ပြီးသော အရိယာဇာတ်သားတို့ သာ အစွမ်းကုန်တတ်နိုင်ချေ၏။ မျက်မမြင် ပုထုဇဉ်များနှင့် လမိုက်မွေး ပုထုဇဉ် တို့ကား လေသံကြားဖြင့် တရားနာသလောက်သာ ထားရှိနိုင်၏။

ထိုသို့ ငါလည်းမစွက်၊ ဝတ္ထုဘက်လည်းမပါ၊ ပုဂ္ဂိုလ်မှာလည်း မစွဲမက်။ သက်သက်သော စေတနာလေးသာထားရှိပြီး ထိုစေတနာလေး နားသက်ရာ ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့၏ အပေါ်သို့ သဘောမျှသာ ဟူသော အချက် ပေါ်လောပေါ်သည် အထိ မိမိစိတ် ကျက်စားနိုင်မှသာ ဒါနဝိသုဒ္ဓိ ဖြစ်နိုင်၏။ မစင်ကြယ်သော ဝတ္ထု အာရုံတို့ကို စင်ကြယ်သောဉာဏ်ဖြင့် လဲလှယ်၍ တစ်ဖက်ကမ်းသို့ တက်လှမ်း နိုင်ချေ၏။

– ဝတ္ထု တစ်ခါစွန့်လိုက်သည်နှင့် မိမိစိတ် တစ်ဖက်ကမ်း၊ တစ်ချက်လှမ်း ပြီး ဖြစ်နေ၏။

- အာရုံတစ်ချက်လွတ်ကျသွားသည်နှင့် မိမိစိတ်အပူတစ်ချက် သက်သာစေ၏။
- ထိုဉာဏ်သို့ ရောက်သူ၌ ငါသည် မမြဲ၊ အလှူဝတ္ထု မမြဲ၊ အလှူခံ မမြဲဟူသော ပညတ်စကားလုံးသုံး၍ ဆင်ခြင်စရာပင် မလိုတော့ပြီ။

အိုး တက်လမ်းရှာ–

စွန့်လွှတ်မှုခေါ် ဒါနမှုတစ်ခု ပြုလေသောအခါတိုင်း–

- ငါမပါဘဲလည်း ပြုတတ်ရမည်။
- လှူဖွယ်ဝတ္ထု မပါဘဲလည်း ပြုတတ်ရမည်။
- အလှူခံပုဂ္ဂိုလ်တစ်ဦးတစ်ယောက်မျှ မပါဘဲလည်း ပြုတတ်ရမည်။

ထိုသုံးခုလွတ်၍ သင်သည် ဒါနမှုတစ်ခု ပြုတတ်ပြီဆိုလျှင် ပါရမီအဆင့်တက်ပြီ။ ထိုသုံးခု ကြားခံထား၍ အလှူရှင်အစစ်ကို ဖော်ထုတ်တတ်လျှင် ဒါနပြုရကျိုးနပ်ပြီ။

- သင်သည် ဆွမ်းလှူသဖြင့် ထိုဆွမ်းက အကျိုးမပေးပါချေ။
- သင်ကိုးကွယ်သော သံဃာကလည်း သင့်အား ဘာတစ်ခုမျှ ပေးလိမ့်မည်မဟုတ်ပါချေ။
- သင်ကိုယ်တိုင်လည်းပဲ ဘာတစ်ခုကိုမျှ ခံစားခွင့်ရစေလိမ့်မည် မဟုတ်ပါချေ။

အဘယ်ကြောင့်ဆိုသော် အလှူရှင်အစစ်သည် သင် မဟုတ်သောကြောင့်ပင်။ ဆွမ်းစသော လှူဖွယ်ဝတ္ထုတို့ကလည်း အကျိုးပေးမဟုတ်။ အကြောင်းခံသက်သက်ဖြစ်ခြင်း၊ အလှူခံပုဂ္ဂိုလ်ကလည်း အကျိုးပေးမဟုတ်၊ အကြောင်းခံသက်သက်မျှဖြစ်ခြင်းများကြောင့်ပင်။

ထို ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်သုံးမျိုးတို့ ဆုံစဉ်ကာလတုန်းက ဖြစ်ထွန်းခဲ့သောစေတနာမျိုးစေ့ကသာ ဘဝသစ်ကို ပေါက်ဖွားစေ၍ အကျိုးပေးအဖြစ် ရပ်တည်ပါမည်။ သို့ကြောင့် ထိုစေတနာသည်သာ အလှူရှင်အဖြစ်ဖြင့် ဒါနမှု၏ ဘဝသစ်အကျိုးကို တိုးခံစားရချေသည်။ ထိုစေတနာကပင် အကျိုးသတ္တိကိုလည်း ဖြစ်ထွန်းစေမည်။

ထိုအကျိုးသတ္တိကို ခံစားနိုင်သော ဘဝရှင်အဖြစ်ကိုလည်း ဖန်တီးပေးချေမည်။

သို့တစေလည်း ထိုစေတနာသည် အကြောင်းခံကင်း၍ အလျှုရှင် မဖြစ်နိုင်သည်ကိုလည်း စဉ်းစားထားချေဦး။

- လှူသားစင်စစ်မဖြစ်ဘဲနှင့် ထိုစေတနာ သက်ရောက်နိုင်မည်လော။
- ဝတ္ထုပစ္စည်းမရှိဘဲနှင့်လည်း ထိုစေတနာ အထမြောက်နိုင်မည်လော။
- အလှူခံပုဂ္ဂိုလ်မပေါ်ပေါက်ဘဲနှင့်လည်း ထိုစေတနာ စွန့်လွှတ်သာမည်လော။

စင်စစ် ထို ငါ ဟူသော မိမိ၏ လူ့ဘဝ၊ ဝတ္ထု ဟူသော အလှူပစ္စည်း၊ ပုဂ္ဂိုလ် ဟူသော အလှူခံ၊ ထိုသုံးမျိုးတို့ကို အကြောင်းခံအဖြစ် အမှီပြုပြီးမှသာ ထိုစေတနာ ပွင့်ပေါ်ခွင့်ရချေ၏။

ထိုစေတနာသည် ငါ ဟူသော ခန္ဓာကိုလည်း ဖြစ်ပျက်၏ သဘောမျှကို မြင်သိစေ၍ ဖျက်ဆီးပစ်ထားခဲ့ရမည်။ ဝတ္ထုကိုလည်း ဖြစ်ပျက်၏ သဘောမျှကို မြင်သိစေ၍ ကောင်းရာမှ ဟောင်း၊ ဟောင်းရာမှ အို၊ အိုရာမှ ပြိုသည်အထိ လမ်းဆုံး ပို့လွှတ်ထားခဲ့ရမည်။ ပုဂ္ဂိုလ်ကိုကား –

- ထိုပုဂ္ဂိုလ်၏ ဖြစ်ပျက်သဘောသို့လည်း ဉာဏ်သက်ဝင်နေစေရမည်။
- ထိုပုဂ္ဂိုလ်၏ အကျင့်မြတ်သို့လည်း ဉာဏ်သင်ဝင်နေစေရမည်။

ဤသို့ အလှူခံပုဂ္ဂိုက်အပေါ်၌ မြင်သိစေ၍ ပုဂ္ဂိုလ်ကို ကျော်လှပ်ပစ်ခဲ့ရမည်။

## လိုချင်ရာသံဃာ့ထံတောင်း၊ ပုဂ္ဂိုလ်နှင့် သွားမပေါင်းမိစေနှင့်

အရာရာကို ဖြစ်ပျက်၏သဘောမျှအဖြစ် ရှုသိနေသော သုပ္ပဋိပန္န၏ အစွမ်းသတ္တိ၊ ထိုဖြစ်ပျက်၏ သဘောမျှအဖြစ်၌သာ အာရုံမှန်တစ်ဖြောင့်တည်း ရှိနေသော ဥဇုပ္ပဋိပန္န၏ အစွမ်းသတ္တိ၊ ထိုအာရုံမှန်တစ်ဖြောင့်တည်းပေါ်၌ နှလုံးသွင်းမှန်ကန်နေသော ဉာယပ္ပဋိပန္န၏ အစွမ်းသတ္တိ၊ ရဟန်းဖြစ်ခိုက် ကျင့်သည့်သည့် ကိစ္စကိုသာ ကျင့်နေသော သာမိစိပ္ပဋိပန္န၏ အစွမ်းသတ္တိ။

ထိုအကြောင်းခံ ဩဇာသတ္တိတို့ အပြည့်ရှိသဖြင့် ပူပန်မှု ကင်းရှင်းခြင်း၊ အေးမြမှုအတိပြီးခြင်း၊ ကိလေသာဘေးမှ ဝေးကွာခြင်းရှိသော သံဃာဉာဏ်တော် စားကျက်ထဲသို့ မိမိစေတနာ ကျရောက်သွားသောကာလ။

တမန်းဆိပြည့်ဝနေသော လယ်ကွက်ထဲသို့ မျိုးစေ့ကျသွားသောအခါ လယ်သမားကြီးသည် ထိုလယ်ကန်သင်းပေါ်မှာ ရပ်လျက်က ပျိုးပင်များ ပေါက်လော့ ပေါက်လော့ အော်မပြောရဘိသို့။

သို့မဟုတ် ဘုရားထံမှောက် အရောက်သွားတဲ့ကာ ဘုရားတပည့်တော် ကြဲချထားပြီးသော ထိုလယ်ကွက်မှ ထိုမျှသော အပင်တို့သည် ပေါက်ပါစေသား ဘုရား၊ တစ်ဖန် ထိုမျှသော အပင်တို့မှလည်း တစ်ပင်တစ်ပင်လျှင် ဤရွေ့ဤမျှသော အပွင့်အသီးများ ပွင့်ပါစေသား၊ သီးပါစေသား ဘုရား ဆုမပန်ကြားရဘိသို့။

စေတနာနှင့်သံဃာ၊ နှစ်လွှာချင်းချင်း အပေးအယူလုပ်ရင်းက ကြီးပွားခြင်းသို့ ရောက်ရချေ၏။ ဒကာနှင့် ဘုန်းကြီးကား ဘာမျှ မတတ်နိုင်ချေပြီ။ ဒကာ တောင်းတိုင်း ပုဂ္ဂိုလ်က မပေးနိုင်သလို၊ ပုဂ္ဂိုလ်က ပေးတိုင်းလည်း ဒကာက မယူနိုင်ချေပြီ။ သံဃာ၏ ဉာဏ်စားကျက်ကြား စေတနာ အရောက်သွားနိုင်ခြင်းသည်ပင် အတောင်းရလွတ်၊ အပေးရလွတ်သော အခွင့်ထူးကြီးဟူ၍ မှတ်စေချင်၏။

- လိုချင်ပါလျက်က မရသည်မှာ မယူတတ်ကြ၍၊
- ပေးပါလျက်က တောင်းနေသည်မှာ ပေးသည့်နေရာ မမြင်တတ်၊ မသိတတ်ကြ၍၊

ဆုတောင်းသည်မှာ ရစရာကို တောင်းခံနေသည်ဟု မမှတ်လင့်။ ဆိုင်ရှင်ရှေ့မှောက် ရောက်သောကာလ၊ ပစ္စည်းအမျိုးအမည်ကို ဖော်ပြရုံမျှသာ ရှိချေ၏။ သို့မှသာ သံဃာသည် အကြောင်းခံလေးပါး၏ ဩဇာသတ္တိ အပြည့်ရှိသော သီလခေါ် မိမိ၏ အကျင့်(ဓမ္မ) ဓာတ်အားဖြင့် ကာယကံရှင်၏ စေတနာအရှိန်များကို ကာယကံရှင်မှန်းရာသို့ အရောက်တွန်းပို့ပေးရန် အာရုံပြုနိုင်မည် ဖြစ်၏။

သက်ရှိ ဘုရားရှေ့ဆုပန်စဉ် ဘုရားရှင်သည် ထိုတောင်းတိုင်းဆုကို ၎င်းကာယကံရှင်၏ စေတနာအရှိန်သတ္တိအားနှင့် မျှော်ခေါ်ချင့်တွက်ကာ ဗျာဒိတ်တော်ပေးခြင်း၊ မဟာကရုဏာတော် ဓမ္မဓာတ်အားဖြင့် တွန်းလွှတ်ပေးခြင်းတို့ကိုသာ

ပြုမူတော် မူခဲ့ချေ၏။ ထိုပြုမူတော်မူချက်များသည် ရောဂကွ၊ အင့်ကွ ပေးခြင်းအား မဟုတ်ခဲ့ပြီ။ တောင်းခြင်းနှင့် စေတနာတို့ကို ချိန်ခွင်ထက်သို့ တစ်ဖက်စီတင်စေ၍ ဘယ်လောက်သား ရှိသည်ဟု မိန့်ဟတော်မူခြင်းမျှသာဟု မှတ်သားထားစေချင်၏။ ဒါနသည် ရယူခြင်းမဟုတ်၊ စွန့်လွှတ်ခြင်း ဟူသော ကိုယ်ထည်ကို ဘယ်သော ကာလမျှ မေ့ပျောက်မထားလေလင့်။ သို့မှသာ မတောင်းသောရခြင်းသို့ ဆိုက် ရောက်နိုင်၏။ ငါတို့ခေတ် လှူရင်းမတ်တပ်က မွဲနေကြသည်မှာ စေတနာမသန်ခြင်း၊ စေတနာ မမှန်ခြင်း၊ ရရန်သို့သာ စိတ်စောနေခြင်းများကြောင့်ပင် ဖြစ်သည်ကို မိမိစိတ် ပြန်လှန် စစ်ဆေးကာ လက်ခံသင့်၏။

## ပါရမီဖြစ်သင်တန်း

ဤပါရမီဒါန ပြရာ၌ လက္ခဏာအချက် ပြက်ပြက်ထင်ထင် မြင်ရန်သည် အရေးကြီးဆုံးအချက် ဖြစ်၏။ သမ္မာသနဉာဏ်အဆင့်သို့ ရောက်သူသည် ပါရမီ မြောက်အောင် ပြုတတ်လာပြီဖြစ်၏။ သင်္ခါရုပေက္ခာအဆင့်သို့ ရောက်သူသည်ကား ဤပါရမီဒါနကို ပါရဂူမြောက် ပေါက်ရောက်နိုင်၏။ လက္ခဏာအချက်တို့သည် မကြည့်ဘဲနှင့်ပင် မြင်၏။ သူ့သဘော သူဆောင်လျက်က ရှေ့သွားနောက်ရောက်၊ ရှေ့ပျောက်နောက်ဝင် ရုပ်ဖြစ်စဉ်၊ နာမ်ဖြစ်စဉ်တို့ကိုလည်း မဆင်ခြင်ဘဲနှင့်ပင် ပေါ်ထင်၏။

အကယ်တိတိ ဒါနသင်ပုန်းကြီးတက်ကာစ ဝလုံးတန်းဘဝ ဖြစ်ပါမူကား အများပိုင်ကို တစ်ပါးပိုင်ဖြစ်ရန် ကြိုးစားစဉ်က စိတ်ထား၊ တစ်ပါးပိုင်အဖြစ်ဖြင့် မိမိလက်ခံသိမ်းပိုက်ထားရချိန် စိတ်ထား၊ မသုံးလိုတော့သဖြင့် စွန့်ပယ်ပြီးနောက် စိတ်ထား၊ ထိုအချိန် သုံးပိုင်းရှိ စိတ်ထားများကို သုံးသပ်ရာ၏။ ထိုစိတ်ထား အတိုင်း ခံစားလာရသော ဝေဒနာများကိုလည်း သုံးသပ်ကြည့်ရာ၏။

ထိုအခါ တဏှာ၏ နောက်ယောင်ခံလိုက်မှုကိုလည်း ရိပ်မိရ၏။ တဏှာ အကပ်ခံရသောကာလ စိတ်အပူမိသည်ကိုလည်း သိရ၏။ တဏှာမှလွတ်သည်နှင့် စိတ်အေးသွားသည်ကိုလည်း သိရ၏။

သင်သည် အလုပ်ရှာဖွေရာ၌ အလုပ်လိုချင်၍ကား မဟုတ်၊ ငွေလိုချင်၍ ရှာခြင်းပင်။ တစ်ဖန် ထိုအလုပ်မှ ငွေထွက်လာသောအခါ ငွေကိုခင်၏။ ထိုငွေထက် အစားအစာကို ပိုခင်သောအခါ ငွေကို ပစ်ခဲ့၍ အစားအစာကိုသာ ဆိုင်မှ သယ်ယူခဲ့၏။ အစားအစာထက် မယားကို ပိုချစ်သောအခါတွင်ကား အစားကို မယားကျွေး၍ မယားဘေး ကပ်ထိုင်နေပြီတည်း။

ဤ၌ တဏှာသည် ဝမ်းစာအတွက် အလုပ်လိုချင်မှုသို့ ဝင်ကပ်၏။ အလုပ်မှ ငွေထွက်လာသောအခါ ငွေသို့ တဏှာကပ်၏။ တစ်ဖန် အစာကို လိုချင်ပြန်သောအခါ တဏှာသည် ငွေမှခွာပြီး အစာဘက်သို့ ဆက်လိုက်လာ၏။ အစားထက် မယားဘက် စိတ်ရောက်သွားသောအခါတွင်မူကား တဏှာသည်လည်း ထိုအစားပေါ်မှ ခုန်ဆင်းကာ မယားပေါ်သို့ တက်ရောက်နေသည်ကို အထင်းသား တွေ့ရမည် ဖြစ်၏။

ထိုစဉ် ငွေ၌ တဏှာကပ်ဆဲ၊ စိုးရိမ်မှု၊ စိတ်မချမှု၊ ခင်တွယ်မှု စသည့် ကိလေသာတို့ ဝိုင်းအုံထုနှက်ခြင်းကြောင့် စိတ်သည် လေးလံနေ၏။ ပူပန်နေ၏။ တစ်ဖန် ထိုငွေကို လိုချင်စိတ် မရှိတော့သောအခါ ထိုစိုးရိမ်မှု စသည်များနှင့် စိတ်သည် ကွာရှင်းပြီး ဖြစ်နေသဖြင့် ပေါ့ပါးသွက်လက်၏။ အေးချမ်းငြိမ်သက်၏။ သည့်အတူ စိတ်ပြောင်းရာတိုင်း တဏှာလိုက်လာပြီး လေးလံစေ၍ ထိုဝတ္ထုတစ်ခုမှ အာရုံပြတ်တိုင်းလည်း တဏှာ ပြတ်ကျန်နေရစ်ခဲ့သည်ကို သတိထားလျှင် သိနိုင်ချေ၏။

သို့ကြောင့် ဒါနပြုခြင်းသည် တဏှာသတ်ပွဲ ကျင်းပနေခြင်းဟူ၍ သဘောပေါက်သင့်၏။ ဒါနကိုမှီ၍ တဏှာ၏ နောက်လိုက်များကိုလည်း သေကြေစေရန် ဖြစ်၏။

- လောဘမကြီးရန် လှူပါသည်ကို အလှူ၌ လောဘမဝင်စေသင့်။
- သောကမကြီးရန် လှူပါသည်ကို အလှူ၌ သောကမဝင်စေသင့်။

အကယ်တိတိ လောဘ၊ သောကတို့နှင့်တွဲ၍ အလှူပွဲ ကျင်းပမည်ဆိုလျှင် သင့်အလှူ၊ ငွေတစ်သောင်းကုန်ကျလျှင် ကိလေသာငွေတစ်သောင်းပေး၍ ဝယ်ခြမ်းရာ ရောက်ပြီ။

# ဝတ္ထုပစ္စည်းမှန်သမျှ ပြည့်တန်ဆာမနှင့် ဘာမျှမခြား

ဝတ္ထုပစ္စည်းဟူသည် သက်မဲ့၊ သက်ရှိအားဖြင့် နှစ်စားခွဲသင့်၏။

ထိုတွင် သက်မဲ့ပစ္စည်း (ရွှေ၊ ငွေ၊ ကျောက်သံပတ္တမြား စသည်)တို့သည် မြေတွင်းထဲ၌ တည်ရှိနေလျှင် ၎င်းတို့ကို မြေကသာ ပိုင်ဆိုင်၏။ မြေသည် ရွှေပိုင်၊ ငွေပိုင်နှင့်တကွ သစ်ပွင့်သစ်သီးအားလုံးကိုပင် ပိုင်ဆိုင်ချေ၏။ သို့ကြောင့် မြေပေါ်သို့ တက်နေပြန်လျှင်လည်း မြေကပင် ပိုင်၏။ မြေသည် သက်မဲ့၊ သက်ရှိအားလုံးတို့၏ မူလပိုင်ရှင်ဖြစ်ချေ၏။ အားလုံးသည် ထိုမြေကိုမှီလျက်က ရပ်တည်နေကြရခြင်းကြောင့်တည်း။

တစ်ဖန် ၎င်းတို့ကို မြေမှ တူးဖော်၍ ရရှိထားသူသည် ဒုတိယပိုင်၏။ ထို့နောက် ရောင်းဝယ်သောအားဖြင့် လည်းကောင်း၊ ပေးကမ်းသောအားဖြင့် လည်းကောင်း လက်ပြောင်းလက်လွှဲ များလာခဲ့သော် ထိုပစ္စည်း လက်ဝယ်ထားရှိသူသည် ပိုင်၏။ အမွေရသော် အမွေခံသည် ပိုင်၏။ ကျေးဇူးဆပ်သော် ကျေးဇူးခံသည် ပိုင်၏။

ဤသို့ဖြင့် အဆင့်ဆင့် ပြောင်းလဲလေတိုင်း ထိုပြောင်းလဲမှု၏ နောက်ဆုံးလူသည် ပိုင်လျက်, ပိုင်လျက် ရှိချေ၏။

ပြည့်တန်ဆာမတစ်ဦးသည် ယနေ့ ဤသူနှင့် ပေါင်းသင်းနေလျှင် ယနေ့ ဤသူ၏ မယားပင် ဖြစ်ချေ၏။ နောက်နေ့ ဤသူ့လက်မှ ပြောင်းရွှေ့၍ ထိုသူနှင့် လက်ဆက်ပေါင်းလျှင်ကား နောက်နေ့ ဤသူ၏မယား မဟုတ်၊ ထိုသူ၏မယားသာ ဖြစ်ချေ၏။

ဤသို့လျှင် ပြည့်တန်ဆာမသည် အချိန်ပိုင်းအားဖြင့် လည်းကောင်း၊ ရက်ပိုင်းအားဖြင့် လည်းကောင်း လက်ပြောင်း၊ လင်ပြောင်းများစွာဖြင့် မိမိသက်တမ်းနှင့် လင်သက်တမ်း စစ်တမ်းကောက်ကြည့်သော် မိမိအသက်ထက် ပေါင်းခဲ့ရသော လင်သက်က များပြားလှပြီး လင်ရည်ဝ၍ အသက်ဆုံးပါးရသောကာလမှာ ဖြစ်စေ၊ လင်ရည်ဖျန်း၍ ရောဂါကျွမ်းရသောကာလမှာ ဖြစ်စေ ဘုံးဘုံးလဲ၍ သေပွဲဝင်ရစဉ်ကာလတွင်ကား လင်ကောင်မပေါ် အောင်ငိုသူမရှိချေပြီ။

သည့်အတူပင် ပစ္စည်းတို့သည်လည်း တစ်လက်ပေါင်း၍ ညှောင်းခဲ့သော် တစ်လက်သို့သာ ပြောင်းလျက်က ဟောင်းနွမ်း၊ ဆွေး၊ အက်၊ ကွဲကြေပျက်သွားသောအခါတွင်ကား အားလုံး၏ စွန့်ပယ်ခြင်းတို့ကို ခံကြရ၏။

ထမင်းတွင် လူတိုင်းကြိုက်၏။ ကြိုဆိုသူ များပြားလှ၏။ ထိုထမင်း တစ်လက်ဖြင့် အကိုင်ခံရသဖြင့် နယ်ဖတ်အဖြစ်သို့ရောက်သော် ကာယကံရှင်မှတစ်ပါး မည်သူမျှ လက်မခံတော့ပြီ။ ထိုမှတစ်ဆင့် ဝါးဖတ်အဖြစ်သို့ ရောက်ပြီးကာမှ၊ တစ်ဖန် အံထွက်၍ ကျရောက်လာပါမူကား ကာယကံရှင်ပင် မကြိုက်ချင်တော့ပြီ။ ထိုမှ ရက်လွန်၍ အပုပ်အဖြစ်ဖြင့် အောက်ဘက်မှ လှည့်ထွက်လာပါမူကား ကာယကံရှင်လည်း အော့နှလုံးနာ၏။ မြင်သူတိုင်းကလည်း နှာခေါင်းပိတ်လျက်က လက်ရှောင်ကြလေကုန်၏။

သက်ရှိ၌လည်း သက်ဆိုင်ရာ မိဘနှစ်ပါးက မွေးပေး၏။ ထိုမိဘတို့သည် ပိုင်၏။ ထိုမိဘ၏ မိဘတို့ကလည်း မြေးအဖြစ်ဖြင့်ပင် ပိုင်သေး၏။ ထိုမိဘ၏ ညီ၊ အစ်ကို၊ မောင်နှမတို့ကလည်း တူအဖြစ်ဖြင့် ပိုင်သေး၏။

ယနေ့ သူ့သက်ဆိုင်သူ လင်ကောင်၊ မယားကောင် ပေါ်လာပြီဖြစ်သဖြင့် မည်သူ့ယောကျ်ားလေး၊ မည်ဝါ၏ မိန်းကလေးအဖြစ်သို့ ကျရောက်သွားပါမူကား ဤယောကျ်ား၊ ဤမိန်းမတို့ပိုင် ဖြစ်ချေ၏။ တစ်ဖန် ထိုယောကျ်ား၊ ထိုမိန်းမတို့ ပေါင်းသင်းလျက်က သားဆက်၊ သမီးဆက် ထွန်းကားလာပါမူကား ထိုယောကျ်ားသည် ထိုကလေး၏အဖေ ဖြစ်သွားပြီဖြစ်သဖြင့် ကလေးပိုင်ဘဝသို့ ရောက်ရ၏။ ထိုမိန်းမလည်း ကလေးပိုင်ပင် ဖြစ်၏။ တစ်ဖန် ထိုကလေးတို့ အရွယ်ရောက်သဖြင့် ယောကျ်ားတစ်ယောက်၊ မိန်းမတစ်ယောက် ကောက်ယူလိုက်ပြီဖြစ်သဖြင့် နောက်မှတစ်ဆင့် သားသမီးတို့ ပွင့်ထွန်းလာပါမူကား ထိုယောကျ်ား၊ ကလေးတို့ပင် မပိုင်ပြီ။ ကလေးတို့အောက် ကလေးတို့၏ အဘိုးအဖြစ်သို့ ရောက်ရ၏။ ထိုမိန်းမလည်း ကလေးတို့အပိုင် အဘွားပင် ဖြစ်ချေတော့၏။

ဤသို့ဖြင့် တစ်လက်မှသည် တစ်လက်တစ်လက်ဆီသို့ ပြောင်းရွှေ့လာခဲ့ရာ သေလွန်သောကာလ ပိုင်ရှင်လက်ပြောင်းများလှသဖြင့် ဝါးဖတ်နှင့် မစင်ကဲ့သို့

မည်သူမျှ မခင်ပြီ။ မူလပိုင်ရှင်ဖြစ်သော မြေသို့သာ လျှောကျ၍ မြေသားဘဝသို့ ရောက်ရချေတော့၏။

ဤသို့လျှင် သက်မဲ့၊ သက်ရှိပစ္စည်းတို့၏ အတွင်းခံသဘောကို နောကြေနေအောင် သိပိုင်ထားသော် ပါရမီဒါနသို့ တက်ရန် မခဲလှပြီ။ ထိုပစ္စည်းတို့၏ ရုပ်အဆင့်ဆင့်၊ နာမ်အဆင့် ဖောက်ပြန်ပြောင်းလဲလျက်က အသက်ဆက်နေကြရသည်ကို သိပိုင်ထားပါသော်ကား သဘောမျှဟူသော အယူဝါဒသည် ထိးထိးကြီးပေါ်လာသဖြင့် ပါရမီဒါနသို့ တက်သာစေ၏။

- အသစ်၏အာနိသင်ပျက်လျှင် အဟောင်းဘက်သို့ဆန်၏။
- အဟောင်းအာနိသင် ပျက်ပြန်လျှင်လည်း အသစ်ဘက်သို့ တစ်လှည့်ဆန်၏။

ဝါစေ့ကို မြေမှာချသဖြင့် ဝါစေ့ပျက်ယွင်းသော် ဝါပင်ဟူ၍ ဖြစ်လာ၏။ ထိုဝါပင်ရင့်၍ အတွင်းမှ ခွဲထွက်လာသော် ဝါပွင့်ဖြစ်၏။ ထိုဝါပွင့်ရင့်ကျက်၍ အတွင်းမှ အာနိသင်အသစ် ဖြစ်ထွန်းလာသော်ကား ဝါသီး ဖြစ်လာ၏။ ထိုဝါသီးရင့်ကျက်၍ အာနိသင်ပျက်သွားသော် ဝါအဖြစ်သို့ ရောက်၏။ တစ်ဖန် ထိုဝါကို ကြိတ်ခွဲသော် ဂွမ်း၊ ဂွမ်းကို ပြုပြင်သော် ချည်မျှင်၊ ချည်မျှင်ကို ပြုပြင်သော် ပိတ်စ၊ ပိတ်စကိုပြုပြင်သော်ကား အဝတ်အထည်အဖြစ်သို့ အာနိသင်အဟောင်းပျက်တိုင်း၊ အာနိသင်အသစ်ပေါ်ကာ ကူးပြောင်းခဲ့ရချေ၏။ ထိုအဝတ်သည်လည်း အဆင့်ဆင့် ချုပ်ပျောက်လျက်က ရာသီဥတုတို့ကို ခံနိုင်စွမ်းရှိသော သူ့အာနိသင် ကုန်ခမ်းလာချေလျှင် အထည်ဟောင်း၊ အထည်ဆွေး၊ လက်နှီးစုတ်၊ လက်သုတ်ဖတ်မှသည် အမှိုက်ပုံကြားသို့ စွန့်ပယ်ခံရကာ မြေသို့သာသက်၍ မြေသားအဖြစ်သို့ ရောက်ရချေ၏။

သည့်အတူ သက်ရှိဖြစ်သော လူသည်လည်း မွေးကင်းစက ငချွေးလေး၊ လူလားမြောက်တော့ မောင်ချွေးလေး၊ အိမ်ထောင်ကျတော့ ကိုချွေးလေး၊ သားသမီးရတော့ ဦးချွေးလေး၊ မြေးတွေရတော့ အဘိုးချွေးဘဝသို့ အဆင့်ဆင့် အာနိသင်ကုန်ခမ်းသလောက် နာမည်များ ပြောင်းလဲလာခဲ့ပြီး ရာသီဥတုတို့၏ဒဏ်ကို ခံနိုင်

စွမ်းမရှိတော့သောအခါတွင် မြေထဲသို့ဝင်၍ မြေသားအဖြစ်သို့ ခံယူရချေတော့၏။

အထက်ပါ သုံးသပ်ချက်များကို ထောက်ဆလျှင် ငါသည်လည်းကောင်း၊ သူသည်လည်းကောင်း၊ သင်သည်လည်းကောင်း၊ သူသည်လည်းကောင်း၊ သက်ရှိသည်လည်းကောင်း၊ သက်မဲ့သည်လည်းကောင်း၊ သူ့ချည်းသက်သက်လည်း ပြောင်းလဲနေ၏။ အခြားနှင့်ဖက်၍လည်း ပြောင်းလဲနေ၏။ သို့ကြောင့် ငါတို့သည် လင်ရှိလျက် လင်မဲ့သော ပြည့်တန်ဆာမများ ဟူ၍ တစ်ထစ်ချမှတ်ယူသင့်ချေ၏။

- ပြည့်တန်ဆာမသည်ကား လင်မကျွေးသော်မှ လင်သေကြေး ရသေး၏။
- ပြည့်တန်ဆာမသည်ကား လင်မရသော်မှ လင်မှူသော ကာမစည်းစိမ်ကို ရသေး၏။

သင့်မှာမူကား တစ်ဖက်၏ ဝတ္ထုအာရုံတို့ အဖျက်ဆီးခံရရုံမှတစ်ပါး ဘာမှ လက်စ မကျန်ပြီ။ ခွေးအိုကြီး အမဲရိုးဝါးဘိသို့ ကိုယ့်သွားရည်နှင့်ကိုယ် အာသာပြေလျက်က ပျက်ကျန်ရစ်ရခဲ့ပြီ။

တက်လမ်းရှာအပေါင်းတို့–

ရိုးရိုးဒါနသည်ကား သင်ပြုနေကျဒါနမျိုးများ ဖြစ်ချေ၏။ မိဘဘိုးဘွားများ၏ ဓလေ့ထုံးတမ်းသို့ လိုက်လျက်ကလည်း ဒါနမှု ပြုကျင့်နေကြ၏။ သူတစ်ပါးတို့ လှူသဖြင့် အားကျမခံ (အပြိုင်အဆိုင်) လှူဒါန်းမှုလည်း ရှိချေသေး၏။ သူတစ်ပါးတို့ အပြောများလှသဖြင့် ရောယောင် နောက်လိုက်ပုဂ္ဂိုလ်သို့ ဦးစိုက်လှူမှုလည်း ရှိ၏။

ထိုဒါနမျိုးကား အလွန်များပြားလှချေ၏။ ဘာသာတိုင်း၌လည်း မရေရာသော ဤဒါနမျိုးတို့ကသာ လွှမ်းမိုးနေကြ၏။ ကြက်၊ ဝက်၊ သိုး၊ ဆိတ်တို့ကို ညှင်းဆဲသတ်ဖြတ်ကာ ဒါနမှုပြုသည်ကို ကောင်းချီးအဖြစ် လက်ခံခြင်းကပင် အလွန် ထင်ရှားနေပါ၏။ မိမိသတ်သော တိရစ္ဆာန်က မိမိပြန်၍ကယ်တင်ရန် နတ်ပြည်ခေါ် ကောင်းကင်ဘုံလမ်းအကူးမှ ကြိုဆိုစောင့်နေမည်ဆိုသော အချက်တို့ကို လက်ခံနေခြင်းကပင် ထင်ရှားနေပါ၏။

ရိုးရိုးဒါနသည် ရိုးရိုးသမားတို့ပြုရာကိစ္စ ဖြစ်သဖြင့် ထို ရိုးရိုးသားသား လူသားသတ္တဝါတို့သည် အပြောကောင်းသော ဘာသာရေးဆရာတို့စကား နားမှ ကြားရသော်၊ အပြကောင်းသော ဘာသာရေးဆရာတို့၏ စာပေကို မျက်ဝါးထင်ထင် တွေ့မြင်သော် ဘာမဆိုထဲသို့ တွဲခနဲ ရောက်ရှာရ၏။

- ဘာသာရေးဟူသည် အားကိုးလွန်ရာမှ ယုံကြည်လာခြင်း ဖြစ်၏။
- ဘာသာရေးဟူသည် အကြောက်လွန်ရာမှ (အားကိုးရှာရင်း) ယုံကြည်လာခြင်း ဖြစ်၏။

ငါတို့ငယ်ငယ်က အိရန်မှ ခိုဒါအရှင်မြတ်၏ သားတော်ကြီး ရန်ကုန်သို့ လာလျှင် ခိုဒါသွေး မပြတ်လပ်စေရန် (မတိမ်ကောစေရန်)ဆိုကာ ခိုဒါ၏ အနွယ်ဝင် မိန်းမကြီးငယ်အသွယ်သွယ်တို့သည် ခိုဒါ၏သားတော် တည်းခိုရာသို့ သူ့ထက်ငါ အလုအယက်သွားရောက်ကြကာ အသုံးတော်ခံကြရရှာချေ၏။ ကံဆိုးသည်မှာ ခိုဒါ၏ အနွယ်တော်များဖြစ်လျက်က ခိုဒါသွေး ခံယူခွင့်မရလေသော ယောကျ်ားများပင် ဖြစ်ချေ၏။ ၎င်းတို့ကိုထောက်လျှင် အယူဝါဒသည် သူတစ်ပါးတို့ အပြောများရာ (အပြောကျရာ) နောက်သို့ ရောယောင်လိုက်ကြသော ဖာသိဖာသာ(ဘာသိဘာသာ)သမားတို့ကသာ များလှချေ၏။

မိမိသတ်ဖြတ်ခြင်းကိုခံသွားရသဖြင့် မိမိအပေါ် အာဃာတပြင်းပြင်း၊ အငြိုးကြီးစွာထားကာ သေသွားသော နွား၊ ကြက်၊ သိုး၊ ဆိတ်များက မိမိကို ကောင်းကင်ဘုံမှ ကြိုဆိုနေမည်ဆိုသော စကား၊ ယုတ္တိဗေဒကို နားလည်လျှင် လက်ခံစရာ အကြောင်းမရှိ။ ကိုယ်ချင်းစာစိတ်ထား ကြီးမားသူ ဖြစ်နေကလည်း လက်ခံနိုင်စရာအကြောင်း မရှိပြီ။

ရှိသမျှအပြစ် ထာဝရဘုရားက တာဝန်ယူ၏၊ ဝန်ခံလျှင် ကျေအေးပေး၏ ဆိုသော စကားသည်လည်း ယုတ္တိဗေဒဖြင့် ချိန်ထိုးကြည့်လျှင် ခံနိုင်စွမ်း မရှိ။ ထို အယူသည်လည်း မကောင်းမှုကို သွေးရဲရဲဖြင့် ပြုချင်လာအောင် လှုံ့ဆော်ပေးခြင်းမျှသာ ဖြစ်၏။

ငါတို့ဘာသာရှိ ရဟန်းတော်တို့၏ အာပတ်ဖြေနည်း (အပြစ် ဝန်ခံသော

အားဖြင့် ကျေအေးခြင်း)ကို နည်းခိုးထားသော ဘာသာကောင်း တစ်ဝက်တစ်ပျက်ပင် ဖြစ်၏။ ရဟန်းတော်ဟူသည် လောကရှိ စစ်သားတို့ကဲ့သို့ မှတ်သင့်၏။ စစ်သား၌ စစ်ဥပဒေ(ကျင့်ဝတ်)နှင့် အရပ်ဥပဒေဟူ၍ နှစ်မျိုးရှိလေရာ စစ်ကျင့်ဝတ် ဖောက်ဖျက်သော် ကွာတား စသည်ဖြင့် ကျေပျောက်၏။ အရပ်ဥပဒေကား ဆိုင်ရာ ပုဒ်မသို့လိုက်၍ ဒဏ်ရိုက်ခံရခြင်း၊ အချုပ်ကျ၊ ထောင်ကျခြင်း၊ သေဒဏ်ပေးခံရခြင်း စသည်အားဖြင့် မိမိစေတနာအလိုက် အပြစ်ဒဏ်ကို တစ်ဖန်ပြန်၍ ခံရမြဲပင် ဖြစ်ချေ၏။

သည့်အတူ ရဟန်းတော်တစ်ပါး ကြက်သတ်မှုဖြစ်သော် ကြက်သတ်မှုအတွက် ပါစိတ်အာပတ် (အထက်တန်းစား စိတ်ဓာတ်ကလေး အောက်တန်းသို့ ကျသွားစေမှု) သင့်ရောက်သဖြင့် အချင်းချင်း ဝန်ခံစကား (ဒေသနာစကား) ပြောကြားခြင်းဖြင့် ပြေပျောက်၏။ သို့တစေလည်း ထိုကြက်သတ်မှု အကုသိုလ်ကား မကျေပျောက်ပြီ။ သံသရာတွင် (အရပ်ဥပဒေကဲ့သို့) မိမိစေတနာအလိုက် တစ်လှည့်ပြန်၍ ခံရဦးမည်မှာ မုချတည်း။

ထိုရဟန်းတော်တို့၏ ဘုရားအာဏာတော် ဖီဆန်ပြစ်မှ ကျေအေးမှုအတိုင်းပင် အခြားဘာသာတို့ကလည်း အာဏာဖီဆန်မှုကို ဝန်ခံခြင်းဖြင့် ပြေပျောက်သည်ဟု အယူရှိကာ လက်ရဲနေခြင်းဖြစ်၏။ စေတနာအလိုက် နောင်လှည့်တစ်ဖန် မိမိလည်း ဤသို့ပင် ပြန်လည်ခံရဦးမည်အထိ ဘာသာရေးဆရာတို့က အပြည့်အစုံ ဟောပြောပို့ချပေးပါမူကား ထိုရိုးရိုးသမားတို့သည် စိတ်စည်းစောင့်ကာ လက်တွန့်ကြမည်ချည်းသာ ဖြစ်ချေ၏။

အစာစားရာမှ ရရှိသော အရသာသည် လျှာဖျားပေါ်မှာသာ ပျောက်သည်ဟု အစမျှကိုသာ သိသော်လည်း အချိန်ကျလျှင် အပုပ်ခဲ ကိုယ်ထဲမှ အောက်သို့ ကျမည်ကို မသိသော်၊

အဖျော်ယမကာမှရရှိသော အရသာသည် လျှာဖျားမှာသာ လမ်းဆုံးသည်ဟု အစမျှကိုသာ လက်ခံသော်လည်း အချိန်ကျလျှင် အပုပ်ရည်၊ အပုပ်နံ့တို့ဖြင့် ကိုယ်ထဲမှ အောက်သို့ ရွဲစိုမည်ကို မသိသော်၊

ကြိုက်သလောက် စားသောက်ရင်း အောင့်အီးမရ ဗိုက်နာရသဖြင့် နက်ဖြန်ကျလျှင် လှလှကြီး ဒုက္ခရောက်မည်မှာ ကိန်းသေပင်တည်း။

အို တက်လမ်းရှာ–

မည်သည့်ကိစ္စမဆို ကိုယ်ပိုင်ဉာဏ်ဖြင့် တိကျစွာ မြင်သိခွင့်မရဘဲလျက် မည်သည့်အချက်ကိုမျှ လက်မသွက် (နှုတ်မသွက်၊ စိတ်မသွက်)စေသင့်။

ယုံကြည်စိတ်ချရသော မိတ်ဆွေ၊ ဆရာသမားကောင်းကောင်းနှင့် မတွေ့သေးသမျှ မည်သည့်အချက်ကိုမျှ တစ်ဖက်မိုတ်၍ ခေါင်းမညိတ်စေသင့်။

ယုတ်စွအဆုံး တစ်ရပ်ကွက်နှင့်တစ်ရပ်ကွက် (တစ်ရွာနှင့်တစ်ရွာ) ကူးသည့်တောင်မှ လမ်းမှန်ကို ကေန်မသိဘဲ၊ လမ်းမှန်ကို တိကျစွာပြနိုင်လေသူ ဟူ၍ ကေန် မယုံကြည်ရဘဲနှင့် ရတ်တရက် လက်မခံသင့်ချေ။

လမ်းပြောကား ပြောရုံမျှသာ လမ်းသွားသည်သာ မောရမည် ဖြစ်ချေ၏။ အမောဖောက်သော် သက်လုံပျက်၏။ သက်လုံမကောင်းသော် ဘဝတစ်ဖက်စောင်းနင်းဖြစ်တော့မည်ကို သတိရှိသင့်၏။

- မြင့်မြတ်စိတ် ထားခြင်း
- စူးစူးစမ်းစမ်း ရှိခြင်း
- လုပ်ဆောင်ချက် မှန်ခြင်း

ဤအချက်သုံးချက်တို့သည် အခုလည်း ဝမ်းမြောက်ရဘိသို့၊ နောင်ကိုလည်း ဝမ်းမြောက်ရသော အချက်ကောင်းများ ဖြစ်ချေ၏။ ယခုပျော်၍ နောင်ဟစ်အော်ရမည့် ကိစ္စမျိုးသို့ မတိုးလိုလျှင် ရိုးရိုးစိတ်ဖြင့် ရိုးရိုးဒါနတို့ကို ပြုနေကျမှ ဉာဏ်ယှဉ်စိတ်ဖြင့် ပါရမီဒါနတို့သို့ အခါကောင်းတုန်း ပြောင်းလဲသင့်ကြပြီ။

## အမျှားတောင့်တနေသောလမ်း

အသီးအပင်တို့ မကြီးထွား၊ မတိုးတက်ခြင်းမှာ–

အပူလွန်အပူမိ၍သော်လည်း ဖြစ်တန်ရာ၏။ လောင်းရိပ်မိ၍သော်လည်း ဖြစ်တန်ရာ၏။ တစ်ဖန် မြေခံမကောင်းသော်လည်းကောင်း၊ မျိုးစေ့ကပင် ညံ့ဖျင်း

သော်လည်းကောင်း ဖြစ်တန်ရာ၏။

ထိုအပူ၊ လောင်းရိပ် စသည် မိနေလေသော သစ်ပင်သည် သေစရာရှိက ၎င်းကပင် ရှေ့ပြေး သေပေးရတတ်ချေ၏။ ညှိုးခြောက်စရာရှိကလည်း ၎င်းသည် ပင် ဖွေဆော်ဦး ခံရတတ်ချေ၏။

- အညွန့်၊ အခက်၊ အလက်တို့ဖြင့်လည်း တက်လမ်းမရှိပြီ။
- အပွင့်၊ အသီး၊ အရင့်၊ အမှည့်များဖြင့်လည်း ဝေဆာခြင်းလည်း မရှိပြီ။

သည့်အတူ အမြင့်သို့ တက်လှမ်းလိုကြပါသော တက်လမ်းရှာတို့သည်လည်း မိမိစိတ် နိမ့်ကျရာသို့ မရောက်စေမှသာ အမြင့်သို့ တက်နိုင်ပါချေ၏။ ကိလေသာ အပူဘေးကြားမှ မိမိစိတ် ဝေးဝေးထားနိုင်မှသာ အမြင့်သို့ တက်သာစေ၏။

မီးဝေးရာ (ကိလေသာဝေးကွာရာ)သို့ မိမိစိတ် အဆင့်ဆင့် ရွှေ့ပြောင်း ပို့ပေးတတ်မှသာ အဆင့်မြင့်သို့ တက်ရောက်နိုင်စွမ်းရှိချေ၏။

စင်စစ် တက်လမ်းကို ရှာဖွေနေကြလေသူတိုင်း–

မိမိစိတ်၏ ကြီးထွားနှုန်းကို ဟန့်တားစေတတ်သော၊ မိမိစိတ်ကို ပူပန်စေ တတ်၊ နှိပ်စက်တတ်သော၊ မိမိစိတ်၏ ကြည်သန့်မှုတို့ကို ညစ်ပေစေတတ်သော၊ မိမိစိတ်၏ ချမ်းသာခြင်းကို ဖျက်ဆီးပစ်တတ်သော ကိလေသာအပူဘေးမှ မိမိစိတ် ကင်းဝေးစေရန်ပင်တည်း။

## စာရင်းချုပ်သော်

အို တက်လမ်းရှာ–

ဒါနနှင့်ပတ်သက်၍ အမျိုးအစား များပြားလှသော်လည်း ဤစာစဉ်၌ ငါးမျိုးဆယ်ချက်ဖြင့် တွဲဖက်၍ ပြသထား၏။ ဤမျှဆို သင့်အဖို့ လုံလောက်ဟန် ရှိချေ၏။ ဉာဏ်စခန်းဖြင့် ကိုယ်ပိုင်စိတ် (သမာဓိ) ရစမှသည် ကိုယ်ပိုင်ဉာဏ် (ဝိပဿနာဉာဏ်အဆင့်များ) ရသည်အထိနှင့် ဒါနမှ အဆင့်တက်ပုံတို့ကို တွဲဖက် ပြဆိုထား၏။ ထိုတွင် ပါရမီဒါနသည် အမြတ်ဆုံးဒါနဖြစ်ပြီး ကျန် အမြတ်စား လေးနည်း၊ အစွဲလွတ်ဒါန၊ စွန့်လွှတ်မှုဒါန၊ ဉာဏ်ယှဉ်ဒါန၊ အတိုက်တွန်းလွတ်

ဒါနတို့သည်လည်း ထိုပါရမီဒါနဥ္စပင် ဦးဆိုက်၏။ အဘယ့်ကြောင့်ဆိုသော် ပါရမီဒါန ပြုတတ်လျှင် စိတ်စွဲလည်း လွတ်၏။ ဝဋ်မျှော်မှုလည်း ကင်း၏။ ဉာဏ်လည်း ပါ၏။ တိုက်တွန်းစရာလည်း မလိုတော့သောကြောင့် ရိုးရိုးဒါနသည် ယုတ်ညံ့၏။

နောက်ကျန်လေးနည်း အစွဲမပြတ်ခြင်း၊ ဝဋ်မျှော်လင့်ခြင်း၊ ဉာဏ်ကင်းခြင်း၊ ဂိုက်တွန်းခံရခြင်းများသည်လည်း ပါဝင်၏။ ထိုရိုးရိုးဒါနနှင့် အပေါင်းပါတို့သည် တက်လမ်းမရှိသည့်ပြင် တက်လမ်းကို ပိတ်ထားခြင်း၊ စေတနာကို ဆွဲထားခြင်း၊ လှည့်ဖြားခံရခြင်း စသည်ဖြင့် ဘေးအန္တရာယ်တို့ ထူပြောလှချေ၏။ သစ်ကျားတို့ ပေါသော တောတွင်းညအမှောင် ကပ်ချဉ်းရဘိသို့၊ မြွေ၊ ကင်းတို့ ပေါသော မြေပြင်ဝယ် ညမည်းမည်းတွင် ခြေချရဘိသို့၊ မကန်း၊ မိကျောင်းပေါသော ရေပြင်ဝယ် ညရေးရေးတွင် လက်ပစ်ကူးနေရဘိသို့၊ အသက်ဆံဖျား၊ နဖားကြိုးတင်း၊ နပင်း လမ်းပြ၊ မျက်မမြင် တုတ်ဆွဲရသို့ ပင်ပန်းလှချေသည်တကား။

## ဒါနကို အကြောင်းအကျိုးဆက်၍ ယုတ္တိဗေဒ ဖော်ကြည့်ရအောင်

- အသိဉာဏ်ကင်းမဲ့သူသည် မကောင်းမှုကိုသာ ကျွမ်းကျင်စွာ ပြုကျင့်တတ်၏။
- အသိဉာဏ်ရှိသူသည်သာ ကောင်းမှုကို လိမ္မာပါးနပ်စွာ ပြုကျင့်တတ်၏။

သင်၏ ကာယကံသောင်းကျန်းမှု၊ ဝစီကံ သောင်းကျန်းမှု လွတ်ကင်းစေသော ကိုယ်ကျင့်ကောင်းမှု သီလ၊ မနောကံ သောင်းကျန်းမှုမှ လွတ်ကင်းစေသော စိတ်ကျင့်ကောင်းမှု သမာဓိ ထိုနှစ်ပါးလောက်မျှဖြင့် ပြုကျင့်မိသော ဒါနမျိုးစေ့သည် ကံကိုယုံသော ဒါနမျိုးစေ့လောက်သာရှိပြီး ကံ၌ သက်ဝင်သည့် အသိဉာဏ်ကိုသာ ထွန်းကားစေ၏။

အကယ်တိတိ အယူဖောက်လွဲမှု၊ လမ်းမှန်လမ်းမှား ခွဲခြားကာ ဆုံးဖြတ်တတ်မှု၊ အကျင့်စင်ကြယ်မှုကို ဖြစ်စေရစေတတ်သော ဝိပဿနာဉာဏ်အဆင့်လောက်

မှုဖြင့် ပြုကျင့်မိသော ဒါနမျိုးစေ့သည် ဈာန်ကိုယုံသော ဒါနမျိုးစေ့လောက်သာ ရှိပြီး ဈာန်၌သက်ဝင်သည့် အသိဉာဏ်တို့ကိုသာ ထွန်းကားစေ၏။

အကယ်တိတိ ဉာဏ်အမြင် စင်ကြယ်မှုသို့ ထိုးဖောက်သွားသော မဂ်ဉာဏ် အဆင့်အထိ တက်ရောက်လျက်က ပြုကျင့်မိသော ဒါနမျိုးစေ့သည်ကား ဉာဏ်ကို ယုံသော ဒါနမျိုးစေ့ ဖြစ်ပြီး ပုဂ္ဂိုလ်သို့ မကပ်ငြိ။ ထိုအလှူခံပုဂ္ဂိုလ်၏ ဉာဏ်သို့အထိ ချဉ်းကပ်မိချေသောကြောင့် ဉာဏ်ကိုယုံသော ဒါနမျိုးစေ့အဖြစ်သို့ ရောက်စေ၏။ ထိုစေတနာသည် (မျိုးစေ့သည်)သာ ဉာဏ်၌ သက်ဝင်နိုင်ခွင့်ရှိသည့် အသိဉာဏ် တို့ကို ထွန်းကားစေ၏။

ကံယုံသည် ကာမကုသိုလ်မျှသာ ရှိသေး၏။ ထိုကာမကုသိုလ်ကိုသာ ပြုသူ သည် ကာမအကျိုးကိုသာ ခံစားရ၏။ ဈာန်အကျိုး၊ ဉာဏ်အကျိုးထိ မသက်ရောက်။

ဈာန်ယုံသည် ဈာနကုသိုလ်မျှသာ ရှိသေး၏။ ထိုဈာနကုသိုလ်ကိုသာ ပြုသူသည်လည်း ဈာနအကျိုးကို မုချ အကျိုးခံစားခွင့်ရ၍ ဉာဏအကျိုးကိုကား အကျိုးဆက်အဖြစ်ဖြင့် ခံစားခွင့်ရ၏။ ဉာဏ်ကျိုးအထိ တိုက်ရိုက် မျက်မှောက် မသက်ရောက်တတ်။

ရှုမှတ်ဆင်ခြင်စိတ် (ဈာန်စိတ်)ဖြင့် ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်သုံးမျိုးတို့အပေါ် မမြဲ၊ မကောင်း၊ မပိုင် ဟူသော လက္ခဏာအချက်ကို ဉာဏ်ကျက်စားနိုင်သော ဉာဏ်သို့ အကျိုးဆက်ချေ၏။ ထိုသို့ လက္ခဏာအချက် ကွက်ကွက်ကွင်းကွင်း အသိဉာဏ်သွင်းသိုထားလိုလျှင် လောဘ၊ ဒေါသ၊ မောဟ ဟုံသော (ကိလေသာတို့၏ ခေါင်းဆောင်) သုံးချက်တို့ကို ရှုမှတ်မှု ဈာန်ဖြင့် ဖျက်ဆီးပစ်နိုင်စွမ်းရှိမှသာ ဈာန် ကုသိုလ်မှ ဈာန်အကျိုး၊ ဉာဏ်အကျိုး ခံစားခွင့်ရချေ၏။

လောဘရမ္မက် ထိပ်တက်နေချေသော် အနိစ္စလက္ခဏာအချက်သို့ ဉာဏ် မကျက်စားနိုင်။ လောဘကြီးသူသည် ဝတ္ထုနှင့် ပုဂ္ဂိုလ်တို့အပေါ်မှာသာ ကျက်စား နေတတ်သောကြောင့်၊

ဒေါသအမျက် ထိပ်တက်နေချေသော် ဒုက္ခလက္ခဏာအချက်သို့ ဉာဏ်မကျက် စားနိုင်။ ဒေါသကြီးသူသည် ငါဟူသော မိမိဘက်သို့သာ ကျက်စားနေတတ်သော ကြောင့်၊

မောဟအချက် ထိပ်တက်နေချေသော် အနတ္တလက္ခဏာအချက်သို့ ဉာဏ်မကျက်စားနိုင်။ မောဟကြီးသူသည်ကား ဉာဏ်နုံနေး၍ အသိဉာဏ် ထိုင်းမှိုင်းတွေဝေနေတတ်သောကြောင့်၊

ထိုသုံးချက်စလုံး ပေါင်းရုံးလျက်က ထိပ်တက်နေချေသော်ကား မည်သည့်လက္ခဏာအချက်ကိုမျှ တိတိပပ သိပိုင်ခွင့်မရပြီ။

ဤသို့ ရေးပြသဖြင့် သင့်ဘက်က မေးကွက်တစ်ခု ထွက်လာမည်ထင်၏။

စေတနာသက်သက်ဖြင့် ပြုကျင့်လျှင်ကော၊ လူ၊ နတ်၊ နိဗ္ဗာန် သုံးတန်သောအကျိုးတို့ကို ခံစားခွင့်မရရှိတော့ဘူးလော။

ယခု ငါတို့ရေးပြနေခြင်းသည်ကား မည်သည့်ကုသိုလ် (ဒါန၊ သီလ)ပြုပြုဉာဏ်ယှဉ်လျက်က ပြုမိသော အလေ့အကျင့်ကောင်းမျိုးရရန် ကြိုးစားဖို့ တိုက်တွန်းနေခြင်း ဖြစ်ရာ ဤအတိုင်းသာ စိုက်လိုက်မတ်တတ် လေ့ကျင့်သော် သင့်အမေးကိုသင်ကိုယ်တိုင်ပင် ဖြေဆိုပြီးသား ဖြစ်ပေလိမ့်မည်။ ထိုစေတနာသက်သက်(သန့်သန့်)သို့ ရောက်ရန်မှာ အသိဉာဏ်စင်ကြယ်မှသာ ဖြစ်နိုင်၏။

လှူရင်းမတ်တတ်က ကာမစည်းစိမ်၊ တင်းမတိမ်နိုင်ခြင်းသည် ကာမကုသိုလ်က ကာမအကျိုးကိုသာ ပြန်လည်၍ အသက်ဆက်ပေးနေခြင်း ဖြစ်ကြောင်း၊ သင်ကိုယ်တိုင် ရိပ်မိသင့်၏။ လှေဝမ်းဗိုက်ထဲက ရေ ပက်ထုတ်၊ ခပ်ထုတ်နေပါလျက်က ပြန်ပြည့်နေခြင်းသည် ရေတိုးနေသောကြောင့်ပင် မဟုတ်လော။

- အသိဉာဏ်ကင်းမဲ့လျှင် ကောင်းမှုပြုလျက်ကပင် မကောင်းမှုဘက်သို့ကျရောက်တတ်၏။
- အသိဉာဏ်ရှိလျှင် မကောင်းမှုပြုလျက်ကပင် ကောင်းမှုဘက်သို့ကျရောက်တတ်၏။

နွားကြီးသည်ကား လှူဖွယ်ဝတ္ထုများနှင့် သံဃာတော်တို့ကို လှည်းပေါ်တင်လျက်က ဝန်ဆောင် ရုန်းပေးနေပါ၏။ သို့သော်လည်း ၎င်း၏ စိတ်တို့သည်ကုသိုလ်ဇောစောရန် မမြင်မိချေ။ သည့်အတူ အသိဉာဏ်ကင်းမဲ့သူ၏ အလှူသည်လည်း ကောင်းမှုကို ပြုကျင့်နေပါသော်လည်း ကောင်းသောအာရုံမျိုးကို မထား

တတ်သဖြင့် အကျိုးပေးသည် အကုသိုလ်သာ ဖြစ်တတ်ချေ၏။

ဝတ္ထု၊ ပုဂ္ဂိုလ်တို့အပေါ် ခင်မင်စိတ် အစွဲတင်းလင်းဖြင့် လှူသော အလှူသည် အကြောင်းခံ တယ်မကောင်း၊ အကျိုးပေးကား စောင်းဖို့အလားအလာ ရှိချေ၏။

သင်သည် အလှူကြီးတစ်ခုကို ခမ်းနားကြီးကျယ်စွာ စွန့်လွှတ်နေပါ၏။

သို့တစေလည်း ထိုအလှူ၌ သာယာတပ်မက်စိတ် ကင်းရှင်းပါ၏လော

မိမိပြင်ဆင်မွမ်းမံထားသော မဏ္ဍပ်ကြီးနှင့်တကွ လှူရန် အသုံးအဆောင်များ၌ လည်းကောင်း၊ မိမိအလှူသို့ ကြွရောက်တော်မူလာကြသော သံဃာပရိသတ်ကြီး အပေါ်၌သော်လည်းကောင်း၊ သတိလက်လွတ် ငှက်အတောင်ကျွတ်သည့်ပမာ တစိမ့်စိမ့်ကြည့်ကာ ခေါင်းတညိတ်ညိတ်သာ ရှိနေချိမ့်မည်ထင်၏။

ငါလှူသောအလှူကြီးပဲ ဟူ၍ သာယာတပ်စွဲမှုက လက်ခံသိမ်းပိုက်လိုက်သည်နှင့် သူများနှင့်မတူ၊ ရှက်စရာကြီး၊ သူများထက် သာကိုသာမှ ဟူသော ရှက်စရာကြီး အလှူ၊ သာမှ အလှူမျိုးထဲသို့လည်း စာရင်းဝင်နေချိမ့်မည် ထင်၏။

လောက်မှ လောက်ပါ့မလား၊ နည်းများ နည်းနေလေမလား၊ များ,များ သွားမှာလေလား ဟူသော တွေဝေစိတ်နှင့်တကွ နှလုံးမသာစိတ်များကလည်း လွှမ်းမိုးလျက်နေချိမ့်မည် ထင်၏။ သတိမကပ်သောစိတ်သည် တစ်ခုမှတစ်ခုသို့ ကူးတတ်သည့် အားလျော်စွာ မြင်ရာ၊ ကြားရာမှသည် တွေးမိတွေးရာသို့အထိ ပျံ့နှံ့ကာ ကျီးကန်းတောင်းမှောက် ရွာလျှောက်ပတ်ပြေး၊ ရွာဆော်ခွေးကြီးကဲ့သို့ ဂနာမငြိမ်ဘဲလည်း နေချိမ့်မည်ထင်၏။

ထိုပုစိတ်တို့ဖြင့် အကြောင်းခံထားသော ကောင်းမှုသည် အေးကျိုးကို မရစေနိုင်ပြီ။ ယနေ့ သင်ပြုကျင့်နေသော အလှူတို့ကို စစ်ဆေးကြည့်သော် သာယာစိတ်၊ အလိုမကျစိတ်၊ တွေစိတ်သုံးမျိုးတို့မှ လွတ်၊ မလွတ် သိနိုင်၏။ ထိုသို့ သိနိုင်ရန်ကိုလည်း ဆန်းစစ်ကြည့်ပါဦး။

မလွတ်ကင်းချေသော် ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိတို့ အကျိုးပေးများအဖြစ် ဖြစ်ထွန်းပေါ်ပေါက်လာသဖြင့် ထိုအကျိုးတို့ကို သိမ်းပိုက်ခံရလေသောအခါ အားရတင်းတိမ်ခြင်း၊ အလိုပြည့်ဝခြင်း ရှိစေလိမ့်မည်မထင်။ စိုးရိမ်ခြင်း၊ စိတ်မချခြင်း၊

ကြောက်ရွံ့ထိတ်လန့်ခြင်းများလည်း ကင်းစင်လိမ့်မည်မထင်။ ဤကား အမှား၊ ဤကားအမှန် ဟူ၍ ဝေဖန်သုံးသပ်ဆုံးဖြတ်ချက်ပေးတတ်သော အသိဉာဏ်မျိုးလည်း ပါရှိတော့လိမ့်မည်မထင်။

ထိုအခါ လူမှာ ပစ္စည်းပေါ်လျက်က စိတ်မောရသောကြောင့် သူဌေး လူဆင်းရဲဘဝသို့ ရောက်တတ်လျှင် ရေချိုးရင်းမတ်တတ်က ကိုယ်ပူနေတတ်၏။ ယပ်လေ(ပန်ကာ)အောက် နေလျက်က ချွေးပြန်နေတတ်၏။ ပစ္စည်း၊ ငွေ၊ ရွှေစသည်တို့ကို သိမ်းဆည်းထုပ်ပိုးလျက်က စောင့်ရှံသာ စောင့်နေရတတ်၏။

– မိမိအထက်များနှင့် ဆက်ဆံသော်လည်း မောက်မာစိတ် လွှမ်းနေတတ်၏။
– မိမိအောက်များနှင့် ဆက်ဆံလျှင်လည်း မောက်မာစိတ်ကသာ ဖိစီးနေတတ်၏။
– မိမိနှင့် တန်းတူများကို ဆက်ဆံလျှင်လည်း မောက်မာစိတ်ကပင် နှိပ်စက်နေတတ်၏။

ထိုအခါ မိမိတစ်ယောက်တည်းကိုပင် တည့်အောင်မပေါင်းနိုင်ပြီ။ အများတို့၏ ယုံကြည်မှု၊ အားကိုးမှု စသည်တို့ကား ကြာကြာပေါင်းလေ၊ နှာခေါင်းအရှုံ့ခံရလေလေ ဖြစ်ပြီ။

ထိုသို့ အကျိုးပေးမလှပသည်မှာ အကြောင်းခံ (ကုသိုလ်ပြုစဉ်က) စေတနာကပင် အုတ်အရောရော၊ ကျောက်အရောရော ဖြစ်လာခဲ့သောကြောင့်ပင် ဖြစ်ချေ၏။

လှူစဉ်ကာလတစ်ချက်မျှသော စေတနာလေးကို သန့်ရှင်းစွာ ပြင်ဆင်မထားမိချေလျှင်။

သက်တမ်းတစ်ရာ၌ အကျိုးပေး ခံစားခွင့်ရသော် ထိုအသက်တစ်ရာလုံးလုံး မစင်ကြယ်ပြီ။

အကယ်တိတိ တက်ခေတ်နှင့် ကြုံ၍ ထောင်တန်း၊ သောင်းတန်း၊ သိန်းတန်း၊ သန်းတန်း၊ အသချေ်တန်းတို့၌ အကျိုးပေးခံစားခွင့်ရသော် ထိုသက်တမ်းတို့နှင့်အမျှ ညစ်ပေစွာ ခံစားရချေပြီ။ သို့ကြောင့် ကုသိုလ်တစ်ချက်ပြုချိန်သည် ဓာတ်ပုံ တစ်

ကွက် အရိုက်ခံဘိသို့ (အကုသိုလ်တစ်ချက် ပြုစဉ်၌လည်း ဓာတ်ပုံတစ်ကွက် အရိုက်ခံရဘိသို့ပင်) ပြန်ပြင်ရန်လည်း မဖြစ်၊ လွှင့်ပစ်ရန်လည်းမဖြစ် ဟူသော အခြေသို့ ဆိုက်တတ်လှသဖြင့် ကုသိုလ်ပြုစဉ် အာရုံသန်၊ အထားမှန်ဖို့ ကြိုးစားပါလေ။

ယနေ့လူ့ဘဝဖြင့် သင်ခံစားခွင့်ရနေသော ကုသိုလ်အကျိုးပေးများကို ပြန်စစ်ကြည့်ပါဦး။ စိတ်တိုင်းကျရသော်လည်း အားရခြင်း၊ တင်းတိမ်ခြင်း၊ အလျှဉ်းမရှိသဖြင့် စိတ်တိုင်းမကျသည်သို့သာ ဆိုက်တော့၏။ အကယ်တိတိ စိတ်တိုင်းမကျရသော်ကား အလိုမကျခြင်း၊ အားမရခြင်း စသည်များဖြင့် စိတ်တိုင်းမကျ (စိတ်အထိုင်မကျ)သည်သို့သာ ဆိုက်စေသည် မဟုတ်လော။

လိုသလို ခံစားသုံးဆောင်ခွင့်ရသော်လည်း စိုးရိမ်စိတ်မချခြင်းများ၊ နှောင့်ယှက်နေသဖြင့် စိတ်တိုင်းမကျသည်သို့သာ သက်ဆင်း၏။ အကယ်တိတိ လိုသလို ခံစားသုံးဆောင်ခွင့်မရသော်ကား ပျံ့လွင့်ပူပန်ခြင်းများက ဖိထောင်းကြချေသဖြင့် စိတ်တိုင်းမကျသည်သို့သာ သက်ဆင်းစေသည် မဟုတ်လော။

တစ်ရက်လျှင် ကုသိုလ်အကျိုး၊ လူ့ဘဝ လူ့စည်းစိမ် ခံစားရင်းက အလိုမကျ အားမရခြင်းများ၊ အကြိုက်ချင်းတူသဖြင့် လုယက်ရခြင်း၊ ဆုံးရှုံးရခြင်းများမှသည် အံတုဖက်ပြိုင်ပွဲ ကျင်းပရခြင်း၊ နိုင်သော်ပြုံး၍ ရှုံးသော်မဲ့ပြုံးရခြင်း စသည့် ကုသိုလ်အကျိုးပေးများ လွှမ်းမိုးခြင်းကို ခံနေရပါ၏။

တစ်ရက်၏ ၂၄ နာရီသောအချိန်တို့ကို ကောင်းကျိုးခံစားနေရမှုနှင့် ဆိုးကျိုးခံစားနေရမှု နှိုင်းယှဉ်ကြည့်သော် မည်သည့်ဘက်က များချေမည်နည်း။

သည့်အတူ တစ်သက်တာ စာရင်းချုပ်သော် မည်သည့်ဘက်က အလေးသာစေသနည်း။

- အမိဝမ်းတွင်း နေရစဉ်ကပင် ဒုက္ခနှင့် နေခဲ့ရသူပါ။
- အမိဝမ်းမှ ကျွတ်စကပင် အငိုနှင့် စခဲ့ရသူပါ။
- သေသည့်တိုင် နာမှုစသည့် မခံသာမှုနှင့်ပင် အဆုံးသတ်ရသူပါ။

ဘဝသို့ ငိုပြီး ထွက်လာရပြီး ဘဝဆုံး၌ ပြန်ရတော့လည်း ငိုပြန်ရသည်ချည်းသာ ဖြစ်ပါ၏။ ရယ်ရယ်မောမော ထွက်လာသူ မရှိသကဲ့သို့ ဝမ်းပမ်းတသာ

ပြုံးပြုံးရွှင်ရွှင်ဖြင့် သေသွားသော (ဘဝမှ ထွက်ခွာသွားသော)သူမျိုးလည်း ရှာသော် တွေ့မည်မထင်ပြီ။

စားသည် ထက်သော်လည်း တုတ်လောက် ရိုက်ချက်မပိုင်လျှင် မသေစေနိုင်။ ကုသိုလ်အကျိုးပေးသည် အကုသိုလ်အကျိုးပေးကို ပယ်ဖျက်နိုင်သော စွမ်းပကား ရှိသည် ဆိုပါသော်လည်း စေတနာသည် အကုသိုလ်ဘက်လောက် ပြုချက်မပိုင်သော် ပတ္တမြားကျောက်မြေတွင်းထဲဝယ် ငုပ်ကွယ်၍ ပျောက်လေဘိသို့ ကုသိုလ်သည် ငုပ်ကောင်အဖြစ်သာ ရှိ၏။ ပြောက်ကျားမျှသာ အကျိုးပေးခွင့်ရ၏။ နုံနေးစွာသာ အကျိုးပေးခွင့်ရ၏။ အဘယ်ကြောင့်ဆိုသော် ကုသိုလ်သည် အကုသိုလ်လောက် အရေအတွက်လည်း မများ၊ စေတနာထားရာ၌လည်း နှစ်နှစ်ကာကာ ရက်ရောစွာ လည်း (အကုသိုလ်ပြုတုန်းကလောက်) မရှိ။ အာရုံမှန်သို့လည်း တည့်တည့် မကျ ရောက်ခြင်းကြောင့်တည်း။

အကုသိုလ်ပြုရာ၌ စေတနာသည် သူတစ်ပါးလက်တို့စရာ၊ မျက်စပစ်ပြစရာ ပင် မလိုပြီ။ အလွန်လျှင် ထက်သန်၏။ ရက်ရော၏။ နှစ်နှစ်ကာကာကြီး ရှိ၏။ ဟန့်တားရန် လူကြီးတို့က ကြားဝင်သော်မှ ထိုကြားလွတ်ရာမှပင် တအားကြုံး၍ ရုန်းထွက်ကာ ပြုကျင့်၏။ တားလေ၊ သွားလေ၊ ချိုးလေ၊ ဆိုးလေအထိ လွန်တက်၊ မွန်တက်နေတတ်၏။ စိတ်သည်ကား မိမိ မကောင်းမှုပြုကျင့်တော့မည့် သက်မဲ့သက်ရှိ သူ့ထံသို့ တန်းမတ်စွာ ထိုးကျနေတတ်၏။ ရမ္မက်ကြီးလျှင် ကြီးသလောက် အချိန် ပြည့် ထိုစိတ်၊ ထိုအာရုံမှ ခွာမသွားတော့ပြီ။

အမျက်ကြီးလျှင်လည်း ကြီးသလောက်ပင် အချိန်ပြည့် ထိုစိတ်၊ ထိုအာရုံမှ ဖဲ့မသွားတော့ပြီ။

ကုသိုလ်တွေသည် ပြုနေပါလျက်က ဘာကြောင့် အကျိုးပေးညံ့နေပါသလဲ။ ဤအမေးကို သင်မေးလျှင် သင်လုပ်ခဲ့သောကုသိုလ် ပြုစဉ်က စိတ်ထားလေးကို ပြေးမြင်လျှင် ကိုယ့်အမေး ကိုယ်ပင် ရှက်စရာ ဖြစ်နေချိမ့်မည် မဟုတ်လော။ ထို အမေးမျိုး ပညာရှိရှေ့ သွားမေးမိချေသော် သင့်အား သနားကရုဏာ မြောက်များစွာ ဖြင့် ငုံ့ကြည့်ကာ အော်– ဤသူသည်ကား၊ ကုသိုလ်မပြုတတ်ရှာသူလေးပဲကိုး ဟူ၍ စိတ်တွင်းမှ မှတ်ချက်ချတော့မည်မှာ ဧကန်ပင်တည်း။

အို တက်လမ်းရှာ–

- အသီးကောင်းကောင်းကို ချိုမြိန်စွာ စားသုံးလိုသော်၊
- သင်သည် မျိုးစေ့မှန်ကိုလည်း ရှာဖွေ စိုက်ပျိုးစေသင့်၏။ အဆံပြည့်ကိုလည်း ရှာဖွေ စိုက်ပျိုးစေသင့်၏။ ထိုမျိုးစေ့နှင့် ကိုက်ညီမည့် မြေအမျိုးအစားကောင်းကိုလည်း ရွေးချယ်စေသင့်၏။ ရာသီကိုလည်း လေ့လာစေသင့်၏။

ထိုအကြောင်းခံများ ပြည့်စုံလုံလောက်ပါချေသော် ရာသီကုန်လျှင် သီးနှံစုံဖို့ကား သေချာပြီတည်း။

## ဒါနနောက်မှ ထောက်ခံနေကြသော စေတနာများ

တက်လမ်းရှာအပေါင်းတို့–

စေတနာဟူသည် စေ့ဆော်ခြင်းကို ဆို၏။

ထိုစေ့ဆော်ချက်နှင့် တွဲဖက်၍ပြုရသော စိတ်၊ နှုတ်၊ ကိုယ် သုံးချက်တို့ကိုကား 'ကံ'ဟူ၍ ခေါ်ရ၏။

စေတနာဟူသည့် စိတ်၏ မှီခိုရာ (စိတ်၏ဆရာ)သည် ကြိုက်စေတနာက အားကြီးလာလျှင် ထိုစေတနာက ကြိုက်နေသော ဝတ္ထုအာရုံတို့ကို မတွေးဖြစ် တွေးဖြစ်အောင်၊ မပြောဖြစ် ပြောဖြစ်အောင်၊ မလုပ်ဖြစ်· လုပ်ဖြစ်အောင် ကလေးငယ်တစ်ယောက်၏ ပူဆာမှုမျိုးကဲ့သို့ တိုက်တွန်းစေ့ဆော်ပေးနေတတ်၏။ သည့်အတူ မကြိုက်စေတနာ၊ မသိစေတနာ၊ ဖက်ပြိုင်လိုမှု စေတနာ၊ အထင်လွဲမှု စေတနာ၊ မတင်မကျ စေတနာ စသည့် မကောင်းစေတနာတို့ အားကြီးလာလျှင်လည်း ထိုအားကြီးချက် အပြင်း၊ အပျော့သို့လိုက်ကာ စေ့ဆော်(သွေးထိုးလှုံ့ဆော်) ပေးတတ်ချေ၏။ ကြံစည်စိတ်ကူးမှု စိတ်သို့ ဝင်ရောက်လာသော စေတနာ မလွတ်ကင်းပြီ။ ကိုယ်တိုင်ဆိုသော်ကား စေတနာအပြည့်ပါပြီး၊ သူတစ်ပါး တိုက်တွန်းမှုဆိုသော် စေတနာ တစ်ဝက်နှုန်းခန့် ပါသေး၏။ သည်မျှသာ ကွာခြား၏။ သို့ကြောင့် မည်သည့်အလုပ်ကိုလုပ်လုပ် စေတနာမပါ,ပါ ဟူ၍ ငြင်းစရာပင်မရှိပြီ။

ကောင်းမှုတို့ကို ပြုကျင့်ရာ၌လည်း ထိုစေတနာသည်သာ အရင်းခံဖြစ်ချေ၏။ စေတနာတိုက်တွန်းသောအချိန်တွင် စေတနာတိုက်တွန်းသော ဝတ္ထု(ပစ္စည်း)ဖြင့် စေတနာတိုက်တွန်းသော ပုဂ္ဂိုလ်ထံမှောက် အရောက်သွားကာ ပေးကမ်းစွန့်လွှတ်ရသည်သာ ဖြစ်၏။

- စေတနာမခိုင်းဘဲနှင့် တစ်ဖဝါးမျှ ထွက်ခွာခွင့်မရပြီ။
- စေတနာက မညွှန်ဘဲနှင့် မည်သည့်ပစ္စည်းမျှ တို့ခွင့်မရပြီ။
- စေတနာကမှ မပြဘဲနှင့် မည်သူ့ကိုမျှ စိတ်ညွှတ်ခွင့်မရပြီ။

ထိုစေတနာနှင့်ယှဉ်သော ကံတို့သည်ကား များပြားလှချေ၏။

၁။ အထူး စေ့ဆော်သည့်အတိုင်း ပြုကျင့်ပေးရသော စေတနာကံ၊
၂။ အမြဲ စေ့ဆော်သည့်အတိုင်း ပြုကျင့်ပေးနေရသော စေတနာကံ၊
၃။ သေခါနီးမှ ရုတ်တရက် ကပ်ဝင်လာပြီး စေ့ဆော်သဖြင့် ပြုကျင့်ပေးရသော စေတနာကံ၊
၄။ သမရိုးကျ (စေ့ဆော်နေကျအတိုင်း) စေ့ဆော်သဖြင့် ပြုကျင့်ပေးနေရသော စေတနာကံ။

ထိုလေးမျိုးတို့သည် အကျိုးပေးလှည့်တို့ကို ခွဲတမ်းချပေးသော စေတနာများပင် ဖြစ်ချေ၏။ အထူး အလေးထား၍ပြုသောကံမျိုး ရှိသော် ထိုကံသည် နောက်ဘဝသို့ အကျိုးပေးအဖြစ်ဖြင့် အလှည့်ကျ၏။ အကုသိုလ်ဘက်၌ အမိသတ်မှု၊ အဖသတ်မှု၊ ရဟန္တာသတ်မှု၊ ဘုရားရှင်အား သွေးထွက်သံယိုဖြစ်စေမှု၊ သံဃာသင်းခွဲမှုများဖြစ်ပြီး ကုသိုလ်ဘက်၌ မဟဂ္ဂုတ်ဈာန်(အမြတ်စားစိတ်)ခေါ် ရူပဈာန်စိတ်၊ အရူပဈာန်စိတ်များပင် ဖြစ်ချေ၏။ (မဂ်ဖိုလ်သို့ကျရောက်ပြီး၍ အရိယာဇာတ်ထဲသို့ ရောက်ရှိနေသူသည်လည်း အထက်မဂ်သို့ တက်ရာဝယ် မတက်မီ လမ်းခုလတ်၏ ဉာဏ်ခရီး၌လည်း ထိုဈာန်စိတ်များကိုသာ ဝင်စားနေရသဖြင့် မဂ်ပုဂ္ဂိုလ်များလည်း ပါဝင်၏။ သို့ကြောင့် ထိုပုဂ္ဂိုလ်များ၏ စိတ်သည်လည်း နောက်ဘဝ ချက်ချင်းအကျိုးပေးသော အနေကံသို့ သက်ဝင်၏။)

အမြဲတစေ တံငါ၊ မုဆိုး၊ သားသတ်၊ ငါးသတ်ခြင်း၊ လုယက်တိုက်ခိုက်မှု

ဖြင့် အသက်မွေးခြင်း၊ ပြည့်တန်ဆာအလုပ်ဖြင့် အသက်မွေးခြင်း၊ လိမ်ညာ လှည့်ပတ်လျက်က အသက်မွေးခြင်း၊ အရက်သေစာ သောက်စားခြင်း၊ ရောင်းဝယ်ဖောက်ကားခြင်း၊ သတ္တဝါတို့ သေကျေစေတတ်သည့် လက်နက် အရောင်းအဝယ်ပြုလုပ်ခြင်း၊ ထုတ်လုပ်ရောင်းချခြင်း၊ အဆိပ် အရောင်းအဝယ်လုပ်ခြင်း၊ ထုတ်လုပ်ရောင်းချခြင်း၊ လူအရောင်းအဝယ် ပြုလုပ်ခြင်း၊ အစေခံမွေး၍ ရောင်းစားခြင်း၊ ပြည့်တန်ဆာမွေး၍ ရောင်းစားခြင်း စသည့် အကုသိုလ်ဘက်ရှိ စေတနာကံတို့သည် လေးလံသော အခြားကံမျိုးတို့ မရှိသော် ၎င်းကပင် နောက်ဘဝအကျိုးကို ပေးမည်မှာ သေချာလှ၏။ သည့်အတူ ကုသိုလ်ဘက်၌လည်း ဒါနမှု စသည့် အများကောင်းကျိုးပြု လုပ်ရပ်နှင့် စေတနာများတို့သည်လည်း ထို့ထက်ကြီးလေးသော (ဈာန်၊ မဂ်) စသည့် ကံမျိုးမရှိလျှင် ၎င်းကသာ အကျိုးပေး အလှည့်ကျရောက်စေ၏။

ထိုကံမျိုးလည်း မရှိ၊ ကြီးမားသော ကံထူးမျိုးကြီးများလည်း မရှိပါမူ သေခါနီးစွဲသော စေတနာအတိုင်းသာ နောက်ဘဝသို့ သွားရချေတော့မည်။

ထိုဖြတ်ထိုးကံမျိုး၊ စေတနာမျိုးမှ မပေါ်လာသော်ကား အလေ့ကျပေါက်ပမာလုပ်မိလုပ်ရာ ပြုကျင့်ခဲ့သော စေတနာကံတို့၏ အလုအယက်ခေါ်ဆောင်ရာသို့သာဦးရာစနစ်ဖြင့် လိုက်ပါရချေ၏။ ဝိနိပါတိက (ကျမိကျရာ)သို့ သွားရချေတော့၏။

ဝိနိပါတိကဘေးသည် ကြုံရာကျဘမ်း၊ ပရမ်းပတာ စေတနာနှင့် ပရမ်းပတာအလုပ်မျိုးများမှ ရရှိတတ်သော အကျိုးပေး အလေ့ကျပေါက်များ ဖြစ်ချေရာ ဤဘဝ၊ ဤအကျိုးပေးများမှ ကင်းဝေးလိုလျှင် သတိထိန်းကြိုးလေး စိတ်လည်ပင်းအမြဲ ဆွဲထားသင့်ချေ၏။ သို့မဟုတ် ခွေးမြင်ခွေးစိတ် ပေါက်နေသဖြင့် ခွေးနောက်စိတ်ပါနေရာ သေသောအခါ ထိုအစွဲက လက်ဦးသွားသော် သင့်မှာ နောက်ဘဝခွေးအဖြစ်ကိန်း သေချာပါနေ၏။ သည့်အတူ သတိထိန်းကြိုး မပါသော စိတ်စေတနာသည် သူတကာ့စားချက် သွားရောက် ခိုးစားလေ့ရှိတတ်သော နွားရိုင်းပမာ ဝက်မြင်ဝက်စိတ်ပေါက်၍ ဝက်နောက် စိတ်ပါချေ၏။ ဝက်သားစားသော်ဝက်၏အနား စိတ်ကပ်သွားလျက်က ဝက်စကား ပြောနေတတ်၏။ ဤသို့လျှင်

တစ်နေ့တစ်နေ့ အလေ့ကျပေါက် စိတ်စေတနာများကား မရေတွက်နိုင်ပြီ။ စုထား သလောက်သာ အကျိုးပေးမည်ဆိုပါကလည်း ခံမဆုံးတော့ပြီ။ ယခင်က ကမ္ဘာ ဆက်၍ ခံခဲ့ရသည်များမှာလည်း ၎င်းတို့ကြောင့်။

ကုသိုလ်ပြုရာ၌လည်း လေတိုက်ရာပါသော အနှစ်မဲ့ သစ်ကိုင်းခြောက်ကဲ့သို့ မဟုတ်ဘဲ လေတိုးခံ၊ ရေစားခံသော အနှစ်ပြည့် သစ်တုံးကြီးများကဲ့သို့ ဈာန် ကုသိုလ် (ရှုမှတ်မှုမလွတ်သော ကုသိုလ်)၊ ဉာဏ်ကုသိုလ် (လက္ခဏာသုံးချက် တစ်ချက် မြင်သည်မှ ချုပ်ပြတ်မှုသို့ စီးဝင်သောကုသိုလ်) မျိုးချည်းသာ စုဆောင်း သင့်ချေ၏။ ကောင်းတာလုပ်လျှင် ကောင်းရာဖြစ်မည်။ ယခင်ဘဝက မလှူ၍ သည်ဘဝ အကျနာသည်။ သည်ဘဝ လှူပါမှ နောင်ဘဝ အရသာမည် ဟူသော ကံကုသိုလ်မျိုးတို့နှင့် မတင်းတိမ်သင့်။ ထိုကုသိုလ်မျိုးသည် သတိစိုက်အားဖြင့် စူးစိုက်ချထားခြင်းကင်းသဖြင့် လေတိုးမိုးတိုးဒဏ် မခံနိုင်ပြီ။ လေပင့်ရာနေ၍ ရေစားရာ မျောတတ်ချေသည်။

## စေတနာတို့၏ အကျိုးပေးချိန်များ

၁။ သည်ဘဝမှာပင် ချက်ချင်းလက်ငင်း အကျိုးပေးစေသော စေတနာကံ၊

၂။ နောက်ဘဝ၌ မုချအကျိုးပေးစေမည့် စေတနာကံ၊

၃။ ထိုနောက်ဘဝမှ နိဗ္ဗာန်မရမီ၊ မဝင်မီ အလှည့်ကျရာက ဘဝရစေမည့် စေတနာကံ၊

၄။ ဘယ်ဘဝ ဘာအကျိုးကိုမျှ အကျိုးပေးလောက်အောင် အဆံ မပါ သော စေတနာကံ။

ဤသို့လျှင် အကျိုးပေးချိန် ကွဲပြားချေသေး၏။

စေတနာ၏ လက်ဦးအချက်၌ ထက်သန်သော ကုသိုလ် (အကုသိုလ်)တို့၏ အကျိုးပေးသည် နောင်အထိ ဆိုင်းငံ့တော့မည်မဟုတ်။ လေးလံသောခဲကို ကောင်းကင် ပစ်မြှောက်ရာ၌ အတက် (ပစ်ပေါက်ခြင်း)နှင့် အကျ (တုံ့ပြန်ခြင်း)တို့သည် ဆက်

တိုက်ကဲ့သို့ ပြုကျင့်ပြီးနောက် တောက်လျှောက် အကျိုးပေးပါစေ၏။ နောင်မှဟူသော နောင်မျှော်ကိစ္စသည် ဦးဦးဖျားဖျား (သူတစ်ပါး တိုက်တွန်းရလွတ်၊ ဝမ်းတွင်း ကိလေသာ မဟန့်တားမိ) စေတနာ၏ ညံ့ဖျင်းမှုကြောင့်ချည်းပင် ဖြစ်ချေ၏။ သူ တစ်ပါး တိုက်တွန်းမှုရှိမှ ပြုရသော ကုသိုလ်ကံစေတနာ တွန့်ဆုတ်ထုံထိုင်းမှုကြား မှ ထွက်ပြူလာခဲ့ရသော ကုသိုလ်ကံစေတနာတို့ကား အကျိုးလက်ငင်း အကျိုးထူး မျိုး ခံစားရဖို့ မမြင်ပြီ။

လက်ရင်းစေတနာ၊ ထက်လွန်းအားကြီးလှသဖြင့် ချက်ချင်း ရွှေမိုး၊ ငွေမိုး ရွာချခြင်းခံရသော ဆင်းရဲသားမဟာဒုတ်၏ စေတနာကဲ့သို့ ဖွံ့ဖြိုးမှ လက်ငင်းကျိုးကို ရတတ်သည်။

လက်ရင်းစေတနာ ထက်လွန်းအားကြီးလှသဖြင့် ချက်ချင်း မြေမျိုခံကြရရှာ သော ဒေဝဒတ် သုပ္ပဗုဒ္ဓသားအဖ၏ စေတနာမျိုးကဲ့သို့ ဖွံ့ဖြိုးသော်ကား နောင်အထိ မဆိုင်းတတ်။

စေတနာ၏ အလယ်ပိုင်းအချက်များ၌ ထက်သန်သော် လာမည့် ဒုတိယဘဝ ၌ အကျိုးပေး သေချာ၏။

စေတနာတစ်ခု၏ ခရီးစဉ် (တစ်ဝီထိ)၏ နောက်ဆုံးကျမှသာ ထက်သန် သော်ကား တတိယဘဝမှစ၍ နိဗ္ဗာန်မရမီအတွင်း အကျိုးခံစားခွင့် ရရာဘဝ အလှည့်ကို တန်းစီ မျှော်လင့်ပေဦး။

မိမိအိမ်ရှေ့၊ ဆိုင်ရှေ့ အလှူခံ လာရပ်သဖြင့် အမှတ်မဲ့ ပစ်ထည့်မိသော အလှူမျိုး၊ လမ်းသွားရင်း အလှူခံတို့က ခွက်ထိုးလက်ခံ တွေ့ကြုံရင်ဆိုင်ရသဖြင့် အမှတ်မဲ့ စွန့်လွှတ်ထားခဲ့သည့် အလှူမျိုး စသည့် ဖာသိဖာသာ ဒါနမျိုးစေ့တို့မှာ ကား စပါးအမည်ရသော်လည်း ရေမအောင်၊ မိုးမလိုက်သဖြင့် စပါးဖျင်းဘဝသို့ ရောက်ရသော အဆံမပါတို့ကဲ့သို့ မည်သည့် ကောင်းကျိုးကိုမျှ ခံစံခွင့် ရရှိတော့မည် မဟုတ်ချေပြီ။ သည့်အတူ စေတနာမပါသော အပျော်အလှူ၊ မတော်အလှူ၊ အမျှော် လှူတည်းဟူသော မိရိုးဖလာ ဓလေ့ခံဒါနမျိုးတို့သည်လည်း ကောင်းကျိုးဘက် ယုံးဝ လက်ဆက်လိမ့်မည် မဟုတ်ချေပြီ။

အထွက်ပါ အကျိုးပေးချိန်တို့ကို ထောက်ဆလျှင် အသိဉာဏ် ဖျတ်လတ်သွက်လက်မှုသည် မည်မျှအရေးပါသည်ကို သိရှိနိုင်၏။ စေတနာဇောတစ်ခုတည်းမှာပင် ဤမျှ အကျိုးပေးချိန် ကွာခြားလျှင် စေတနာတစ်ခုစီ၌ကား ဆိုဖွယ်မရှိတော့ပြီ။

ထိုစေတနာတစ်ခုချင်းတို့၌ကား ပုဗ္ဗစေတနာခေါ် မစွန့်လွှတ်မီ၏ အရှေ့ပိုင်းစေတနာစုများ၊ မုဥ္စခေါ် စွန့်လွှတ်ဆဲ စေတနာမျိုးစုများ၊ အပရခေါ် စွန့်လွှတ်ပြီးနောက်ပိုင်း၏ စေတနာစုများ ဟူ၍ ဒါနတစ်ခုဝယ် အုပ်စုသုံးစု ခွဲထားချေသော် အရှေ့ပိုင်းစေတနာစုသည် လက်ရင်းထက်သန်လွန်းလှသဖြင့် ယခုဘဝ အကျိုးခံစားခွင့်ရသော် ပဌမအရွယ် မွေးစမှ (၃၃) နှစ်အတွင်း၊ သို့မဟုတ် မိဘအရိပ်ခိုလှုံစဉ်ဘဝ၌ အကျိုးခံစားခွင့်ရစေ၏။

အလယ်ပိုင်းစု လက်ရင်းသန်က ဒုတိယအရွယ် အသက် (၃၄) နှစ်မှ (၆၇) နှစ်အတွင်း သို့မဟုတ် မိမိကိုယ်ပြီး ကိုယ်ပိုင်အိမ်ထောင်သည်ဘဝ၌ အကျိုးခံစားခွင့်ရစေ၏။

နောက်ပိုင်းစု လက်ရင်းသန်သော်ကား တတိယအရွယ် အသက် (၆၈) နှစ်မှ တစ်ရာအတွင်း သို့မဟုတ် မိမိက သားရိပ်၊ သမီးရိပ် ပြန်လည်ခိုလှုံရသည့်ဘဝ၌ အကျိုးခံစားခွင့် ရစေ၏။

ထိုသုံးချက်တို့ အားလုံးကောင်းသော် တစ်ဘဝလုံး ကောင်းကျိုးခံစားရပြီး တစ်ပိုင်းပိုင်း၌ ချို့ယွင်းသော် ထိုချို့ယွင်းပိုင်းတို့၌ ဆုတ်ယုတ်တတ်ချေ၏။ ယခုမျက်မြင်သို့လိုက်၍ သင်ကြည့်ချေသော် အချို့ကား ငယ်စဉ်တွင် သူဌေးသားသမီးဖြစ်ခဲ့ရပြီ။ အိမ်ထောင်ကျသည်မှ သေသည်အထိ ဆင်းရဲသူလည်း တွေ့ရမည်။ သားသမီး ကြီးပြင်းလာမှ သားသမီး၏ အထောက်အပံ့ဖြင့် ကြီးပွားနေသူများလည်း တွေ့ရမည် ဖြစ်၏။ တစ်ဖန် အချို့ကား မွေးကတည်းက ဆင်းရဲသား သားသမီးများ ဖြစ်ကြရပြီး အိမ်ထောင်ကျခါမှ သေသည်အထိ သူကြွယ်ဘဝဖြင့် ကြွယ်ဝချမ်းသာလာသူများလည်း တွေ့ရမည်။ သားသမီး ကြီးပြင်းလာကာမှ မိဘပစ္စည်းသုံးဖြုန်းသူ တစ်ယောက်တစ်လေ ပါရှိလာပြီး ပြန်လည် ဆုတ်ယုတ်သွားသူများလည်း တွေ့ရမည်။ အချို့က ငယ်စဉ်တောင်ကျေး ကလေးဘဝမှ အိမ်ထောင်သည်ဘဝအထိ ဘဝအထိနာလာခဲ့ပြီးမှ သားသမီး ကြီးပြင်းလာသောအခါ အကြွေးပေး

မည့်သား တစ်ယောက်တစ်လေ ထွန်းပေါက် ပါဝင်လာကြပြီး အသက်ကြီးကာမှ ချမ်းသာသူများလည်း တွေ့ရမည်။ အချို့ကား မွေးစမှ သေဆုံးအထိ ကုန်းကောက် တတ်စရာမရှိလောက်အောင် မွဲပြာကျဘဝဖြင့် လူ့ဘဝ နေထိုင်သွားကြရသည်များ တို့ကိုလည်း တွေ့ရမည် ဖြစ်၏။ သင်ကိုယ်တိုင်ပင် သင့်ဘဝ ပြန်လည် ဆန်းစစ် ကြည့်က သင့်စေတနာ သုံးချက်စုံ ခွင်လုံးပိုင် ဟုတ်၊ မဟုတ် သိသာနိုင်ချေသည်။

သို့ကြောင့် မိမိကိုယ်ပိုင် စေတနာသည် အရေးပါလှ၏။

- သင့်စေတနာထက် ကျော်လွန်၍ မည်သည့်ဘုရားကမျှ မကယ်တင် နိုင်ပြီ။
- သင်၏ မကောင်းစကို ဆိုးစဖြစ်အောင်လည်း မည်သည့်ဘုရားကမျှ မဟန့်တားနိုင်။
- သင်၏ ဆိုးစကိုလည်း ကောင်းစထွက်လာအောင် မည်သည့်ဘုရား ကမျှ မြှင့်တင်မပေးနိုင်။

ဘုရားရှင်သည် သင် လျှောက်လှမ်းတတ်ရန် ကောင်းလမ်း၊ ဆိုးလမ်း ခွဲခြားဝေဖန်ကာ ဆုံးမရုံကလွဲ၍ အခြား ဘာကိုမျှ လိုတိုး၊ ပိုလျှော့ ပြုပြင်ပေးမည် မဟုတ်ချေ။ ဘုရားသော်မှ ပြုပြင်မပေးနိုင်သော် အခြားကား သင်အားကိုးလျှင် သင်သာလျှင် ခရီးပမ်း၍ စိတ်နွမ်းမည်သာ ဖြစ်ချေ၏။

ဘာသာတိုင်းတို့သည် အကြောက်လွန်ရာမှ အားကိုးရှာခဲ့သည်ဟု ပြောခဲ့ပြီး ဖြစ်၏။ ယခုအခါ၌လည်း စီးပွားရေးသမားတို့ကား မိမိကြီးပွားနှုန်း သည့်အောက် လျော့ကျနိမ့်ပါးမသွားစေရန် ဆရာကောင်းရှာဖွေကာ ကုဆေး တောင်းတတ်၏။ ကုဆေးတောင်းရင်းက လာဘ်တင်ရ၏။ ထိုလာဘ်တင်ရင်းကပင် ဆရာ့ဘက်က လည်း ထိုလာဘ်ကို စားသောက်လျက်က ပြုပြင်ပေးရင်းကပင် သင့်စေတနာအရှိန် ကုန်ဆုံးသွားပါက ကြီးပွားနှုန်း လျှော့ကျသွားသည်ကို သင် မျက်မြင်မဟုတ်လော။

နိုင်ငံရေးသမားကြီးတို့ကလည်း မိမိ အာဏာသက်တမ်း လက်ဆက်နိုင်ရေး များနှင့် အဏာစက်ရှိန်သည့်ထက် လက်ထိန်ရန်လည်းကောင်း၊ သည့်အောက် လျော့ကျနိမ့်ပါးမသွားစေရန်လည်းကောင်း ကြောက်စိတ်များဖြင့် ဆရာကောင်းထံ ချဉ်းကပ်ကာ ကုဆေးရွေးတတ်ကြ၏။ ကုဆေးသော့က်ရင်းကပင် လာဘ်တင်ရသေး

၏။ ထိုလာဘ်တင်ရင်း၊ တစ်ဖက်ကလည်း လာဘ်စားရင်း၊ ပြုပြင်ပေးရင်းကပင် ရာဇပလ္လင်ပေါ်က ကံရှိန်ကုန်သော် ဆင်းသွားရသည်ကို သင့်မျက်မြင် မဟုတ်လော။

တစ်ဖန် အာဏာသူတောင်းစား ဆင်းရဲသား မွဲတေသမားများကလည်း မိမိ၏ စေတနာကံအဟုန်ကို မသိကျိုးကျွံပြုကာ ဆရာ့ထံရောက် ကောက်ရနိုးနိုး မျှော်ကိုးလျက်ပင် လာဘ်တင်၊ လာဘ်စား ကုစားကြလေကုန်၏။ မိမိစားရမည့် ဝမင်းလုပ် သေးသေး, သေးသေးဆုပ်၍ အဆင့်အတန်း နောက်ဆုတ်သွားသည်ကို သင့်မျက်မြင်မဟုတ်လော။

သင့်ကံ မကောင်းဘဲနှင့် မည်သူနှင့်မျှ မပေါင်းနှင့်၊ နှာခေါင်းကျည်ပွေ့ ထိစေမည်။

ကံကောင်းလိုလျှင် အကြံကောင်း၊ အပြောကောင်း၊ အလုပ်ကောင်း လုပ်ပါက သင် မတောင်းဘဲနှင့် အကောင်းချည်းပဲ တွေ့ရစေမည်။ သင့်ကံထက် ခိုင်လုံစိတ်ချရသော မိတ်ကောင်းမရှိ။ သင့်ကံထက် ကြောက်စရာကောင်းသော ရန်ဘက်လည်း လောကဝယ် ရှာမတွေ့ပြီ။

စေတနာတစ်ခုချင်း၏ အလယ်ပိုင်းထက်သော စွန့်လွှတ်မှုမျိုးတို့၌လည်း ထိုအလယ်ပိုင်းစေတနာစု၏ လက်ရင်းထက်က ဒုတိယဘဝ၏ ပဌမအရွယ်၊ ထိုအလယ်ပိုင်းစု၏ အလယ်ဇောထက်က ဒုတိယဘဝ၏ ဒုတိယအရွယ်၊ ထိုစေတနာအလယ်ပိုင်း (မုဥ္စ)စု၏ အဆုံးဇော အပရထက်က ဒုတိယဘဝ၏ တတိယအရွယ်စသည်ဖြင့် အထက်ပုဗ္ဗစေတနာစုပိုင်းနှင့် ချင့်တွက်၍ ခွဲဝေရာ၏။ သည့်အတူစေတနာတစ်ခုချင်း၏ ပုဗ္ဗ၊ မုဥ္စ၊ အပရခေါ်သော ရှေ့ပိုင်း၊ အလယ်ပိုင်း၊ နောက်ပိုင်းများ၊ဖြင့် နောက်ဆုံးဇောများ၏ အကျိုးပေးခွင့်သာရာ တတိယဘဝမှ နိဗ္ဗာန်အတွင်းတို့၌လည်း အထက်ဖြစ်ရပ်တို့နှင့် ချင့်တွက်ကာ ခွဲဝေသုံးသပ်ပါလေ။

အဟောသိကံခေါ်သော စေတနာ တစ်ခုတစ်ခု၏ အစ၊ အလယ်၊ အဆုံးတို့၌လည်း ထက်သန်မှုမပါ၊ စေတနာ တစ်ပိုင်းတစ်ပိုင်းတို့၏ အစ၊ အလယ်၊ အဆုံးတို့၌လည်း စိတ်ဝင်စားမှုမရှိသော စွန့်လွှတ်မှုမျိုးသည် သင့်ပစ္စည်း ကုန်ခမ်းရုံကလွဲ၍ ရင်းစား ပြန်မရပြီ။

# စေတနာတို့၏ သန့်စင်မှု၊ ညစ်ပတ်မှုများ

တက်လမ်းရှာအပေါင်းတို့-

သင်၏စွန့်လွှတ်မှုမပြုမီ အရှေ့ပိုင်းမှာဖြစ်စေ၊ စွန့်လွှတ်ပြီးနောက် နောက်ပိုင်းမှာ ဖြစ်စေ စိတ်ညစ်ရှုပ်ထွေး ကိလေသာအမြွေးစကလေး နည်းနည်းမျှ ရောထွေးပါဝင်နေချေသော် ထိုစေတနာ သန့်စင်မှုမရှိ။ အထက်တန်းမျိုးစေ့ မဟုတ်။ အကျိုးပေးတို့ကို ခံစားခွင့်ရရာ၌ ကောင်းကျိုးသက်သက်ချည်း ခံစံရလိမ့်မည် မဟုတ်ချေပြီ။

အကယ်တိတိ သင့်စွန့်လွှတ်မှု၏ အရှေ့ပိုင်းကပ်လျက်က ဖြစ်စေ၊ နောက်ပိုင်း၏ ကပ်လျက်နားက ဖြစ်စေ စိတ်ညစ်ရှုပ်ထွေး ကိလေသာအမြွေးစလေးများ နည်းနည်းမျှ ရောထွေးမပါသော်ကား သင့်စေတနာ အထက်တန်းစားမျိုးဖြစ်ပြီး သန့်ရှင်းစင်ကြယ်မှု ရှိပြီ။ သို့မှသာ အကျိုးခံစားခွင့်ရရာ၌ အကောင်းကိုချည်း ခံစံရပေလိမ့်မည်။

သို့ကြောင့် နောင်နှစ် စပါးမျိုးထားမည်ပြုသော ကာလ-

- ထိုစပါးသည် ရွက်မှော်၊ ဒိုက်သရေ၊ အဖျင်းစုများ ကင်းစင်နေစေရန်၊
- အဆံချောင်၊ အဆံကပ် အသေးအညှပ်ကလေးများ ရောနှောမပါစေရန်၊
- ပိုးထိုး၊ လောက်ဝင် မျိုးစေ့ကို သေးသိမ်စေမည့် အနာအဆာများ လွတ်ကင်းစေရန်။

လယ်သမားကြီးသည် သတ်မှတ်သည့် မျိုးစပါးကို အထပ်ထပ် လှေ့ပြာ ယပ်ထုတ်ပစ်ဘိသို့ မိမိ၏ စေတနာမျိုးစေ့များကိုလည်း သတိမပြတ် အထပ်ထပ်တို့ဖြင့် ကြိုက်ဇောများမကပ်သာစေရန်၊ မကြိုက်ဇောများ မကပ်သာစေရန်၊ မေ့ဇောများဖြင့် မပြုမိစေရန် လှေ့ထုတ်ပစ်သင့်၏။ သန့်ပြန့်သော စေတနာစစ်စစ်ချည့် ဖြစ်ဖို့ အရေးကြီး၏။

ငါစွဲ၊ ဝဋ္ဋဆွဲ၊ ပုဂ္ဂိုလ်စွဲတည်း ဟူသော ရွက်မှော်ဒိုက်သရော၊ အဖျင်းစုများ စေတနာအစဉ်၌ ငြိဝင်မှု မပါရှိစေရန် သတိ(ရှုမှတ်မှု)ဖြင့် မှုတ်ထုတ်ပစ်သင့်၏။

စေတနာ နုံနေးခြင်း၊ သူတစ်ပါး တိုက်တွန်းအားပေးမှုကို စောင့်စားခြင်းတည်း ဟူသော အဆံချောင် အဆံကပ်များ ကင်းစင်စေရန်လည်း ပုဂ္ဂိုလ်၏ အကျင့်သီလ တို့၌ ယုံကြည်စိတ်ချခြင်း၊ မိမိပိုင်ဝတ္ထုပစ္စည်းစုများ၌ နှမြောမှုအား စွန့်ပယ်ခြင်း တို့ဖြင့် စေတနာတင်းပြည့်အဖြစ်သို့ ရောက်စေသင့်၏။

ဤစွန့်လွှတ်မှုကို အရင်းတည်၍ ရလာဒ်ကို မျှော်ကိုးခြင်း၊ မရမည်ကို ပူပန်ခြင်း စသော ငယ်ထိပ်ထက်၌ တက်ကိုက်စေမည့် ပိုးနှစ်ကောင်တို့ကိုလည်း ဒေသတိလက်ရိုးပါသော ဉာဏ်ဓားဖြင့် ပါးပါးလှီး၍ ပစ်ခဲ့သင့်၏။

– အားလုံးသည် ကောင်းစားချင်၍ ကောင်းမှုကို ရွေးပြုနေပါသည်။

– သင်ကော ကောင်းစားချင်၍ ကောင်းမှုပြုသူ မဟုတ်လော။

ကောင်းစားချင်သူသည် အကောင်းစားစေတနာကိုချည်း မွေးထုတ်သင့်ချေ ၏။ ခေါ်တောနှင့်ရသောသားကို ရေဆေးငါး ဖွေးဖွေးဖြူ သားထွေးမျိုး ဖြစ်ပါစေ ဟူ၍ ဆုတောင်းသော်လည်း ဆုတောင်းကား၊ သင့်လုပ်စာကို ကျော်လိမ့်မည်ကား မဟုတ်ပြီ။ ညစ်ပေမှုနှင့်ယှဉ်သော စေတနာသည် ညစ်ပေမှုကိုသာ အကျိုးပေးမည် မှာ သေချာ၏။

## စေတနာတို့၏ ကျောထောက်နောက်ခံများ

အို တက်လမ်းရှာ–

စေတနာသည် အယုတ်စား၊ အမြတ်စား ဟူ၍ နှစ်မျိုးကား ခွဲခြားထားခဲ့ပြီ။ တစ်ဖန် အယုတ်စားတွင်လည်း အကြောင်းခံနှစ်ခုပါသော စေတနာ၊ အကြောင်းခံ သုံးခုစလုံး စုံလင်သော စေတနာ ဟူ၍ နှစ်မျိုးစီ ခွဲခြား မှတ်သားရဦးမည်။

ဤ၌ အကြောင်းခံဟူသော စကားရပ်သည် ကောင်းစားမှုကို ထောက်ပို့ပေး မည့် (မကောင်းစားမှုတို့ကို သန့်စင်ပေးမည့်) နောက်ခံများကို ဆိုချေ၏။

တစ်ဦးကား ပစ္စည်း(လှူဖွယ်ဝတ္ထု)၌လည်း သိမ်းပိုက်ထားလိုမှုကို စွန့်လွှတ် ၏။ မိမိစိတ်တိုင်းကျ စွန့်လွှတ်ခွင့် ရရှိသဖြင့် စိတ်ကြည်သာမှုလည်း ရှိ၏။

သို့ကြောင့် တပ်မက်မှု၊ နှလုံးမသာယာမှု ဟူသော မကောင်းစားမှုတို့ကိုကား သန့်စင်ပေးထား၏။ သို့တစေလည်း စိတ်ကစားမှုများဖြစ်စေ စိတ်ငြိမ်သက်မှု မရှိခြင်း၊ တွေဝေစိတ် (ဇဝေဇဝါစိတ်ထားခြင်း) စသည့် မိမိစွန့်လွှတ်မှုကိစ္စပေါ်၌ စိတ်တစ်စုတစ်ဝေးတည်း မထားနိုင်သော စိတ်ထားမျိုးကား ရှိနေချေသေး၏။ ထိုစိတ်ကစားမှုသည် တွေဝေမိန်းမောခြင်း၊ ပျံ့လွင့်ခြင်း၊ ယုံမှားခြင်း၊ မောဟကို မသုတ်သင်နိုင်သဖြင့် ထိုစွန့်လွှတ်မှုသည် လောဘ၊ ဒေါသနှစ်ပါးကိုသာ သတ်၍ ပေးလှူသော ဒါနမျိုး မည်ချေ၏။

နောက်တစ်ဦးမှာကား သာယာမှု၊ တပ်မက်မှုနှင့် နှလုံးမသာကြည်မှု နှစ်ပါးတို့ကိုလည်း သန့်စင်ထားပြီး ဖြစ်၏။ စွန့်လွှတ်မှုကိစ္စတစ်ခုတည်း၏ အပေါ်၌သာ စူးစိုက်သော သတိရှုမှတ်ချက်ဖြင့် မိမိစိတ်ကို တစ်စုတစ်ဝေးတည်း စည်းဝေးတိုင်ပင်စေခြင်း၊ ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့၏ သနစ်မှန်ကို စုပေါင်းဝေဖန်ကြခြင်း၊ ထိုဝေဖန်ရာမှ ရလာသော ခရီးသွားများချည်းသာ (မမြဲသည်သာ) ဖြစ်ကြသည်။ ငါတစ်ဦးတည်းပိုင် မဟုတ်ခြင်း (အစိုးမရခြင်း)၊ အချင်းချင်း တိုက်ခိုက်နေကြခြင်း (ပျက်စီးနေကြခြင်း) ဟူသော အကြောင်းမှန်သုံးချက်တို့ကိုလည်း တညီတညွတ်တည်း ဆုံးဖြတ်ချက်ချကြချေကုန်၏။ ထိုစွန့်လွှတ်မှုမျိုးသည်ကား မောဟ (အမှန်ကို တားဆီးပိတ်ပင်မှုပေးထားသည့်အဝိဇ္ဇာ)ကိုပါ သတ်ဖြတ်ပြီး စွန့်လွှတ်ခွင့်ရသဖြင့် အကြောင်းသုံးချက်စုံ ဒါနမျိုးမည်ချေ၏။

ထိုနှစ်ဦးတို့တွင် နောက်လှူသည်သာ စွန့်လွှတ်မှုဟူသော စကားလုံးကို ပုံစံပြည့် ဖော်ဆောင်နိုင်သူ ဖြစ်ချေ၏။ ဒါနမျိုးတို့တွင် စေတနာဒါန၊ ဉာဏ်ယှဉ်ဒါန၊ စွန့်လွှတ်မှုဒါန၊ တိုက်တွန်းလွှတ်ဒါန၊ ပါရမီဒါနမျိုးသို့ ခေါင်းထိုးဝင်စေ၏။

သို့တစေလည်း ထိုသုံးချက်စုံ၏ ရှေ့နား၊ နောက်နားတို့ဝယ် ငါစွဲ၊ ဝတ္ထုစွဲ၊ ပုဂ္ဂိုလ်စွဲများ တစ်ချီတစ်ချီ အဟပ်ခံလိုက်ရသဖြင့် ပြုံးပြ၊ မဲ့ပြစိတ်နှင့် ငေးမောစိတ်များ အဟန့်ခံရဦးမည်ဆိုလျှင် သုံးချက်စုံ အယုတ်စားအဖြစ်သို့ သက်ဆင်းပြန်ချေသေး၏။ သုံးချက်စုံပြီး သတိဉာဏ်အထပ်ထပ်ဖြင့် အစောင့်ချထားသော စွန့်လွှတ်မှု စေတနာမျိုးစုဖြစ်မှသာ အကောင်းစား၊ အဆင့်မြင့်ကို လက်ဝေခံနိုင်ချေ၏။

ထိုစွန့်လွှတ်မှုမျိုးသည်သာ လူချမ်းသာသက်သက်ချည်းကို ရစေနိုင်၏။ နတ်ဘုရင် ဆင်းရဲသားဘဝမှ လွတ်ကင်းနိုင်ချေ၏။

ထိုစွန့်လွှတ်မှုမျိုးသည်သာ နိဗ္ဗာန်ချမ်းသာ သက်သက်ချည်းကို ရစေနိုင်၏။ အရိယာသခင် ပင်ပန်းမှုဘဝမှ လွတ်ကင်းနိုင်ချေ၏။ အရိယာဖြစ်လျက် ဘုန်းမွဲ၊ ကံမွဲဘဝသို့ ရောက်ရခြင်း၊ အများစွပ်စွဲခံရခြင်း၊ အခြံရံကင်းခြင်း စသည့် ဒုက္ခပေါင်းစုံတို့မှ ကွင်းလုံးကျွတ် လွတ်မြောက်စေသော အရိယာစည်းစိမ်မျိုးကို ခံစားနိုင်ချေ၏။

အကယ်တိတိ သတိလက်လွှတ်ဖြင့် စွန့်လွှတ်ခဲ့သဖြင့် အကျိုးပေးရာဘဝ၌ အကြောင်းခံနှစ်ပါးဖြစ်သော ရပစ္စည်းအပေါ်၌ တပ်စွဲလည်း ကင်းပါ၏။ ဆုံးရှုံးသော်လည်းကောင်း၊ မရသော်လည်းကောင်း ကြည်သာမှုလည်း ရှိပါ၏။ သို့တစေလည်း ပညာပါရမီ ဖြည့်ရာ၌ မိမိဉာဏ်ဝင်စားလိုရာတို့သို့ သတိ၊ အသိ တန်းမတ်စွာ ကျရောက်မသွားနိုင်ပါသော်ကား နိဗ္ဗာန်ချမ်းသာကြီးမျိုးကို လက်ဝေခံမဖြစ်နိုင်။ သတိတစ်လုံးမပါဝင်သော စွန့်လွှတ်မှုသည် နိဗ္ဗာန်ဆုကို ရယူရာတို့၌ စကားအလွန်အပြောလှ၏။ သတိကင်းသဖြင့် လက်တွင်းလွှတ်အဖြစ်သို့ ရောက်နေတတ်၏။ လူချမ်းသာ၊ နတ်ချမ်းသာဆုတို့ကို ခံစားခွင့်ရရာတိုင်းတို့၌လည်း တစ်ဖက်ပြောကိုသာ ခေါင်းညိတ်ခဲ့ရသည်က များ၏။ ကိုယ်ပိုင်အသိဉာဏ်ဖြင့် ဘာကိုမျှ မဆုံးဖြတ်နိုင်ချေပြီ။ မှောက်လျက် လှေမျှောကြီးကို မောပမ်းစွာဖြင့် တွယ်ဖက်၍ လိုက်ပါနေရသော ပင်လယ်ပြင်သွား လမ်းမှား၊ မုန်တိုင်းမိ ခရီးသည်ကြီးကဲ့သို့ ရစည်းစိမ်၏ အကျိုးပေးတစ်ကြောသို့သာ မျော၍ ခံစားနေရသည့်ဘဝဖြင့်ပင် ကံအရှိန် ကုန်ခမ်းသွားတတ်၏။ အရင်းကုန်သော်လည်း အမြတ်စွန်းထွက် မကျန်ရစ်ခဲ့သော စာရင်းရှင်းတမ်းကြီးဖြင့် ကျေနပ်၍ ဒုံရင်းသို့ ပြန်ဆင်းလာခဲ့ရမည်သာ ဖြစ်ချေ၏။ တစ်ချိန်က စံပြလုပ်သားကောင်းကြီးများ၏ တစ်နှစ်တာ လုပ်အားစံကွက်မှ ပေါ်ထွက်လာသော ခံစားခွင့် အကျိုးပေးစုတို့ကို ငပလီ၊ အင်းလေး စသည်တို့ကို သွားရောက်ကာ အပမ်းဖြေလာခဲ့ပြီးနောက် ရက်စေ့သော် ဒုံရင်းဖြစ်သော မိမိ၏ စက်ရုံ၊ အလုပ်ရုံတွင်းသို့သာ အလုပ်မှန် ပြန်ဆင်းရသည်သို့သာ ရှိချေ၏။ စံပြလည်းရ၊ ရာထူးလည်း အတိုးမြှင့်ခံရသူမျိုးကဲ့သို့ အဆင့်တက်မည်ကား မဟုတ်ပြီ။

အို တက်လမ်းရှာ–

သတိတစ်လုံးသည် စက်တစ်ခု၏ သော့ထက် အရေးကြီးသည်ကို သတိပြုစေချင်ပါ၏။ သတိပါသူနှင့် မပါသူ အရာရာ၌ ရှေ့နောက်ကွာနေသည်ကိုလည်း သတိပြုစေချင်ပါ၏။ နိဗ္ဗာန်ဆုကို ရယူရာ၌ သတိတစ်လုံး အရင်းတည် မပါဝင်ရုံမျှဖြင့် လက်လွတ်ဆုံးရှုံးကာ တေ့လွဲလွဲနေရသည်ကိုလည်း သတိပြုစေချင်ပါ၏။

သို့ကြောင့် စွန့်လွှတ်မှုပြုလေတိုင်း သတိတစ်လုံးကို ခံခွက်အရာထားလျက်က ထိုသတိခွက်ထဲသို့ ငါရယ်၊ ဝတ္ထုရယ်၊ ပုဂ္ဂိုလ်ရယ် ပစ္စည်းသုံးမျိုး ပေါင်းထည့်ကာ စွန့်လွှတ်တတ်ရန် အကြံပြုလိုပါ၏။ ထိုသတိခံခွက်ပေါ်သို့ကား အမှန်အတိုင်း ကိုယ်ပိုင်ဉာဏ်တို့ဖြင့် ထိုးထွင်း၍သိပိုင်မှုရှိသော အသိကိုများ အဖုံးအအုပ်အဖြစ် ထားရှိပါမူကား အတိုင်းထက်အလွန်၊ တံခွန်နှင့်ဘုရားကဲ့သို့ ကြွားရွှားစွာ ဖွံ့ဖြိုးစေမည်မှာ မြေကြီးလက်ပုတ်သော်မှ ငုတ်နှင့်တိုက်မိ၍ လွဲချင်လွဲဦးမည်။ ကိုယ်ချမ်းသာမှုနှင့် နိဗ္ဗာန်ဆုတို့ကား မလွဲတော့ပါပြီ။

ဘာသာတိုင်းတို့၌ သင့်လိုပင် ကောင်းစားချင်သဖြင့် ၎င်းတို့ အားကိုးရာ၌ စွန့်လွှတ်နေကြရှာပါ၏။ ကိုယ်ချမ်းသာမှု၊ ရုပ်ဓာတ် အဆင့်အတန်းများလည်း စေတနာထက်၍ ရက်ရောသလောက် အကျိုးပေးလည်း သန်ကြပါ၏။ မိုးပျံတိုက်တာကြီးများ၊ ခေတ်မီပစ္စည်းများ၊ ငွေကြေးနေများ သုံးမကုန်စွဲမမိနိုင်လောက်အောင်ပင် များပြား ပေါလွန်လွန်းလှပါချေ၏။ သို့တစေလည်း စေတနာသန့်ပြန့်မှုကို တွန်းအားပေးတတ်သော ကိုယ်ပိုင်ဉာဏ်ရင့်ကျက်မှုကို ဖွင့်ဖော်ပေးတတ်သော လမ်းမှား၊ လမ်းမှန်တို့ကို ခွဲခြားပေးတတ်သော ထိုသတိ၊ အသိတို့ ပြတ်လပ်နေကြသဖြင့် စိတ်ချမ်းသာမှုများသည် ပစ္စည်းပေါကြွယ်သလောက် မခံစားရရှာချေပြီ။ အထက်ကို မျှော်လျက်က အောက်သို့ချည်းသာ စုန်ဆင်းနေကြရရှာချေပြီ။ တစ်ဘဝစာသည် တစ်ဘဝမှာသာ ကျန်ရစ်ခဲ့ရရှာချေပြီ။ သူ့ဆရာအပြော သဘောကျကာ ဆရာ့ဉာဏ်မှာပင် လမ်းဆုံးခဲ့ရရှချေပြီ။ လမ်းမှန်နှင့် နိဗ္ဗာန်ဆုဆိုသည်ကိုကား တွေး၍မှ မရရှာချေပြီ။

– သင်ကော ဤဖြစ်ရပ်များမှ လွတ်ကင်းပါပြီလော။
– သင်သည် ဤဖြစ်ရပ်များမှ လွတ်ကင်းချင်ပါသလော။

သင့်ကိုယ်သင် မေး၍ ကောင်းစားရေးသက်သက်ကိုချည်း မြိန်ယှက်စွာ စားသုံးလိုလျှင်၊ ကောင်းစားရေးတို့ကို တစ်ဘဝထက် တစ်ဘဝ အဆင့်မြင့်မြင့် ခံစားကာ အထက်သို့တက်လိုလျှင် မည်သည့် စွန့်လွှတ်မှုမဆို သတိ၊ အသိပါသော စွန့်လွှတ်မှုမျိုးချည်းသာ ဖြစ်သင့်ပါ၏။ ထိုသတိ၊ အသိတို့ဖြင့် ကောင်းစားရေးကို ဟန့်တားတတ်သည်။ တပ်မက်မှု၊ မကျေချမ်းမှု၊ တွေးတောငေးမောမှု (မိမိ၏ စွန့်လွှတ်မှု၌ စိတ်စဉ်ချထားခြင်း မရှိမှု) တို့ကို ဖြတ်တောက်ချိုးနှိမ်၍ ထားပစ်ခဲ့သင့်ပါ၏။ ထိုသတိ၊ အသိတို့ဖြင့်ပင် စွန့်လွှတ်မှုကိစ္စတစ်ခုကို ပြုကျင့်လျှင် ထို စွန့်လွှတ်မှု၏ အကြောင်းခံ၊ အကျိုးသက်မှုတို့ကို လည်းကောင်း၊ အတွင်းသား ပျက်စီးနေမှုတို့ကို လည်းကောင်း၊ သဘောနှင့် သဘာဝတို့ကို လည်းကောင်း၊ ဖြစ်စဉ်နှင့် ချိန်ကိုက်ထည့်သွင်းကာ ကြည့်ရှုစေသင့်ပါ၏။ ကြည့်ရှုသည့်အတိုင်းလည်း အမှားနှင့်အမှန်ကို ကိုယ်ပိုင်ဉာဏ်ဖြင့် ဝင်ဆံ့စေသင့်ပါ၏။ သို့ ပြုကျင့်နိုင်သော် သင်သည် အကြောင်းခံလှ၍ အကျိုးပေးဝပြီ ဟူ၍ ဆိုသင့်ပါသတည်း။

## စေတနာအကြောင်းခံများနှင့် အကျိုးပေးရာဘုံဘဝများ

တက်လမ်းရှာအပေါင်းတို့–

ဒါနနှင့် ပတ်သက်သမျှ စေတနာ၏ အကြောင်းခံ၊ အကျိုးပေးပုံများကို လည်းကောင်း၊ ထိုစေတနာ၏ အကျိုးပေးချိန်များကို လည်းကောင်း စေတနာတို့၏ သန့်စင်မှု၊ ညစ်ပေမှုများကိုလည်းကောင်း ခွဲခြားကာ ဝေဖန်၍ ပြသခဲ့ပြီး ဖြစ်ချေ၏။ တစ်ဖန်လည်း ထိုစေတနာ၏ လှူဆော်အားကို ယူလျက်က စိတ်ဖြင့်သော် လည်းကောင်း၊ နှုတ်ဖြင့်သော် လည်းကောင်း၊ ကိုယ်ထိလက်လွှန်သော် လည်းကောင်း ပြုကျင့်ကြရသည့် ကံအကြောင်းတရားများကိုလည်း ခွဲခြမ်းဝေဖန်ကာ ပြသခဲ့ပြီး ဖြစ်ချေ၏။

ယခုအခါ၌ကား ထိုဒါနနှင့်ပတ်သက်၍ လက်စသိမ်းဖြစ်သော အကျိုးပေးရာ ဘုံဘဝများကို ထုတ်ဖော်ကာ ဝေဖန်၍ပြသင့်သည်ဟု ယူဆသဖြင့် ထုတ်ဆို၍ ပြပါချေ၏။

ဒါနပြုရာတွင် –

– အကြောင်းမဲ့သက်သက်ဖြင့် စွန့်လွှတ်မှု၊

– အကြောင်းခံနှစ်ပါးမျှဖြင့်သာ စွန့်လွှတ်မှု၊

– အကြောင်းခံသုံးချက်တို့ဖြင့် စွန့်လွှတ်မှု၊

ဤသို့ သုံးမျိုးခွဲခြား၍ မှတ်သားထားလိုက်ပါလေဦး။

ထိုတွင် အကြောင်းမဲ့ဟူသည် ကုသိုလ်အကြောင်းမဲ့ကို ဆိုချေ၏။ ကုသိုလ်အကြောင်းမဲ့ဖြစ်သော် အကုသိုလ်အကြောင်းခံဖြင့်လှူသောဒါန ဟူ၍ တစ်ထစ်ချ မှတ်ယူထားခဲ့ပါဦး။

ကုသိုလ်ဟူသည် အပြစ်ကင်းခြင်း၊ ကောင်းသတင်း ပျံ့သင်းခြင်း ဤနှစ်ချက်နှင့် ပြည့်စုံမှ ကုသိုလ်မြောက်၏။ ကောင်းသတင်းဂုဏ်၊ ကောင်းကျိုး၏ အဟုန်ကိုကား တုမဲ့ ခံစားခွင့်ရပါ၏။ အပြစ်နှုတ်ခမ်း၊ ခြေတစ်လှမ်း နင်းနေလျှင်ကား ရုပ်ချောသမီး မွေးထားရသော်လည်း အင်္ဂါခြေလက် မသန်သူလေး မွေးမိလျက်သားသို့ အပြစ်မကင်း၊ တစ်ဖန် အပြစ်ကား ကင်းစင်ပါ၏။ ကောင်းသတင်းဂုဏ်၊ ကောင်းကျိုး၏အပုံကို ခံစားခွင့် မရပါလျှင်လည်း ရုပ်ချောသမီးလေး မွေးထားရပါသော်လည်း ဝတ်စားတန်ဆာ ဒြဒ်ဒရာတို့ဖြင့် တန်ဆာမဆင်နိုင်သဖြင့် အဆင်းလှသလောက် အချင်းမဝဘိသို့ အကျိုးထူးခံစားရခြင်းမှ ကင်းတတ်၏။ ထိုဒါနစေတနာ၏အကျိုးကို ခံစားခွင့်ရသောအခါ အပြစ်ကင်းကင်း၊ ကောင်းသတင်းလှလှ သူတကာတို့ သွားရည်တမြမြ ဖြစ်စေမှသာ ကုသိုလ်စစ် ဆိုရချေ၏။

ဒါနမှုတစ်ခု ပြုကျင့်စဉ် (စွန့်လွှတ်နေစဉ်) ကာလအတောအတွင်း ဝတ္ထု၊ ပစ္စည်းကိုကား လက်မှ (မိမိထံမှ) လွတ်လွတ် စွန့်ကြဲလိုက်ပြီဖြစ်၏။ စိတ်၌ကား ငါလှူထားသောပစ္စည်း (ငါ့ပစ္စည်း) ဟူ၍ လည်းကောင်း၊ ငါကိုးကွယ်သောပုဂ္ဂိုလ် (ငါခင်မင်ကြည်ညိုရပါသောသူ) ဟူ၍ လည်းကောင်း၊ အစွဲအထင်း ကျန်နေချေအံ့။ ထိုအလှူ စွန့်လွှတ်မှုသည် ကုသိုလ်အကြောင်းခံကင်း၍ အကုသိုလ်အကြောင်းခံ တဏှာ တင်းလင်းရှိသော (လောဘအရင်းခံ) အလှူမျိုး စွန့်လွှတ်မှုမျိုးသာ ဖြစ်သဖြင့် အကြောင်းမဲ့အလှူ ဟူ၍ ဆိုရချေ၏။ ငါလှူသည်ဟူ၍ ငါစွဲလေးများ

ပိုပေးလိုက်ပါသော်ကား ဒိဋ္ဌိတင်းလင်းအရင်းခံရှိသော စွန့်လွှတ်မှုမျိုးသာ ဖြစ်သဖြင့် အကြောင်းမဲ့အလှူဟူ၍ပင် ဆိုရချေ၏။

ထိုလှူက (အကြောင်းခံက) အကျိုးပေးသော ကာလတွင်ကား အကယ် တိတိ ဝတ္ထုနှင့် ပုဂ္ဂိုလ်တို့၏အပေါ်၌ ခင်မင်စိတ်ထားအတိုင်း အာရုံယူကာ သေရ ပါသော်ကား ပြိတ္တာဘုံသို့သာ တန်းမတ်စွာ ကျရောက်ရချေတော့၏။

ဂတ္ထု – ကျောင်းလှူက ကျောင်းဟူသော လှူဖွယ်ပစ္စည်း၊

ဝတ္ထု - အလှူခံပုဂ္ဂိုလ်၏ ခန္ဓာကိုယ်ဒြပ် ထိုနှစ်ပါးတို့၌ အစွဲကြီးသော် ထို ကျောင်း နှင့် ထိုရဟန်းတို့၏အနီး၌ပင် ငြိကပ်လျက်က စောင့်နေရတတ် ချေ၏။

အာရုံ – ကျောင်း၏အဆင်း၊ မည်သူလှူထားသောကျောင်းပဲ ဟူသော အသံ စသည့် အာရုံ၊

အာရုံ – အလှူခံပုဂ္ဂိုလ်၏ အဆင်း၊ အသံ စသည့် ဟန်ပန်အမူအရာ ထိုနှစ်ပါးတို့၌ အစွဲကြီးနေသော်ကား ခြေဦးတည့်ရာသွားနေရတတ်သော ပြိတ္တာမျိုးသို့ ကျရောက်တတ်၏။

သူတစ်ပါးခြေထိုး၍ လဲကျတာ တစ်ခါမှမရှိ။

ကိုယ့်ပုဆိုးစ ကိုယ်နင်းလျက်က လဲကျနေသည်သာ အမြဲရှိချေ၏။

သံရာလည်ရာ၌ သူတစ်ပါးကြောင့် လည်ရသည်ကား မဟုတ်။ ကိုယ့်အစွဲ ဖြင့် ကိုယ်လည်နေရသည်ကို ကြပ်ကြပ်ကြီး သတိမူသင့်၏။ အလှူမတတ်သဖြင့် ကျောင်းဒကာကြီး ကိုယ့်ကျောင်းကိုယ်ပြန်၍ ကပ်ကာ စောင့်ကြပ်နေရဦးမည်ဆိုလျှင် မိအေးနှစ်ခါနာဘဝသို့ လုံးလုံးကြီး ရောက်ရရှာချေတော့၏။

တစ်ဖန် တဏှာနှင့် စေတနာနှစ်မျိုးရှိရာတွင် တဏှာ (ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ် တို့၌ ငြိကပ်မှု)ဘက်သို့ကား အာရုံလိုက် စေတနာကျရာဘက်သို့သာ အာရုံ လိုက် ပါမိမည်ဆိုလျှင်ကား စေတနာအရှိန်ကြောင့် လူ့အဖြစ်သို့ကား ရောက်လာပါ၏။ စားရမဲ့မဲ့၊ သောက်ရမဲ့မဲ့နှင့်လည်း ဖြစ်ရတတ်၏။ ကုသိုလ်အကြောင်းခံ မပါတော့ သောကြောင့် ဖြစ်၏။ ထိုစေတနာအရှိန် ကြီးမားလှသဖြင့် ပစ္စည်းရှိဘဝ ရောက်

ပြန်ပါသော်ကော ပစ္စည်း၌ တပ်မက်မှု၊ ရမ္မက်အားကြီးလှသဖြင့် မည်သူနှင့် ဆက်ဆံဆက်ဆံ တစ်ဖက်စီးနင်းသာ ဖြစ်တတ်၏။ ပစ္စည်းအဝင်၌ကား ရလေ၊ လိုလေသာဖြစ်ပြီး အထွက်တွင်ကား လက်ပေါက်ကပ်တတ်လှ၏။ ပေးကမ်း ရက်ရောခြင်းကင်း၏။ မိမိကိုယ်၌ပင် မသုံးရက်မစွဲရက် ဖြစ်တတ်၏။ သို့ကြောင့် အပြစ်မကင်းသော (သူတစ်ပါးသို့ လောဘဖြင့် စော်ကားတတ်သော) ဘဝမျိုးသို့သာ ကျရောက်တတ်သော ထိုကုသိုလ်မျိုးကို ကုသိုလ်စစ်ဟူ၍ ဘုရား မဟောခဲ့ပြီ။

ဒါနမှုတစ်ခု ပြုကျင့်စဉ်ကာလအတောအတွင်း ဝတ္ထုကိုကား လက်မှ လွတ်လွတ်စွန့်ပြီး ဖြစ်ချေ၏။ စိတ်၌ကား မကျေချမ်းလှသောကြောင့် စနောင့်စနင်း၊ ခိုးလို့ခုလုအဖြစ်ဖြင့် စွဲကျန်ရစ်ခဲ့ချေ၏။ ထိုစိတ်ထားမျိုး

– မိမိမပေးလိုသည်ကို အတင်းအလှူခံရာမှလည်း ဖြစ်တတ်၏။

– မိမိ စေတနာမရှိသူကို လှူမိရာမှလည်း ဖြစ်တတ်၏။

ထိုတွင် ဝတ္ထုပုဂ္ဂိုလ်တို့အပေါ်ဝယ် မကျေချမ်းစိတ်ဖြင့် အာရုံယူကာ သေလွန်ရသော် ထိုဝတ္ထု (ကျောင်းစသည်)နှင့် ထိုပုဂ္ဂိုလ်တို့၏ မနီးမဝေး၌ပင် ပြင်းစွာသော ဒုက္ခကို ခံစားနေရသည်။ ငရဲသားအဖြစ်သို့ ကျရောက်ရတတ်ပြီး ထို ဝတ္ထုပုဂ္ဂိုလ်တို့၏ အာရုံအပေါ်၌သာ စိတ်ကျရောက်လျက်က သေလွန်ရပါသော်ကား ငရဲဘုံသို့သာ တန်းမတ်စွာ ကျရောက်ရချေတော့၏။

တစ်ဖန် ဒေါသနှင့်ပေးလှူသော စေတနာဟူ၍ စိတ်နှစ်မျိုးရှိရာတွင် ဒေါသ နောက်သို့ကား မပါ။ စေတနာနောက်သို့သာ အကျသန်သော် လူ့အဖြစ်သို့ကား ရောက်ရှိလာပါ၏။ မည်သူနှင့်တွေ့တွေ့၊ ရန်လိုစိတ်ကသာ လွှမ်းမိုးနေတတ်လှ သဖြင့် တွေ့ရာတိုင်းတို့ကို ဒေါသဖြင့်သာ ပြစ်မှားနေတတ်လှရကား၊ ဒေါသပြစ် ကင်းစင်သောဘဝမျိုး မဟုတ်ပြီ။ စေတနာသန်လွန်းလှ၍ ဘဝအကျိုးပေး ကြီး ကျယ်သော်လည်း မောက်မာစိတ်ကသာ ကြီးစိုးနေတတ်၏။

ဒါနမှုတစ်ခု ပြုကျင့်စဉ်ကာလအတောအတွင်း–

ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့ စုံညီစွာ ရှေ့မှောက်မှာတွင် ဝတ္ထုကိုကား စွန့်ချလိုက် ပါ၏။ စိတ်သည်ကား ငါသို့လည်းမရောက်၊ ဝတ္ထုနောက်လည်း မကပ်မိ၊ ပုဂ္ဂိုလ်

မှာလည်း မရှိချေဘဲ ဟိုသည် ပျံ့လွင့်လျက်ကသော် လည်းကောင်း၊ ဟိုသည်ကို တွေး၍ ပူပန်လျက်ကသော်လည်းကောင်း၊ ဟိုသည်ကိုတွေး၍ စိတ်မချလျက်က သော်လည်းကောင်း အဘယ်ကိုမျှ ခြေကုပ်မမိသော စိတ်လေစိတ်လွင့် ဖြစ်နေချေအံ့။ ခြေကုပ်မိသော်လည်း ဝတ္ထု၊ ပုဂ္ဂိုလ်တို့၏ အခေါ်အဝေါ် ပညတ်၌သာ စိတ်စွဲလျက်က စွန့်လွှတ်တတ်ချေ၏။ ထိုစိတ်ထားမျိုး–

– မိရိုးဖလာ သမရိုးကျအလှူမျိုး၌ ဖြစ်တတ်၏။

– မိမိအလှူကို စိတ်ဝင်စားမှု မရှိရာ၌လည်း ဖြစ်တတ်၏။

ထိုကုသိုလ်မျိုးမှရသော အကျိုးမှာ တိရစ္ဆာန်ဘဝမျိုးသို့သာ တန်းမတ်စွာ သွားရချေ၏။ သို့မဟုတ် အသူရကာယ်ဘုံသို့လည်း ရောက်တတ်လှချေ၏

ထိုတွင် ဝတ္ထု (ကြက်သားဟင်းကြီး၊ ဝက်သားဟင်းကြီး) စသည်သို့ စွဲချေသော် ထိုကြက်စွဲ၊ ဝက်စွဲအတိုင်းလျှင် ကြက်ထဲ၊ ဝက်ထဲသို့သာ တန်းမတ်စွာ ပဋိသန္ဓေ ကျရောက်ရ၏။ ပုဂ္ဂိုလ်သို့စွဲသော်ကား ထိုပုဂ္ဂိုလ်၏ အနီးအပါးဝယ် ဖြစ်ထိုက်သော ခွေးဘဝသော်လည်းကောင်း၊ အိမ်မြှောင်၊ ကြွက် စသည့် ဘဝမျိုး၌ သော် လည်းကောင်း၊ သန်ကောင်၊ တုတ်ကောင် စသည့် ဝမ်းတွင်းဖြစ် ဘဝမျိုး၌ သော်လည်းကောင်း ပဋိသန္ဓေ ကျရောက်ရတတ်၏။ ထိုဝတ္ထု၊ ပုဂ္ဂိုလ်တို့၏ ဒြပ် သို့ကား မစွဲ၊ အာရုံသို့သာ စွဲနေချေသော်လည်းကောင်း၊ အဘယ်ကိုမျှ ခြေကုပ်မမိ ချေသော် လည်းကောင်း တစ်နေရာရာ၊ တစ်တောတစ်တောင်တွင်းမှာ ကြောက်ရွံ့ ထိတ်လန့်နေရသော တိရစ္ဆာန်မျိုးတို့အဖြစ်သို့သာ ကျရောက်ရချေတော့၏။

တစ်ဖန် မောဟနှင့် အလှူစေတနာ နှစ်ဖက်ရှိကြရာတွင် မောဟသို့ကား မလိုက်။ စေတနာဘက်သို့သာ စိတ်ကျရောက်လျက်က သေလွန်ရပါချေသော်ကား လူ့ဘဝသို့ကား ရောက်ရှိလာပါ၏။ အသိဉာဏ်ကင်းမဲ့ခြင်း၊ ထုံထိုင်းခြင်း၊ ပျံ့လွင့် ပူပန်ခြင်းများနှင့်တကွ လူဖြစ်လာရ၏။ သူတကာတို့က ဤပစ္စည်း၊ ဤပုဂ္ဂိုလ်တော် ၏ 'ကောင်း၏' ချီးမွမ်းသံကြားသော် ၎င်းကလည်း နောက်ယောင်လိုက်ကာ 'တော်ပါပေ့၊ ကောင်းပါပေ့' ဟူ၍ ခြေရာနင်း၍ လိုက်ရတတ်၏။ တစ်ဖန် သူ တကာတို့က တိုပစ္စည်း၊ ထိုပုဂ္ဂိုလ်ကိုပင် မတော်၊ မကောင်း ဟူ၍ အပုပ်ချသံ

တို့ကို ပြောင်းလဲဆို၍ ကြားရသော်ကား ထိုအတိုင်းပင် သံယောင်လိုက်လျက်က အပုပ်ချနေတတ်၏။ ထိုသူ၏ဘဝကား မောဟပြစ်နှင့် မကင်းတော့ပြီ။ ထိုအပြစ် အတိုင်းလည်း ထပ်ကာတပ်ကာ မောဟဘုံသို့သာ ကျရောက်ရရှာတော့မည်။ ဒေါသပါကဲသော် ငရဲသို့လည်း သွားရရှာဦးတော့မည်။ လောဘပါဖောက်သော် နောက်သော်ကား ပြိတ္တာသို့လည်း သွားရပေဦးတော့မည်။ မည်မျှ ကောင်းစားချင် သော်လည်း အပေါင်းများက အထက်ပြော၍ အောက်တစ်ကြော မျောရရှာချေ၏။

– အလှူ့စေတနာသန်လွန်းလှသဖြင့် ပစ္စည်းရှင်ဘဝ ရောက်သော်မှလည်း သူတကာတို့၏ အလိမ်အလှည့်အောက်၌သာ အသက်ရှင်နေရပြီတည်း။

ဤကား အကြောင်းမဲ့ ကုသိုလ်တို့၏ အကျိုးပေးရာဘုံ။

ဒါနမှုတစ်ခု ပြုကျင့်စဉ်ကာလအတောအတွင်း–

မလှူမီကပင်လျှင် တဏှာကိုလည်း အငြိဖြေ၍ စွန့်လွှတ်ရန် ဆုံးဖြတ်ပြီး ဖြစ်၏။ စိတ်ကိုလည်း သောက်ရေကြည်တစ်ပေါက်ပမာ ကြည်သန့်စွာ ပြုပြင် ထားရှိပြီး ဖြစ်ချေ၏။ သို့တစေလည်း ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့၏အပေါ်၌ ရှုမှတ်မှု (သတိ)ဖြင့် စိတ်စူးစိုက်ထားမှု မရှိ။ စိတ်စူးစိုက်အား မစူးရှသောကြောင့်ပင် လက္ခဏာအချက်တို့ကို အကွက်ကျကျ ပေါ်လွင်စွာ မမြင်မသိ။

ထိုကုသိုလ်မျိုးကား လူနှင့်နတ်တို့ကား လားနိုင်ပါ၏။ ဆင်ခြင်ဉာဏ် မပါရှိလာသဖြင့် မဂ်၊ ဖိုလ်အဆင့်သို့ အရည်မှီသော ဉာဏ်မျိုး ကင်းနေချေရကား၊ အရိယာဘုံသို့ လားခွင့်မသာပြီ။ ဘုရားနှင့် ပက်ပင်းတွေ့သော် ဒါ ဘုရားအစစ် ဟူ၍ တစ်ထစ်ချ မဆုံးဖြတ်တတ်။ ဘုရားရှင်၏တရားတော်မြတ်ကို နားဝယ် ဆတ်ဆတ် တိုက်ရိုက်ကြီး နာကြားရပါသော်မှ ဒါသာလျှင် အမှန်တရား ဟူ၍ ယတိပြတ် မသုံးသပ်တတ်။ အရိယာ အရှင်သခင်ကြီးများစွာနှင့် ပက်ပင်း ဆုံ၍ ကြုံသော်မှလည်း သံဃာအစစ်ဆိုတာ ဒါ ဟူ၍ စိတ်နှလုံးဒုံးဒုံးကျ မယုံကြည် တတ်ပြီ။

သည့်အတူပင် လောကီလူ့ဘောင်၏ လူမှုကိစ္စအဝဝတို့ကို ပြုကျင့်ရာတိုင်း တို့၌လည်း ချိတုံချတုံဖြင့်သာ အချိန်ကုန်လွန်ရတတ်ချေ၏။ အလှူ့စေတနာ သန်

လွန်းလှသဖြင့် အကျိုးပေးဘဝ ပစ္စည်းဓနတို့ ပေါကြွယ်ဝသော်လည်း အကြောင်းဆိုက်၍ ရရန်ပစ္စည်းတို့ကို ကြိုးစားပါသော်လည်း နှေးကွေးနေတတ်သဖြင့် လက်လွတ်ရခြင်း၊ အချိန်နှောင်းသွားသဖြင့် ရသင့်သလောက် မရခြင်းများနှင့် တွေ့ရမည်သာ။

အကြောင်းမတိုက်ဆိုင်သေး၍ ပေးရန်ရှိတို့ကို ပေးဖို့ ကြိုးစားရာ၌လည်း လေးဖင့်နေတတ်သဖြင့် (အချိန်အဆ လွန်နေတတ်သဖြင့်) အလိမ်အညစ်ကား မခံရတတ်ချေ။

အကြောင်းခံနှစ်ပါး အရင်းအနှီးများဖြင့် ရရှိလာသော ဘဝ၏ အကျိုးပေးကား အမျိုးအစားကောင်းသောစားတစ်လက်၏ ဆေးသားမတက်သဖြင့် မထက်မြက်ဘိသို့ မည်သည့်ကိစ္စ၌မဆို အသိဉာဏ် လိုနေသေးသဖြင့် ဖင့်နှေးခြင်းဖြင့် လက်စသတ်ရမည်သာတည်း။

ဒါနမှုတစ်ခု ပြုကျင့်စဉ်ကာလအတောအတွင်း–

- ငါ့စွဲကိုလည်း အထဲရှိကို အပိုင်သိနေပြီ ဖြစ်တော့သဖြင့် လက်ဦးကပင် ပယ်ခဲ့ပြီး ဖြစ်၏။
- ဝတ္ထုစွဲကိုလည်း အမှိုက်ပုံ စွန့်ပယ်ရမည့် ထမင်းသိုး၊ ဟင်းသိုးတို့ကဲ့သို့ မဆွကပင် ထားခဲ့ပြီး ဖြစ်၏။
- ပုဂ္ဂိုလ်စွဲကိုလည်း ဖြစ်စဉ်ကိုကျော်၍ ကျင့်စဉ်ပေါ်၌သာ အမြင်ရှိသဖြင့် တွေ့ကတည်းက စွဲပြီးသားဖြစ်၏။

သို့ကြောင့် တဏှာ–ခင်မင်မှုကိုအရင်းတည်၍ဖြစ်သော ဆာလောင်ခြင်း၊ မာန–ခင်မင်မှုကို အရင်းတည်၍ဖြစ်သော အထင်ကြီးသဖြင့် မြှတ်နိုးခြင်း၊ ဒိဋ္ဌိ–ခင်မင်မှုကို အရင်းတည်၍ဖြစ်သော အထင်မှားသဖြင့် အယူသည်းမှု ဟူသော အချဲ့သုံးမျိုးတို့ မတိုးသာချေ။ ထိုအချဲ့မှ မဝင်သာသော် မသိမိုက်မှားမှု အရင်းတည်၍ဖြစ်သော အမှားကိုကား အမှန်ထင်ခြင်း၊ အမှန်ကိုကား အမှားထင်ခြင်း ဟူသော အလှည့်မှုလည်း အလွတ်အကျွတ် ဖြစ်ချေတော့၏။ ထိုအလှည့်မှ မဝင်သာသော်ကား ကြိုက်လျှင်လိုက်မည်၊ မကြိုက်လျှင် တိုက်မည်။ သို့မဟုတ် မကြိုက်

လျှင် ခိုက်၊ ကြိုက်လျှင် ပိုက် ဟူသော အရွဲ့မှုလည်း ခပ်ဝေးဝေး ဖြစ်ရချေတော့၏။

ထိုသို့သော စွန့်လွှတ်မှုဒါနမျိုးသာလျှင် လူ၊ နတ်၊ နိဗ္ဗာန် သုံးတန်သော ချမ်းသာမျိုးစေ့တို့ကို ပေးစွမ်းနိုင်သော ကံကုသိုလ်၊ ဈာန်ကုသိုလ်၊ ဉာဏ်ကုသိုလ် များ ချည်းသာ ဖြစ်ရချေကုန်၏။ ပစ္စည်းလက်လွှတ်၊ စိတ်စွဲလွှတ်သော အကျွတ် ကုသိုလ်မျိုးမည်၏။ စွန့်လွှတ်ခြင်းဟူသော စကားလုံးကို ကောင်းစွာ အသုံးချနိုင်သူ လည်း မည်၏။ ဆွမ်းဆန်ထဲ ကြွက်ချေးမပါသဖြင့် ချက်စားရာ၌ ထမင်းကောင်းချည်း ဖြစ်ဘိသို့ အစွဲကင်းလျက် အကျိုးပေးသက်သက်ချည်းကိုသာ ခံစားခွင့်ရစေ၏။ သဲကျမုန့် ကောက်စားရသည်သို့ မဟုတ်၊ ပန်းကန်ထဲကမုန့် နှိုက်စားရသည်သို့သာ ရှိ၏။ မီးပြင်းသော ဖိုခွင်ပေါ်မှ ဟင်းဖတ်ကို ဆယ်စားရသည်သို့ မဟုတ်၊ ဟိုတယ်ကြီးပေါ်မှာ ပန်ကာအောက်သို့ထိုင်လျက်က ရေခဲမုန့်တစ်ခွက်ကို ကော်စား ရသည်သို့သာ ရှိ၏။

ထိုကုသိုလ်ရှင် သေလွန်ခါနီးကာလ ငါ၊ ငါလှူထားသော ကျောင်းကြီး၊ ငါ ကိုးကွယ်သောဘုန်းကြီး ဟူ၍ ဝတ္ထုစွဲ မရှိတော့သဖြင့် ကျောင်းစောင့်ဘဝသို့ ရောက်ရခြင်း၊ ဘုန်းကြီးဘေး ပြေးကပ်နေရခြင်း၊ ငါတကောကောခြင်းများ အလျှင်း မရှိတော့ပြီ။ အဘယ့်ကြောင့်ဆိုသော် ဒါနပြုစဉ်ကပင် ထိုအစွဲများကို ဉာဏ်ဖြင့် ဖြုတ်ပယ်ထားခဲ့ပြီး ဖြစ်သဖြင့် အကြောင်းခံ၌ အစွဲမပါတော့၍ အကျိုး၌ ငြိမနေခြင်းပင်တည်း။ သို့ကြောင့် သေလွန်ကာနီး၌ ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ် ထို သုံးမျိုးတို့သို့ အာရုံယူခြင်း မရှိပြီ။

အမိဝမ်းတွင်းသို့ ပဋိသန္ဓေ ခိုအောင်းရစဉ်ကာလ (တစ်ဘဝနှင့်တစ်ဘဝ အချိန်းအဆက် ပြုလုပ်ရသောအချိန်)၌လည်း အလွန်ခိုင်ခန့်စိတ်ချရသော သံတံတား ကြီးပေါ်မှ ဖြတ်လျှောက်ရသော ခရီးသည်၏ စိုးရိမ်စိတ်ကင်းခြင်း၊ ကြည်သန့်ခြင်း၊ ဇဝေဇဝါစိတ် မထားခြင်းများနှင့် မိမိသွားလိုရာ ကိစ္စတစ်ခုတည်းထဲကိုသာ စိတ် ဝင်စားနေဘိသို့ မိမိအကျိုးပေးဘဝ (သေခါနီးကာလတုန်းက ထင်မြင်လာသော ဂတိနိမိတ်ခေါ် မိမိသွားရောက်ခံစားရမည့် အခွင့်ထူး)ဆီသို့သာ အသိဉာဏ်သည် အေးဆေးငြိမ်သက်စွာ ကျရောက်ရချေတော့၏။

အကျိုးပေးခံစားရာကာလ၌လည်း မကြောင့်မကြ၊ မတောင့်မတ ဟူသော ဆုတောင်းကို မတောင်းဘဲနှင့် ပြည့်နေချေ၏။ မွေးကတည်းက မြင့်မြတ်သော သူဌေး၊ (သေဌ-ကုသိုလ်ကံပေးအလျောက် အမြတ်စွန်းထွက် သက်သက်ချည်း ကိုသာ ခံစားခွင့်ရသဖြင့် မြတ်သောသူ) မျိုးရိုးထဲသို့ အလိုလိုကျရောက်လာသူ ဖြစ်သဖြင့်-

- ရလိုစိတ်ဖြင့် ဘာဆိုဘာမျှ ရှာမှီးရာ မလိုချေပြီ။
- ရလိုစိတ် မရှိသဖြင့် မရမပူ၊ ရ မပူတော့ပြီ။
- မိမိကိုယ်တိုင် ဘာဆိုဘာမျှ ရှာမှီးခြင်း မရှိခဲ့သဖြင့် ငါပိုင်၊ ငါစွဲလည်း ရှုံပြီ။

ဤသည်သာ အပြစ်ကင်းလျက်က ဂုဏ်သတင်းမွှေးသော လူယဉ်ကျေး ဖြစ်၍ ကုသိုလ်စစ် ဆိုရ၏။ အပြစ်လည်းမရှိ၊ ကောင်းကျိုးအဖြစ်ရခြင်း ဟူသော အင်္ဂါနှစ်ချက်စုံမှသာ ကုသိုလ်စစ်မည်၏။

ထိုသို့ အပူဝေး၍ အအေးချည်းသက်သက်ဖြင့်သာ ခံစားနေရသော ဖြစ်စဉ် စိတ်သည် အလွန် ပေါ့ပါးထက်မြက်သော သန်လျက်ဓားကဲ့သို့ နှစ်ဘက်သွားဖြင့် ဘယ်လှည့်တွက်တွက်၊ ညာလှည့်တွက်တွက် ခက်စရာမကြုံပြီ။

လောကီကိစ္စရပ်များ၌လည်း အယုတ်၊ အလတ်၊ အမြတ် ဟူသော မိမိ အောက်သို့ကျသူ အခြွေရံများနှင့်သော်လည်းကောင်း၊ တန်းတူ အတွင်းမိတ်ဘက် (အိမ်ထောင်မိသားစု)များနှင့် အပြင်မိတ်များနှင့်သော်လည်းကောင်း၊ မိမိ အထက် သို့ တက်နေသူ ရဟန်း၊ သံဃာများ၊ မင်းစိုးရာဇာများနှင့်သော် လည်းကောင်း၊ ဆက်ဆံရာတိုင်း၌ နူးညံ့ပြေပြစ်ခြင်း၊ ဆိုလွယ်စကားရှိခြင်း၊ ရိုသေ နိမ့်ချထားခြင်း ဖြင့် အများ၏ ချစ်ကြည်လေးစားမှုတို့ကို ခံစားခွင့်ရစေ၏။ ယုံကြည်မြတ်နိုးမှု တို့ကို တိုးမြှင့်ခြင်း ခံရချေ၏။ အများတို့၏ အားကိုးရာ ရှင်တစ်ဆူ၊ လူတစ်ယောက် အဖြစ်သို့ ရောက်စေ၏။

မိမိပိုင်ပစ္စည်းများနှင့် ပတ်သက်၍လည်း ငြိကပ်တွယ်တာစိတ်များ ကင်းရှင်း နေသဖြင့် တွန့်တိုဆုတ်နစ်ခြင်း မရှိ၊ ရက်ရောမှုအပြည့်သာ ရှိချေ၏။ အခါ့၏

ကျော်ထောက်နောက်ခံမအား (တဏှာ၊ မာန၊ ဒိဋ္ဌိတို့၏ တွန်းအား) မရှိသော စိတ်သည် ကိုယ်ချင်းစာစိတ်ချည်းသာ လွှမ်းခြုံနေသဖြင့် အများအပေါ်၌ စာနာထောက်ထားခြင်း၊ တန်းတူထားခြင်းများဖြင့် မေတ္တာစိတ်၊ ကရုဏာစိတ်များသည် သဗ္ဗေသတ္တာ အဝေရာ ဟောန္တု ဟူ၍ မအော်ဟစ်ရဘဲနှင့် အမြဲ ကိန်းတည်နေချေ၏။

နွား၊ ကျွဲ၊ သိုး၊ ဆိတ် စသည့် တိရစ္ဆာန်လေးများကို မိမိလည်း သတ်ဖြတ်စား၊ သူတစ်ပါးတို့ကိုလည်း သတ်ဖြတ်၍ ကျွေးလား၊ မွေးလား မလုပ်တော့ပြီ၊ ကိုယ့်ကိုယ်နှင့် တစ်ကိုယ်ချင်း စာနာမိ၍၊

လူလူချင်း မတရားနည်းဖြင့် စီးပွားရှာမှီးခြင်းများကိုလည်း မပြုကျင့်တော့ပြီ၊ ကိုယ့်စိတ်နှင့် တစ်တန်းတည်းထား ခံစားကြည့်မိနေတတ်၍၊

သူတစ်ပါးတို့၏ မယား၊ သားသမီးများနှင့်လည်း တိတ်တဆိတ် ပျော်ပါးခြင်း၊ စော်ကားခြင်း မရှိပြီ။ ကိုယ့်မယား၊ ကိုယ့်သား၊ ကိုယ့်သမီးများနှင့် နှိုင်းယှဉ်ကြည့်မိ၍၊

သူတစ်ပါးတို့အပေါ်၌ မမှန်စကား၊ မုသားဆိုခြင်းမှလည်း ကင်းပြီ။ ကိုယ်နှင့်စက်၍ ချင့်တွက်မိ၍၊

မူးယစ်သောက်စားလျက်က တစ်ဖက်သား စော်ကားဖို့ လုံးဝ စိတ်မကူးမိပြီ၊ အမူးသမား၏ သတိလက်လွတ်သော ထင်ရာစိုင်းဘဝနှင့် သူတစ်ပါး ပြစ်မှားလိုခြင်း အလျဉ်းမရှိတော့၍၊

ထိုသူမျိုးသည် အတိတ်ကုသိုလ်ကြောင့် သည်ဘဝ အမြတ်စွန်းထွက်ဖြင့် ခံစားခွင့်ရသလို သည်ဘဝ၌လည်း အမြတ်ချည်းကိုသာ စုဆောင်းနိုင်သဖြင့် အမြတ်စွန်း ပို၍၊ ပို၍ ထွက်စေမည့် အကြောင်းခံချည်းကိုသာ သိမ်းပိုက်ခွင့်ရစေ၏။ သို့ကြောင့် နှစ်ဖက်မြတ်တည်း။

လောကုတ္တရာဘက်၌လည်း ဆရာကောင်း၊ သမားကောင်းများအထံတော်မှ ငါတစ်လုံး အသုံးမှားသဖြင့် လုံးပါးပါးရပုံ သဘောကို တစ်ခွန်းမျှ ပြောလျှင် အတောမသတ်သော ဉာဏ်အမြင်များဖြင့် တစ်မုဟုတ်ချင်း ထိုးဖောက်ပစ်ကာ ငါတစ်လုံးကို ဖတ်ရှားနိုင်စွမ်းရှိချေ၏။ ကျောင်းဒကာ အနာထပိဏ်ကို ကြည့်။

အနာထပိဏ်သည် အရောင်းအဝယ်ကိစ္စဖြင့် ရာဇဂြိုဟ်ပြည် ယောက်ဖထံသို့ ရောက်သွားစဉ် ဘုရားဟူသည် ပွင့်နေပြီဖြစ်ကြောင်း၊ ယောက်ဖစကား ကြားလိုက်ရသည်နှင့် ပီတိများ တဖွားဖွားဖြစ်စေ၏။ စိတ်ကြည်များချည်း ကိန်းတည်နေချေ၏။

ထိုစိတ်အကြည်ဓာတ်၏ ကိုယ်တွင်း၌ မဆန့်သဖြင့် ပြင်ပသို့ ထွက်ပျံ့ချေရကား၊ ညအမှောင်သည် နေ့ခင်းကြောင်တောင်ထင်မှတ်ကာ ဘုရားရှိရာတောသို့ တစ်ဦးတည်း သွားချေ၏။ အနာထပိဏ်၏ ဘုရား၌ အာရုံတည်စိတ်၊ စိုက်ကျနေသဖြင့် ယောက်ဖ၏ အိမ်တံခါးသည် လည်းကောင်း၊ ခြံဝင်းတံခါးသည် လည်းကောင်း၊ မြို့တံခါးများသည်လည်းကောင်း အလိုလို ပွင့်လျက်ချည်းသာ ရှိချေ၏။ သို့နှင့် ဘုရားထံမှောက် ရောက်ရှိသွားလေသောအခါ ငါစားဖို့၊ ငါ့မယား စားဖို့၊ ငါ့သား၊ ငါ့သမီးနှင့် အစေခံကျေးကျွန်တို့ စားသုံးရန်ဖို့ စသော ဖို့ပေါင်းများစွာ ကျောပြည်ပေါ်တင်လျက်က စီးပွားရေး စားကျက်ထဲက တကဲကဲ ရုန်းကန်နေရရှာသော အနာထပိဏ်ကြီးက

'အရှင်ဘုရား၊ ချမ်းသာစွာ အိပ်ရ၊ နေရပါရဲ့လား ဘုရား' ဟူ၍ ဘုရားရှင်အား လက်ဦး နှုတ်ခွန်းဆက်စကား လျှောက်ထားလေရာ –

'အေးကွ၊ ငါ ငါ့ပစ္စည်း ငါပိုင်သည်ဟူ၍ ငါစွဲ မထားသောသူများအဖို့ ချမ်းသာစွာ အိပ်ရ၊ နေရသည်ချည်းပဲကွာ' ဟူ၍ အရှိုက်ထိုးချလိုက်သည့်ပမာ တည့်တည့်ကြီး ဟောတော်မူရာ အနာထပိဏ်၏ ဉာဏ်သွားသည် နောက်နောက်က အတွေ့အကြုံများ၊ လက်ရှိ အတွေ့အကြုံများ၊ နောင်ရင်ဆိုင်ရဦးမည့် အတွေ့အကြုံများဆီသို့ တစ်မဟုတ်ချင်း မွှေနှောက်ပြေးလွှား ကျက်စားကာ အဖြေမှန်ကို ဖော်ထုတ်နိုင်ခဲ့ချေ၏။

- မအေးဆေးရသည်မှာ ငါ၊
- ငါ ကြွေးပေးနေရသည်မှာလည်း သည်ငါ၊

ဤသို့ သဘောပေါက်ရင်းက ဘုရားအသံတော်နှင့် နာခံရနားတို့အကြား ဉာဏ်စားဖြင့် ထိုးစိုက်ချလိုက်ရာ ငါစွဲလည်းပြတ်၊ ဖြစ်ပျက်လည်း ရပ်သွားသဖြင့်

မသွားချင်သော အပါယ်တံခါးသို့ သွားခွင့်မရတော့သော သောတာပန်အဖြစ်သို့ ရောက်ခဲ့ချေသည်။ ဤသည်မှာ သတိရှုမှတ်မိမှုပါသော ကုသိုလ်၏ အကြောင်းခံ သုံးချက်ပြည့်ပါသော အကျိုးပေးဘဝ၏ လိုတရ ဖြစ်ရပ်တည်း။

- အကျင့်မပါ အကြံသက်သက်ဖြင့် ဉာဏ်ကောင်းထက်သည်မှာ သုံးချက်စုံကုသိုလ်ဖြစ်မှု၊
- အပြောသဘောကျရုံဖြင့် ဒလဟော မင်္ဂသို့ သက်စေသည်မှာ သုံးချက်စုံကုသိုလ်မျိုးမှု၊

သင်သည် ထိုအခွင့်ထူးမျိုးကို ပိုင်ဆိုင်လိုလျှင် အကြောင်းခံသုံးချက်ပြည့်ဖြင့် ရာဂ၏အဖက်ကို လည်းကောင်း၊ ဒေါသ၏အဖျက်ကိုလည်းကောင်း၊ မောဟ၏ အမက်ကိုလည်းကောင်း ဖျက်ဆီးပစ်ခဲ့ပါလေ။

အို တက်လမ်းရှာ–

ဒါနနှင့် ပတ်သက်သောစကား ပြည့်စုံလုံလောက်ပြီ ထင်ပါ၏။ နောက်ဆုံး လက်ဆောင်စကား ပါးလိုသည်မှာ ဒါန၏သက်သက် အကျိုးပေးသည် ဘဝသမ္ပတ္တိနှင့် ဘောဂသမ္ပတ္တိ ဟူ၍ ပြည့်စုံခြင်းနှစ်မျိုးရှိရာတွင် ဘောဂသမ္ပတ္တိခေါ် စည်းစိမ်၏ ပြည့်စုံခြင်းကိုသာ မုချ အကျိုးပေးစေနိုင်ပါ၏။ သို့ကြောင့် လမ်းသွားရိက္ခာနှင့် ကိုယ်ချမ်းသာမှု တစ်ဖက်ကိုသာ တာဝန်ခံနိုင်ပါသေး၏။ လမ်းဆုံးကိစ္စနှင့် စိတ်ချမ်းသာမှုတို့ကိုကား ဘာဝနာမှုနှင့် သီလတို့ကသာ ထမ်းဆောင်နိုင်ပါ၏။

- ဉာဏ်သွားကို ရင့်ကျက်ထက်သန်ရန် ဘာဝနာ၏ တာဝန်၊
- ဉာဏ်သွားကို ဉာဏ်စားဖြင့် ပြည့်ကျင့်မှုကား သီလ၏တာဝန်။

သို့ကြောင့် ငါတို့ပြောသော သီလမှန်သမျှ မှတ်ဉာဏ်ဖြင့် လေ့ကျင့်နေခြင်းကိုသာ ဆိုလိုပါကြောင်း ကောင်းကောင်းကြီး သဘောပေါက်ထားခဲ့စေလိုပါ၏။

ဒါနသည် ငါးစွဲကို ပြင်ပမှနေ၍ ဂုတ်ချိုးလိမ်ပေးနေသည်သို့သာ ရှိချေသေး၏။ အတွင်းသားကို ထိုးဖောက်၍ ငါးစွဲအသက်ကို ဖျက်ချွေချရန် မတတ်နိုင်သေးချေပြီ။ ငန်းမန်းလိုက်လျက်က အဖျားတက်လေသူအား အပြင်မှ ဆေးလူးပေး၍ သက်သာကြေးပေးရုံမျှသာ ရှိသေး၏။

သို့တစေလည်း ဒါနကိုပစ်ပယ်၍ ငါစွဲကို ပြယ်စေခြင်းငှာ မတတ်နိုင်ပြီ။ ဒါနကိုပယ်၍ ငါစွဲကို ပယ်သတ်နေလျှင် ရေသောက်မြစ်ကို လက်သပ်မွေး၍ အကိုင်းအခက်ကိုချည်းသာ တက်ရောက် ခုတ်ဖျင်နေသော ထင်းခုတ်သမားနှင့် တူပေ လိမ့်မည်။ ဒါနဖြင့်သာ ရေသောက်မြစ်ကို ပယ်သတ်ရ၏။ ဒါနဖြင့်သာ ကြီးမားလှသော သစ်ပင်ဖြစ်က သင်းသတ်ရ၏။ အဘယ်ကြောင့်ဆိုသော် ငါကိုမှီ၍ ဖြစ်သော မယား၊ သားသမီး၊ ပစ္စည်း၊ အခြွေအရံ စသည့် အသုံးအဆောင်တို့ကို အစွဲတင်းလင်း ငြိတွယ်ခြင်း ရှိနေချေသော် စိတ်သည် ရှေ့သို့ တိုးမထွက်သာ သောကြောင့်ပင်။

သို့ကြောင့် အထဲရှိ ငါစွဲကို ဆွဲထုတ်လိုသော် ပြင်ပ၏ ငါပိုင်အထင်တို့ကို ဦးစွာ အစွဲကင်းနေစေရန် ဒါနဖြင့် သက်မဲ့လည်းဖြစ်၊ ကိရိယာတန်ဆာပလာ အခြံအရံလည်းဖြစ်သော ဝတ္ထု၊ ပစ္စည်းတို့ကို စွန့်လွှတ်လျက်က ဉာဏ်ကျက်စားသင့်ပါ၏။ ဘယ်မှာလဲ၊ ငါ့ပစ္စည်းဆိုသည်ကို လက်မှလွှတ်တုန်း ကုန်းကျုံးကြည့်။ ဘယ်မှာလဲ၊ ငါပိုင်ကို သူ့လက်ရောက်ခိုက် ဆင်ခြင်ကြည့်။ ထိုအခါ အကြောင်းမှန်သင် သိလာလိမ့်မည်။ ထို့နောက် ငါ့မယား၊ ငါ့သားဆိုသည်တို့ကိုလည်း ဉာဏ်သွားလျှင် သွားသလောက် ရိပ်မိလာလိမ့်မည်။ ထိုသို့ ရိပ်မိ၊ သိမြင်အကဲကို ဆင်ခြင်နိုင်သောအခါ အတွင်းရှိ ငါသည် ငါသာဖြစ်ပြီး သူ မပါပြီ။ ထိုသို့ ငါချည်း ငုတ်တုတ် လှုပ်ရှားနေစဉ် ဉာဏ်ဓားဖြင့် ပိုင်းတတ်လျှင် အကူအဆွယ် မပါလေသဖြင့် အလွယ်ပင် သတ်ဖြတ်နိုင်ပါ၏။ ဤသို့လျှင် ငါစွဲကို ဒါနဖြင့် အားအင်ချိနဲ့စေခြင်းသည် အလောင်းတော်တို့၏ သွားမြဲထုံးတည်း။

## ၂။ သီလနှင့်စပ်ဆိုင်သောစကား (သီလပဋိသံယုတ္တကထာ)

တက်လမ်းရှာအပေါင်းတို့-

ဒါနသည် မုချအကျိုးပေးအားဖြင့် ကိုယ်ချမ်းသာစေမှုနှင့် ခရီးသွားရိက္ခာမျှသာ ဟူ၍ သင်တို့ကို ပြောကြားထားခဲ့ပြီးပြီ။

- သင်သည် ကိုယ်ချမ်းသာစေရုံမျှနှင့် ကျေနပ်ပါပြီလော။
- သင်သည် လမ်းဆုံးမဆက် ရိက္ခာသက်သက်မျှဖြင့် လက်စသိမ်းမည်လော။

စင်စစ် ကိုယ်ကျင့်မကောင်းသောသူကို မည်သည့်ဘဝဘုံ ရောက်ရောက် မည်သူကမျှ ယုံကြည်လိမ့်မည်လည်း မဟုတ်။ မည်သူနှင့်မျှလည်း ဝင်ဆံ့လိမ့်မည်ကား မဟုတ်ပြီ။ ထိုအခါ ပစ္စည်းအထောက်အခံကြောင့် ရုပ်ချမ်းသာ (ကိုယ်ချမ်းသာ)သော်လည်း စိတ်ကား ချမ်းသာလိမ့်မည် မဟုတ်ချေပြီ။

ကိုယ်ကျင့်သီလမကောင်းသူ၏ အဖြစ်သည် သူတစ်ပါးတို့ပစ္စည်း အနိုင်ထက်တိုက်ခိုက် စားသောက်ရသော ဓားပြကဲ့သို့ စိုးရိမ်ပူပန်စိတ်များကသာ ကြီးစိုးနေတတ်၏။ ဓားပြသည်ကား သူတစ်ပါးအိမ် လုယက် တိုက်ခိုက်ပြီးကတည်းက သူတစ်ပါးတို့က သက်ဆိုင်ရာသို့ တိုင်လေသလား၊ မတိုင်လေသလားလည်း မသိ။ သက်ဆိုင်ရာတို့ကလည်း မိမိနောက် ခြေရာခံကောက်၍ လိုက်လေသလား၊ မလိုက်လေသလားလည်း မသိပါဘဲလျက်က မိမိစေတနာနှင့် မိမိပင် စိုးရိမ်ထိတ်လန့်၍ ပုန်းလျှိုးကွယ်လျှိုးသာ နေရတတ်ချေ၏။ မိမိစေတနာ၏ နောက်ယောင်ခံ ခြောက်လှန့်မှုကြောင့် လေတိုးသည်ကိုပင် မလုံမလဲ ဖြစ်နေတတ်၏။ ပစ္စည်းလက်ဝယ်သိမ်းပိုက်ထားရာ၌လည်း သူတကာရိပ်မိမည်စိုးလှသဖြင့် ပုန်းရ၊ ဝှက်ရသည်မှာလည်း အမောပင် ဖြစ်ချေ၏။ သုံးစွဲရာတို့လည်း ခိုးကြောင်ခိုးဝှက်ဖြင့်သာ သုံးစွဲရပြီး တစ်ဆယ်တန်ပစ္စည်းကိုမှ တစ်ကျပ်လောက်မျှဖြင့် တင်းတိမ်ခဲ့ရ၏။

- အမှုအရာပျက်သဖြင့် သက်ဆိုင်ရာတို့ ဖမ်းစစ်သောကြောင့် အမှုပေါ်လေသောအခါ၊

– တိုင်တန်းခံရသဖြင့် သက်ဆိုင်ရာတို့ ဖမ်းစစ်သောကြောင့် အမှုပေါ် လေသောအခါ၊

ခမျာမှာ မိမိစေတနာ အပြင်း၊ အပျော့သို့လိုက်၍ အချုပ် အကျဉ်းကျခံရခြင်းသို့ ဆိုက်စေတော့၏။ သည့်အတူ ကိုယ်ကျင့်ကိုဖျက်၍ အသက်မွေးဝမ်းကျောင်း ပြုလေသောသူသည် မိမိ၏ အဖျက်ဆီးကို ခံရသောသူတို့၏ ဆင်းရဲခြင်းကြီး ငြီးတွားသွားသလောက်ပင် မိမိ၌ ဒုက္ခရောက်တတ်လှချေ၏။ ကိုယ်ကျင့်ပျက်သော ထိုသူကို မည်သည့် ထာဝရဘုရားကမျှ ဝင်ရောက်သက်သေခံပေးလိမ့်မည် မဟုတ်ပြီ။

လူ့ဘဝရောက်တုန်း ကိုယ်ချင်းစာဖြင့် ကျင့်ခွင့်ရသော စိတ်မြတ်ကို ပျက်ဆီး၍ လူ့ဘဝရောက်တုန်း ကိုယ်အတွက် တစ်ပြန်တစ်လှည့် အဖျက်ဆီးမခံရရေး ကျင့်ခွင့်ရသော စိတ်မြတ်ကို ဖျက်ဆီး၍ ကြက်ကိုသတ်၍ အလှူပေးမည်ဆိုလျှင် ထိုအလှူပေးသည့် စေတနာကား ကောင်းကျိုးကိုရစေပြီး ကြက်သတ်မှုကား ခံရဦးမည် မလွဲချေ။

မိမိ၏ မကောင်းစေတနာသည် လှည်းရုန်းနွားသွားရာ လှည်းဘီးကြီး ခြေရာနင်း၍ လိုက်ပါနေဘိသို့ မိမိ၏ ဖြစ်လေရာ ဘဝတစ်လျှောက် တောက်လျှောက် လိုက်နေမည်သာ။ ကြက်ကား သေခါနီး သူ့စိတ်စွဲရှိရာ တစ်ဘဝ ရောက်နေချမည်။ သင့်အား လာရောက်၍ ကယ်ဆယ်လိမ့်မည်ကား မဟုတ်ပြီ။ သင့်အလှူကိုလည်း သူ့သတ်ထားသည်ကို မကျေနပ်သဖြင့် သက်သေခံလိမ့်မည်ကား မဟုတ်ပြီ။ အကုသိုလ်အဖြစ်သာ သက်သေခံပေလိမ့်မည်။

သင့်စေတနာသည်သာ ကုသိုလ်တစ်ချက်အတွက် တစ်သက်တစ်ဘဝ ကောင်းကျိုးလည်း ရစေမည်။ သင့်စေတနာ ထက်လျှင် ကြီးပွားနှုန်းလည်း တိုးတက်ကောင်း တိုးတက်ပေလိမ့်မည်။ သို့တစေလည်း ထိုအကျိုးပေး ခံစားရရာ၌ သန့်မည်ကား မဟုတ်ပြီ။ ထိုအကျိုးပေး ခံစားရပြီးနောက် ကြက်သတ်မှု အကုသိုလ် အကျိုးပေးကိုလည်း တစ်လှည့်ပြန်လည်၍ ခံပေးရဦးမည်မှာ မုချတည်း။

ဓားပြသည် သူ့ပစ္စည်းရယူလိုသဖြင့် လူကို သတ်ဖြတ်၍ ပစ္စည်းရယူ၏။ အမှုရင်ဆိုင်ပြီး အပြစ်ဒဏ် ကျခံရသောအခါ မိမိစေတနာအလိုက် သေဒဏ်သို့ ကြိုးပေးခံရမည်သာ ဖြစ်ချေ၏။

- ထိုသေဒဏ်သည် တရားသူကြီးက ပေးသည် မဟုတ်၊ မိမိစေတနာက ပေးခြင်းသာ။
- ထိုသေဒဏ်သည် ကာယကံရှင်က ပေးခြင်းလည်း မဟုတ်၊ မိမိစေတနာက ပေးခြင်းမျှသာ။

သို့ကြောင့် မည်သူသည် မည်သည့်ရုံးတော်မှ မည်သည့်တရားသူကြီးက သေဒဏ်ပေးသဖြင့် ကြိုးပေးခံရသည် ဟူသော စကား ယုတ္တိမရှိဟူ၍ မှတ်ချက်ချခဲ့ပါလေ။

- သေမည့်လူမမာ မည်သည့်ဆရာဝန်ကမျှ တာဝန်မယူနိုင်။
- ပက်ပင်းမိသော လူသတ်မှု မည်သည့်ရှေ့နေမျှ မကယ်တင်နိုင်။

မိမိ၏စေတနာနှင့်ယှဉ်သော ကံတရားများကသာ စီရင်ချက်ချလေကုန်၏။ ကောင်းရန်ကိုလည်း မည်သည့်ဘုရားကမျှ ကြားဝင်၍ ပြုကျင့်မပေးနိုင်။ မိမိ၏ ကောင်းစေတနာအတိုင်းသာ အကျိုးခံစားခွင့်ရချေ၏။ အဆိုးကိုလည်း မည်သည့် ဘုရားကမျှ ကြားဝင်၍ခံပေးလိမ့်မည် မဟုတ်။ မိမိ၏ ဆိုးစေတနာအတိုင်းသာ အကျိုးခံစားခွင့်ရချေ၏။ ဘုရားမှန်သမျှ ကောင်းလမ်းစကို ခြေရာပြ၍ ဆိုးလမ်းစကို ခြေစသိမ်းခြင်းမျှသာ ရှိချေ၏။ သူတကာ့ကိစ္စ သက်သေခံလိုက်ရိုး ထုံးစံမရှိ။ ချောက်တွန်းခြင်းလည်း အလျဉ်းမရှိချေ။ ထိုဘုရားကိုမှီ၍ ကုသိုလ်ပြုခွင့်ရခြင်း၊ ထိုဘုရားကိုမှီ၍ အကုသိုလ်ရှောင်လွှဲခွင့် ရခြင်းဖြင့်သာ မိမိ၏ ပရိသတ်ကို လမ်းပြဆရာအဖြစ်ဖြင့် ကယ်တင်ခြင်းသာ ရှိချေ၏။ သို့မဟုတ် အကုသိုလ်ကို မဖြစ်ခင် ကြိုတင်တားဆီးပေးပြီး ဖြစ်မိလျှင် သနားခြင်းကြီးစွာဖြင့် ကြည့်ရှုနေတော်မူရုံမျှသာ ရှိ၏။ ကုသိုလ်ကိုလည်း မဖြစ်ခင် တိုက်တွန်းပေးပြီး ဖြစ်ပြီးလျှင် ဝမ်းမြောက်ခြင်းကြီးစွာဖြင့် ကြည့်ရှုတော်မူနေခြင်းမျှသာ ရှိ၏။

တကယ် အားကိုးရမည်မှာကား မိမိ ကိုယ်ကျင့်သီလသာတည်း။

သီလနှင့်သာ ပြည့်စုံလျှင် မိမိအတူနေသူတို့၏ ချစ်ကြည်မှုကိုလည်း ရနိုင်၏။ သေသူ ဆွေမျိုးမိဘတို့ကိုလည်း မိမိကိုမှီ၍ အဆင့်မြင့်စေနိုင်၏။ မိမိ၏ စီးပွားရေးကိုလည်း ကြီးပွားနှုန်း တိုးတက်စေနိုင်၏။ မိမိ မှီခိုသူတို့အားလည်း

ကြီးပွားရန် မြင့်အားပေးနိုင်၏။ တစ်ယောက်တည်း အကြောက်ကင်းစွာ နေနိုင်၏။ မိမိ၏ ကံကိစ္စ၊ ဈာန်ကိစ္စ၊ ဉာဏ်ကိစ္စဟူသော ဘဝသမ္ပတ္တိ (ဘဝသာယာမှု)နှင့် ဘဝအဆင့်အတန်းမြင့်မားမှုမှ လွတ်မြောက်မှုအထိ အကျိုးပေးစေနိုင်၏။ သီလထက် အားကိုးစိတ်ချရသော ကိစ္စ လောက၌ ဘယ်အရာကိုမျှ မမြင်ပြီ။

ထိုကိုယ်ကျင့်သီလ ဖြူစင်တောက်ပစေလိုလျှင် စိတ်စင်ကြယ်မှုရရန် ဦးစွာ ကြိုးစားရပါမည်။ ငါစွဲ မကပ်သာသော ရလိုမှု၊ မစွဲသာသော ငါပိုင်ထင်မှု၊ မခိုသာသော အသိဉာဏ်သက်သက်ချည်း ဖြစ်ပါမှ သင့်ကိုယ်ကျင့်သီလ လုံခြုံ စိတ်ချရပြီ ဟူ၍ တစ်ထစ်ချမှတ်ပါလေကုန်။

## ဦးစွာ လေ့ကျင့်ရမည့် သီလသိက္ခာ

တက်လမ်းရှာအပေါင်းတို့-

သီလဟူသည် အလေ့အကျင့်ဟု အဓိပ္ပာယ်ရချေ၏။ မိမိ၏ ကိုယ်အမူအရာ၊ နှုတ်အမူအရာ၊ စိတ်အမူအရာတို့၌ ကောင်းမြင့်သော အထုံအလေ့ဝါသနာများ အမြဲ ခိုစွဲနေရန် လေ့ကျင့်ခန်းဝင်ပေးရခြင်းပင် ဖြစ်၏။ ထိုအလေ့အကျင့်မျိုးကို ကောင်းမွန်စွာထတဲ့၍ အကောင်အထည်ဖော်ဆောင်နေခြင်းတို့ကိုကား သိက္ခာ ဟု ဆိုရ၏။ သီလကား အလေ့၊ သိက္ခာကားအကျင့် ဖြစ်သဖြင့် သီလသိက္ခာ ဆိုသည်မှာ လေ့ကျင့်နေခြင်းဟူ၍ ဦးစွာ သဘောပေါက်ထားသင့်ချေ၏။

- ငါးဖမ်းလေ့ရှိသော အကျင့်သည် တံငါသည်၏ သီလတည်း။
- ငါးကို တကယ်ထ၍ ဖမ်းခြင်းသည် တံငါသည်၏ သိက္ခာတည်း။

အဘယ့်ကြောင့် သင်သည် ကောင်းမြင့်သောအထုံကို ကူးယူနေရချေသနည်း။

သတ္တဝါတိုင်းတို့၏ မူလအစသည် အဝိဇ္ဇာ (မသိရာမှ) စသည် ဆိုသဖြင့် ဓာတ်လေးပါးတို့ ပေါင်းဆုံနှီးနှောမိရာမှ ဓာတ်သက်များဝင်လာစေပြီး တိရစ္ဆာန် အဖြစ်ဖြင့် ကမ္ဘာမြေသို့ ဦးစွာ ခြေချခွင့်ရချေ၏။ ထိုတိရစ္ဆာန်သည်လည်း အညှိ အဟောက် စသည့် သံသေဒဇမျိုးရိုးမှ စတင်ရမည်ဖြစ်သဖြင့် ရေသတ္တဝါမှ စတင် ရချေ၏။

သတ္တဝါဟူ၍ သက်ဝင်လှုပ်ရှားလာသောအခါတွင်မူကား မိမိဘဝ ရပ်တည်နိုင်ရေးအတွက် အစာကိုလည်း ရှာဖွေရ၏။ နေရာကိုလည်း ရွေးချယ်ရ၏။ ပေါင်းသင်းဘက်ကိုလည်း အဖော်ရှာရ၏။ ထိုသို့ ရှာသောအခါ မိမိ၏ ဇာတ်သဘာဝနှင့် တည့်သောအစာ၊ နေရာအဖော်တို့ကို တွေ့ရသောအခါ တစ်ကြိမ်မက တစ်ကြိမ် သုံးစွဲမိသဖြင့် ကြိုက်စိတ်သည် အစိုင်အခဲကဲ့သို့ စွဲဝင်လာချေ၏။

ထိုဝတ္ထုပစ္စည်းကို မရတော့သောအခါ၊ သို့မဟုတ် စိတ်ကြိုက်ခံစားခွင့် မပေးတော့သောအခါ မကျေချမ်းစိတ် ပေါ်လာ၏။ အကြိုက်တူတွေ့၍ အပြိုင်လုယက်ရသောအခါတွင်ကား ငါ့ဖို့ဟူသော အယူလွဲမှားမှု၊ ငါဟူသော ထောင်လွှားစိတ်၊ တက်စိတ်ဖြင့် ပြိုင်ဆိုင်မှု စသည့် ကွင်းဆက်များ စီကာပတ်ကုံး ပေါ်လာချေတော့၏။

ဆီ၊ ရေ၊ လေ၊ ဝိုင်တို့ဖြင့် ထည့်သွင်းမောင်းနှင်ရသော စက်ကြီးတစ်လုံးသည် မောင်းပါများက ဆီခိုးပေကျံသဖြင့် ရပ်ပျက်ဆင်းပျက် ဖြစ်လာဘိသို့။

ထို မသိ၊ ကြိုက်၊ မကြိုက် စသည်တို့ဖြင့် လှည့်ပတ်ဖွေရှာနေရရာတွင် စိတ်ကောင်းဟူ၍ မရှိခဲ့ချေပြီ။ ညစ်ပတ်မှုကား လူမြင်မခံရဲလောက်အောင်ပင် ကမ်းကုန်ကြချေ၏။ ထိုသတ္တဝါတို့သည် ရေသတ္တဝါအငယ်စား (အသေးမွှား) ဘဝဖြင့်လည်း အကြိမ်ကြိမ် လှည့်ပတ်ခဲ့ကြပြီ။

- ရေသတ္တဝါအကြီးစားဘဝဖြင့်လည်း အကြိမ်ကြိမ် လှည့်ပတ်ခဲ့ကြပြီ။
- ကုန်းသတ္တဝါ အငယ်စားလေးများဘဝဖြင့်လည်း မရေတွက်နိုင်ခဲ့ကြပြီ။
- ကုန်းသတ္တဝါ အကြီးစားဘဝဖြင့်လည်း မရေတွက်နိုင်ခဲ့ကြပြီ။
- ပျံသန်းနိုင်သော အငယ်စားဘဝဖြင့်လည်း အတောမသတ်ခဲ့ကြပြီ။
- ပျံသန်းနိုင်သော အကြီးစားဘဝများဖြင့်လည်း အတောမသတ်ခဲ့ကြပြီ။

ထို ရေ၊ မြေ၊ လေသို့ ကျင်လည်နေရသော ဘဝမျိုးစုံတို့မှ လူ့ဘုံသို့ ရောက်ရန်အရေးမှာ အလွန့်အလွန်လျှင် ကွာဝေးလှပါချေ၏။ ကုသိုလ်ကောင်းမှုပြုသော စေတနာမျိုးစေ့ မပါဘဲနှင့် လူ့အဖြစ်သို့ လုံးဝ ကူးဝင်မလာနိုင်ချေ၏။ လူတို့နှင့် လက်ပွန်းတတီး ထိတွေ့ခွင့်ရစေပြီး လူစွဲ၊ မစွဲဘဲနှင့်လည်း လူအဖြစ်သို့ ကူးဝင်လာရန် စိတ်ကူးထဲ၌ပင် မထည့်နိုင်ချေ။

ထို လူမဖြစ်မီ၏ ရှေ့အဘို့ဘဝများစွာတို့ကလည်း မသိသည့်အလျောက် မိုက်ပြစ်များချည်း နေ့စဉ်ပြုကျင့်ခဲ့၏။ ကြိုက်သည့်အလျောက် စော်ကားမှုများသည်လည်းကောင်း၊ မကြိုက်သည့်အလျောက် စော်ကားမှုများသည်လည်းကောင်း ဒုနဲ့ဒေးပင်တည်း။

– ထိုသတ္တဝါ လူ့ပြည်သို့ရောက်သော်လည်း လူစိတ်မပေါက်သာသေးပြီ။

– မသိ၊ ကြိုက်၊ မကြိုက်တို့ဖြင့် ပြုကျင့်နေခြင်းမှန်သမျှ လူ့အလုပ် မဟုတ်တတ်သေးပြီ။

လူ့ပြည်ရောက်ပါလျက်က လူ့အတွေးခေါ်မျိုးလည်း မတွေးမကြံတတ်သေး။ လူလိုလည်း မလုပ်တတ်သေးသော အရိုင်းတို့ကို ကောင်းမြင့်သော အလေ့အထုံများ စွဲခိုလာစေရန် လေ့ကျင့်ခြင်း ပမာသော သီလကို စတင်ရာ၏။

ထိုသီလသည် မသိစိတ်ဖြင့် မသိမှား၊ မှားစရာတစ်ဖက်ရှိ ဝတ္ထုအာရုံများနှင့် ထိပ်တိုက်မတွေ့မီ ကြိုက်စိတ်ဖြင့် ကြိုက်ကောက်၊ ကောက်စရာ တစ်ဖက်ဝတ္ထုအာရုံများနှင့် ပက်ပင်းမကြုံမီ မကြိုက်စိတ်ဖြင့် မိုက်ဖောက်၊ ဖောက်စရာတစ်ဖက်၏ ဝတ္ထုအာရုံများနှင့် ရင်မဆိုင်မီ ထိုထိုဝတ္ထုအာရုံနှင့် ကင်းရှင်းရာ ဘုရားကျောင်းကန်နားသို့ သွားရောက်ကာ လေ့ကျင့်ပေးရချေ၏။

စစ်တိုက်လိုသော (ရန်သူကို ချေမှုန်းလိုသော) စစ်သားကောင်းတစ်ယောက်သည် စစ်မြေပြင် မရောက်မီ လေ့ကျင့်ရေးသင်တန်းကျောင်းသို့ ဦးစွာ ဝင်ရသည်ကဲ့သို့ သဘောထားရာ၏။

ထိုအရိုင်းစားများအဖို့ ဦးစွာ လေ့ကျင့်ရမည်မှာ မလိမ်ကောင်း၊ မညာကောင်းသော လိမ်ညာသော် သိကျွာရှင်၏ဂုဏ်ကို ထိပါးစေနိုင်သော သံဃာတော် အရှင်ကောင်း၊ အရှင်မြတ်များထံ ကတိခံဝန်ထား၍ ကျောင်းနားကပ်နေရန်ပင်တည်း။

တစ်ချိန်သော ကာလတုန်းက လူဆိုး၊ လူမိုက်ကြီးတို့ကို နိုင်နင်းစွာ မအုပ်ချုပ်နိုင်သော အစိုးရမင်းတို့သည် ခြေချုပ်ဥပဒေများ ထုတ်ပြန်ကာ ထိုလူမိုက်ကြီးတို့ကို ခြေချုပ်ဖြင့် မျက်စိအောက်မှ အပျောက်မခံ (မိမိနယ်မြေမှ အခြားနယ်မြေများသို့ ညအိပ်ညနေ အသွားမခံ)ဘဲ ထိန်းသိမ်းပေးထားရချေသတဲ့။ သက်ဆိုင်ရာ

အစိုးရမင်းတို့သည် ညနေ နေဝင်ချိန် (၆ နာရီ)တွင် မိမိထံသို့ နေ့စဉ် လာရောက်ကာ လက်မှတ်ရေးထိုးစေသည် ဆို၏။ ကျွန်တော်မျိုးကြီး ဘယ်ကိုမျှ ယနေ့ညအဖို့ သွားချိန် မရတော့ပါကြောင်း အသိပေးသကဲ့သို့လည်း ဖြစ်ချေ၏။ ကျွန်တော်မျိုးကြီး ယနေ့တစ်နေ့လုံးလည်း အဘယ်အရပ်ကိုမျှ ဝေးဝေးလံလံ မသွားပါကြောင်း အသိပေးသကဲ့သို့လည်း ဖြစ်ချေ၏။

သည့်အတူ ယနေ့သီတင်း တစ်နေ့နှင့်တစ်ညအဖို့တော့ ကိလေသာနှုးတိုင်လွှန်ကျူးမိတတ်ရာ စားကျက်ဆီသို့ ဘုရားတပည့်တော်တို့ မသွားတော့ပါဟူ၍ ဝန်ခံသည့်အလား ဘုရားကျောင်းကန်များ၌သာ နေထိုင်စားသောက်လျက်က နေကြရချေ၏။

- ထိုသီတင်းသည် စိတ်လွှတ်နေသဖြင့် အာရုံလည်း လုံပေလိမ့်မည် မဟုတ်။
- ထိုသီတင်းသည် သိက္ခာလွှတ်နေသဖြင့် နှုတ်ဆော့မှုလည်း ရပ်လိမ့်ဦးမည် မဟုတ်။
- ထိုသီတင်းသည် သိက္ခာလွှတ်နေသဖြင့် ကိုယ်၏ ရိုင်းစိုင်းမှုလည်း ယဉ်ပါးလေဦးမည် မဟုတ်။

သို့တစေလည်း ရာဂ၊ ဒေါသ၊ မောဟတို့၏ ကျက်စားရာ စားကျက်ထဲသို့ ကိုယ်ထိလက်ရောက် ဝင်မသွားလျှင် တော်လောက်ပြီ။

အို တက်လမ်းရှာ–

ဒါနဖြင့် ပြင်ပ ဝတ္ထုပစ္စည်းတို့ကို စွန့်လွှတ်ခဲ့ရာမှ သီလဖြင့် မိမိကိုယ်မိမိ ယဉ်ကျေးစေရန် ဆုံးမခြင်း၊ သို့မဟုတ် အကျင့်ဖြူစင်သူများသို့ ပြင်ပ ပစ္စည်းများဖြင့် စွန့်လွှတ်၍ ထိုဖြူစင်သူ၏ မိမိထံသို့ အာရုံမေတ္တာများ ပို့လွှတ်ခြင်းကို ခံယူပြီးသည့်နောက် မိမိကိုယ်တိုင် ဖြူစင်သူ၏အဖြစ်ကို ခံယူခြင်းပြုရာတွင် သီလသည် ဒါနမှတစ်ဆင့် အမြင့်သို့ ကူးလာနေသည်ဟု သင့်အမြင် ပီပြင်စေချင်၏။

ထိုအမြင်မျိုး သင့်ဉာဏ်၌ စွဲဝင်လာလျှင် သီလဟူသော စကားအသုံးအနှုန်းကို ပီပြင်စွာ ပုံဖော်သင့်ချေ၏။ သီလဟူသည် အလေ့အကျင့်၊ အလေ့အကျင့် မပြုလုပ်သေးသမျှ သီလဟူသော စကားလုံးအဓိပ္ပါယ် ပြီးပြည့်စုံပြီဟူ၍ မဆိုသာပြီ။

ဤ၌ သင်သိသင့်သေးသည်မှာ ဥပုသ်သီတင်းစောင့်သုံးခြင်းဟူသော စကားရပ်များ၏ အဓိပ္ပါယ်ပင် ဖြစ်ချေ၏။ ဥပုသ်ဟူသည် မိမိစိတ်အာရုံငါးပါးမှ ဆိတ်သုဉ်းခြင်းကို ဆိုလို၏။ စိတ်သည် အာရုံနောက်သို့ လိုက်စားနေသမျှ ဥပုသ်ဟူ၍ အမည်မခံရပြီ။

ယနေ့အဖို့ မျက်စိရှိ၍ မြင်ရသော်မှ ဘာလဲ ဟူ၍ အာရုံနောက် လိုက်ကာ မစုံစမ်းသင့်။ နားရှိ၍ ကြားရသော်မှ အာရုံနောက်လိုက်၍ မခံစားသင့်။ အမြင်သည် အမြင်နှင့်သာပြီးစေပြီး အမြင်၏နောက် ဘယ်သူ၊ ဘာညာ ရုပ်လုံး ပေါ်မလာစေသင့်။ သို့မှသာ ဆိတ်သုဉ်းခြင်းဟူသော ဥပုသ်၏အဓိပ္ပါယ် ပြီးပြည့်စုံချေမည်။ သည့် အတူ အသံ၊ အနံ့၊ အရသာ၊ အတွေ့တို့ကိုလည်း ဆက်ဆံရချေ၏။

ညနေ ထမင်းစားမှ ဥပုသ်ကျိုးစေသည်မဟုတ်။ ရေတစ်ခွက်ကို အရသာ ခံ၍ သောက်နေလျှင်ပင် ဥပုသ်မဖြစ်ပြီ။ အဖျော်ယမကာ စသည်တို့ကား ဆိုဖွယ် မရှိပြီ။

ယနေ့အဖို့ နံနက်ပင်ဖြစ်စေ၊ ညနေပင်ဖြစ်စေ အစားအသောက် သူ့အချိန်နှင့်သူ သုံးဆောင်ရာ၌ အာရုံ၊ (အရသာ)တို့ဘက်သို့ စိတ်မရောက်စေဘဲ မိမိဘက်သို့သာ စိတ်ထားကာ သုံးဆောင်တတ်ကြရာ၏။

လှည်းစာထိုးသော ဥပမာကဲ့သို့၊ အနာဆီတည့်သော ဥပမာကဲ့သို့ လှည်းသည် အစာမထိုးက တကျွီကျွီ မြည်လေဘိသို့ ခန္ဓာသည်လည်း အစာထိုးမပေးပါက ဝမ်းဗိုက်သည် တကျွီကျွီမြည်အော်နေတတ်ရကား ထိုအော်မြည်နေသောနေရာသို့ မိမိစိတ်စုရပ်အဖြစ်ထားကာ စားသုံးရမည်ဟူ၏။

အနာသည် ဆေးမလူးသော် တဖျင်းဖျင်း အဆိပ်တက်လေဘိသို့ ခန္ဓာသည် လည်း အရသာ၏ ကစီဓာတ်ဖြင့် သုတ်လူးမပေးပါက အချင်းချင်း ပွတ်တိုက်မှု ကြောင့်ဖြစ်သော ဒဏ်ရာသည် တဖျင်းဖျင်းတက်နေချေရကား ထိုတက်နေသော နေရာဆီသို့ မိမိစိတ် ပို့လွှတ်ထားကာ သုံးဆောင်ရမည်ဟူ၏။

ဤအလေ့အကျင့်အမျိုး လေ့ကျင့်တတ်ပါမှ ဥပုသ်တော်သီလ ဖြစ်ရတော့၏။ သို့မဟုတ်က သီလဖြင့်သာ ကျေနပ်ကြရပြီး ဥပုသ်အဆင့်သို့ မတိုးမြှင့်စေနိုင်ပြီ။

သီတင်းဟူသည် အေးဆေးငြိမ်သက်ခြင်း၊ သန္တိသုခ၏ အခြေခံအစိတ်အပိုင်းများ ဟူ၍ အဓိပ္ပာယ်ထွက်ချေ၏။ ကိုယ်စိတ်နှစ်ပါးလုံး အေးငြိမ်းမှု မရှိပါက သီတင်းသည် အမည်မရပြီ။ ယနေ့အဖို့ ကြိုက်စိတ်ကြီးပြင်းလာသဖြင့် ဘဝင်မငြိမ်၊ နှလုံးအိမ်ခုန်၊ ရင်တုန်လှုပ်လှုပ် ကိုယ်စိတ်နှစ်ရပ်တို့သို့ ကိလေသာအပူကပ်ခြင်းမှ ကင်းဝေးနေစေရာ၏။ သည့်အတူ မကြိုက်သွေးဆူတက်လာသဖြင့် လည်းကောင်း၊ မိုက်သွေးပူတက်လာသဖြင့် လည်းကောင်း ကိုယ်စိတ်နှစ်ပါးလုံး ပူပန်ခြင်းတို့မှ ကင်းဝေးနေစေရာ၏။ ထိုကိုယ် စိတ်ပူပန်ခြင်း (ကိုယ်အပူလောင်၊ စိတ်အပူလောင်ခြင်း)တို့မှ တစ်နေ့တာ ရပ်နားနေစေရန် သီတင်းနေ့ သီတင်းသုံးခြင်းဟူ၍ လူတို့အတွက် သီးခြားတစ်နေ့ သတ်မှတ်ထားခြင်း ဖြစ်ချေ၏။

စောင့်သုံးခြင်းဟူသည် မိမိစိတ်နှင့် တစ်ဖက်အာရုံတို့အကြား သတိအစောင့်အကြပ်ထားလျက်က ခံစားခြင်းပင်တည်း။

တံခါးငါးပေါက်ရှိသော ရုံးတော်ကြီးတစ်ရုံး၌ ရုံးစောင့်ဟူသည်ကား ထားစမြဲဖြစ်၏။ ထိုရုံးစေင့်လုလင်သည် ရုံးအမှုထမ်းတို့ကိုကား သူ့အချိန်အခါအလိုက် ဝင်ခွင့်ပြု၏။ ထိုသို့ဝင်စေရာ၌ပင် အရေးကြီးက ရုံးသူရုံးသားတို့၏ တံခါးဝင်ကိုလည်း ဆီးကြိုစစ်ဆေးသေး၏။ တံခါးထွက်ကိုလည်း ဆီးကြို စစ်ဆေးသေး၏။ ပြင်ပသူ့ဝန်ထမ်းနှင့် သူ့တံခါး ဝင်ထွက်သွားလာသည်ကိုကား ခွင့်ပြုမြဲ ပြုချေ၏။ ပြင်ပသူစိမ်းတစ်ရုံဆံတို့ ဝင်ရောက်လာပါသော်ကား လုံးဝ ဝင်ခွင့်မပေးပြီ။ အဘယ့်ကြောင့်ဆိုသော် ရုံးလုပ်ငန်းနှင့် မသက်ဆိုင်သောကြောင့်။

သည့်အတူ အပ္ပမာဒသတိ (အပ္ပမာဒေန သမ္ပာဒေထ ဟူ၍ မိန့်ကာ ပေးတော်မူလိုက်သော သတိအတိုင်း)သည် အဆင်းကား သူ့ဝင်လမ်း မျက်စိတံခါးသို့ ဝင်ရောက်လာသည်ကိုကား တားမြစ်ခြင်းမပြုပြီ။ ထိုအဆင့်နောက်မှ ကပ်ပါလာသော ဘယ်သူဘယ်ဝါ ဘာညာဟူသော အစွဲသိများနှင့် ကောင်းသည်၊ ကြိုက်သည်စသည့်အစွဲများကိုကား ဝင်ခွင့်မပေးရပြီ။ အသံ၊ အနံ့၊ အရသာ စသည်တို့မှလည်းသည့်အတူပင်။ သူ့တံခါးနှင့်သူ ခရီးသွားကို ပိတ်ပင်တားမြစ်ခြင်း အလျဉ်းမရှိချေဘဲ ထိုနောက်တို့မှ ကပ်ပါလာသော ကပ်ပါးပိုးတို့ကိုသာ စောင့်ထိန်းပေးရချေ

၏။ ဤသို့ စောင့်ထိန်းခြင်းဖြင့်–

– အိမ်ရှင် အိမ်ပြင်သို့ ထွက်မလိုက်စေခြင်း၊

– အိမ်ပြင်ကဧည့်သည် အိမ်တွင်းသို့ ဝင်မွှေခွင့်မပေးခြင်း ဟူသည် ကိစ္စနှစ်ခုကို ဦးစွာ အကောင်ထည်ဖော်ပေးခြင်းတည်း။

သို့မှသာ ဥပုသ်သည် အာရုံတို့နှင့် ကင်းကင်းရှင်းရှင်းနေလေသူ၊ သီတင်းသည် ကိုယ့်စိတ်နှင့်ကိုယ် အေးအေးဆေးဆေးနေလေသူ ဟူသော လူဖြူအဆင့်မြင့်သို့ ရောက်စေနိုင်၏။ ကောင်းမှန်သော အမည်ထူးကို ခံယူနိုင်သူ ဖြစ်ချေ၏။ သို့မဟုတ်က အဟုတ် ဥပုသ်သို့မဆိုက်၊ အချုပ်ဥပုသ်ဖြင့်သာ တစ်ရက်တာ ကုန်ဆုံးရချေမည်။ ကြည့်လိုပါလျက်က အောင့်အီးချုပ်တီးနေရခြင်း စသည့် အောင့်လုံးများဖြင့်သာ အချိန်ကုန်လွန်ရသော် အချုပ်သားတို့ဘဝနှင့် ဘာမျှ မခြားနားတော့ပြီ။

ထောင်တွင်းမှ အချုပ်သားကြီးများလည်း အာရုံလုံကြပါ၏။ ထောင်နံရံကာခြားထားသဖြင့် မယားမမြင်၊ သားမမြင်ချည်းသာ ဖြစ်ကြပါ၏။ သို့တစေလည်း စိတ်၌ကာ ငါ ထောင်ကထွက်ရလျှင်တော့လား ဟူသော အောင့်လုံး တေးလုံးများစွာဖြင့် အချိန်ကုန်ရရာ အာရုံလုံလျက်က ဥပုသ်မရသူ၏အဖြစ်သို့ ရောက်ရချေတော့၏။ သို့ကြောင့် စောင့်သုံးခြင်းဟူသော စကားလုံးကို ပုံစံပြည့် ဖော်ဆောင်သောအားဖြင့် စိတ်နှင့်အာရုံကြား အမြဲမပြတ် စောင့်ကြပ်သော သတိအစောင့်ချထားသင့်၏။ ထိုသို့ အစောင့် တင်းကြပ်စွာ ချမထားနိုင်သေးသော် ဥပုသ်သည်၊ သီတင်းသည်သို့ မရောက်လေဘဲ သီလရှင်ဘဝဖြင့် နှစ်သိမ့်ရမည်သာတည်း။

## ဒုတိယလေ့ကျင့်ရမည့် သီလသိက္ခာ

တက်လမ်းရှာအပေါင်းတို့–

ဒါနဖြင့် ပြင်ပဝတ္ထုတို့ကိုစွန့်လွှတ်ကာ စိတ်မြတ်မွေးမြူပြီးနောက် သီလဖြင့် ကိုယ်ကျိုးကိုပင် စွန့်လွှတ်ကာ အဆင့်တက်ပုံတို့ကို ပြောကြားခဲ့ပြီးပြီ။

ထိုသို့ သီလဖြင့် ကိုယ်ခံစားမည့်အာရုံကိုပင် စွန့်လွှတ်ကာ လေ့ကျင့်ရာ၌

အာမဘဏ္ဍေခံ (ကတိခံ)လျက် ကျောင်းအိပ်၊ ကျောင်းကပ်၊ ဇရပ်နေခို၊ ပျော်သလို နေရုံမျှဖြင့် စိတ်အဆင့်အတန်း မြင့်တက်လာဦးမည်ကား မဟုတ်ချေသေး။

ထိုအဆင့်ဖြင့် ကျောင်းသို့ခေါ်လျှင် ပျော်ပျော်ကြီး လိုက်ပါနိုင်ပြီဖြစ်သော ကာလတွင်ကား ဒုတိယဦးစားပေးအဖြစ်ဖြင့် ကိုယ့်တံခါးကို ဦးစွာ လေ့ကျင့်ပေးရာ၏။ အမာခံကိုယ်ထည်ကြီးကို ကမ္မဋ္ဌာန်းအမှု တစ်ခုခုပေးပြီး ကတိခံအဆင့်မှ ကိုယ်ကျင့်အဆင့်သို့ တက်ရောက်လေ့ကျင့်ပေးသင့်ရာ၏။

ဤ၌ ကိုယ်ကျင့်ဟူသည် အာရုံတို့နှင့် ရင်ဆိုင်မိလျှင် ခြေကားရား၊ လက်ကားရား မဖြစ်မိစေရန် ပတီးသော်လည်းကောင်း စိပ်လျက်ကနေသင့်၏။ ကမ္မဋ္ဌာန်းနည်းတစ်ခုခုကိုလည်း ထိုင်လျက်က လည်းကောင်း၊ ရပ်လျက်က လည်းကောင်း၊ သွားလျက်က လည်းကောင်း၊ လဲလျောင်းရင်းက လည်းကောင်း ရှုပွားနေသင့်၏။ တစ်ရက်တာအချိန်တို့ကို ထိုကိုယ်ကျင့်အလုပ်ဖြင့်ပင် အချိန်ကုန်လွန်စေသင့်၏။

ထိုသို့ပြုကျင့်နေခြင်းဖြင့် ကာယကံ သောင်းကျန်းမှုကို ဟန့်တားပေးနိုင်၏။ ကာယကုသိုလ်တို့ကား တိုးပွားလျက်သာ ရှိချေ၏။ တစ်ကျပ်အမြတ်စား မဖြစ်သော်မှ တစ်မတ် အမြတ်စားကား ဖြစ်နေပါချေ၏။ ထမ်းပိုးမနပ်သေးလျှင်၊ ဝန်ကို ရုန်းနိုင်သေးမည် မဟုတ်လျှင် ဦးစွာ ထမ်းပိုးကျင့်ကို ကျင့်စေရဘိသို့ ရှိချေ၏။

- ကိုယ်ကျင့်ကို တွင်တွင်ကျင့်စေခြင်းဖြင့် စိတ်သည် အဝေးသို့ ပြေးခွင့် မသာစေပြီ။
- ကိုယ်ကျင့်သို့ အားကုန်ပို့ထားခြင်းဖြင့် စိတ်သည် အင်အားပြည့်ကို မရသာစေပြီ။

သို့တစေလည်း လူသူပရိသတ်တို့ကြား ပတီးစိတ်နေလျှင်ကား စိတ်သည် အနီးအပါး၌ပင် ပြေးဆော့လျက်က သူတစ်ပါးတို့ပြောစကား အာရုံခံ၍ နားထောင်နေချေဦးမည်သာ။ စိတ်ထက်လာပြီး စိတ်သို့ အားပါသွားသော် နှုတ်မှလည်း တသောသော ပြောချေဦးမည်သာ။ လက်မှကား ပတီးနှင့် ချောက်ချောက်၊ နှုတ်မှကား ထွေရာစကား တဖျောက်ဖျောက်၊ စိတ်မှကား ငေါက်တစ်ချက် မောက်တစ်ချက်နှင့် မြောက်လျက်သာ ရှိနေဦးမည်တည်း။

အို တက်လမ်းရှာ–

သင်သည် အာမဘန္တေ ခံဖြင့်ပင် ခရီးဆုံးနေပြီလော။ သို့မဟုတ် ကိုယ်ကျင့်သီလဖြင့်ပင် သောင်တင်နေပြီလော။

သင့်အကြောင်း သင်သာလျှင် ကောင်းကောင်းသိပါချေမည်။ သင်၏ အလေ့အကျင့် သင်သာလျှင် စေ့စေ့ငှငှ ချင့်တွက်နိုင်ချိမ့်မည်။

ထိုအလေ့အကျင့်တို့ကား သီလမျှသာ ရှိချေသေး၏။ သိက္ခာသို့ မတက်သေးပြီ။

– သီလမျှသာ ရှိချေသေး၏။ ဥပုသ်တော်သီလသို့ မရောက်သေးပြီ။

– သီလမျှသာ ရှိချေသေး၏။ သီတင်းသည်ကား မဖြစ်သေးပြီ။

သင်သည် သီလကို ဘာလုပ်ဖို့ယူသနည်းဟု သင့်ကိုယ်သင် မေးသင့်ချေ၏။

– ဒါနသည် ကိုယ်ချမ်းသာမှုနှင့် လမ်းရိက္ခာအတွက်

– သီလသည်ကား စိတ်ချမ်းသာမှုနှင့် လမ်းသွား

ဤသို့လျှင် အစကပင် ခွဲပြခဲ့ပြီး ဖြစ်ချေ၏။ တစ်ဖန် ဒါနသည် ရင်ဝစူးဝင်နေသော မြားကို ဆွဲနှုတ်သောလက်နက်၊ သီလသည်ကား အဝေးမှ ပစ်လွှတ်လိုက်သော မြားကို ဆီးကာသောလက်နက် ဟူ၍လည်း ခွဲပြခဲ့သေး၏။

သို့ဆိုသော် သီလ (လေ့ကျင့်မှု)၏ အဓိကရည်ရွယ်ရင်းသည် စိတ်၊ အပူဘေးမှ ကင်းဝေးရန်နှင့် အပူဝေးသဖြင့် အပူကြွေးမပေးရရာ အထက်တန်းစားဘဝတို့သို့ ရောက်ရှိရန်ဖြစ်ကြောင်းကို သင် မမေ့သင့်ချေ။

ထိုလမ်းကိုမျှော်မှန်းလျှင် ထိုလမ်းအတိုင်းပင် သွားရမည် ဖြစ်ချေ၏။ ထိုလမ်းအတိုင်းသွားမှသာ မျှော်မှန်းသည့်အတိုင်း ဆိုက်မြိုက်စွာ ရောက်ရှိနိုင်မည် ဖြစ်ချေ၏။

သို့ကြောင့် ကိုယ်ကျင့်သီလဖြင့် မတင်းတိမ်မိစေရန် မိရိုးဖလာစိတ်ဖြစ်သော အမေ ဗုဒ္ဓဘာသာဖြစ်၍ ငါ ကျောင်းလိုက်သည်ဟူသော အစွဲကို အပြီးအပိုင်ဖြုတ်ပယ်ပစ်သင့်ချေ၏။ ထုံးစံနောက်၌ စေတနာမလိုက်သည်ကို သတိပြုသင့်၏။ ကိုယ်ပိုင်ဉာဏ်ဖြင့် သီလအကြောင်း ကောင်းကောင်းမသိဘဲလျက်လည်း စေတနာမပါသည်ကိုလည်း သတိပြုသင့်သေး၏။ အများတို့ ဟောပြ၍ တက်လာသော

စေတနာသည် ကိုယ်ပိုင်ပညာမပါသဖြင့် သဒ္ဓါသို့ မတက်၊ တဏှာဘက်သို့သာ ဆွဲငင်လိုမှုချသွားသည်ကိုလည်း သာ၍ သတိပြုသင့်သေး၏။

– ငါသည် ဤမျှဖြင့်မှန်းရာ တန်းကာ မရောက်နိုင်သေး။

– ဘက်စုံဖွင့်မှ အကျင့်မှန်သို့ ရောက်သဖြင့် လိုရာမျှမက အပိုပါရနိုင်မည်။

ဤသို့ ဆင်ခြင်စိတ်သွင်းကာ လက်ငင်းချမ်းသာမှုကစ၍ အရယူရာ၏။ ယနေ့ သင် စောင့်ထိန်းခဲ့သော ဥပုသ်ရက်ပေါင်းများနှင့် တွက်ကြည့်သော်–

– သင့်စိတ်ချမ်းသာမှုသည် မီးဝေးသောကြာတစ်ပွင့်သို့ ဖြစ်လောက်ပြီ။

– သင့်ဘဝ ခရီးစဉ်ကြီးသည်လည်း သည့်ထက်သည် အဆင့်မြင့်နေလောက်ပြီ။

ယနေ့အချိန်ရှိသလောက် စိတ်မအေးရသည်မှာ သီလ မပြည့်စုံသေးခြင်းကြောင့်သာ ဖြစ်ချေ၏။ ဝမ်းစာ ရှာဖွေခဲ့သည့် နှစ်အရေအတွက် များသလောက် အဖတ်မတင်သည်မှာလည်း ယင်းသီလ မပြည့်စုံခြင်းကြောင့်သာ ဖြစ်ချေ၏။ အများတို့၏ သဒ္ဓါကြည်ဖြူစွာ မဆက်ဆံခြင်း၊ အားကိုးတကြီး မထားခြင်း၊ သင့်စီးပွား ကြီးပွားအောင် အကူအညီ မပေးခြင်းများသည်လည်း ထိုသီလ မပြည့်စုံခြင်းကြောင့်သာ ဖြစ်ချေ၏။

– သင်ရမည့်လာဘ်ကို သင့်လောဘက ပိတ်ဆို့ပေးနေပြီ။ သတိထားကြည့်စမ်းပါ။

– သင်ခံစားရမည့်စည်းစိမ်ကို သင့်မာန၊ ဒေါသတို့က တားဆီးနေပြီ။ သတိထား။

– သင်ဆက်ခံရမည့်ရာထူးကို သင့်မောဟက ပိတ်ပင်လိုက်ပြီ၊ သတိထား။

၎င်းတို့နှင့် ပေါင်းနေသမျှ သင့်သီလ မပြည့်စုံပြီ။ သီလမပြည့်စုံသဖြင့် စိတ်မလုံခြုံသော် ထိုစိတ်သည် ထိုကိလေသာများနှင့် ပေါင်းမြဲပေါင်းမည်မှာလည်း သေချာပြီ။ ထိုအခါ သင်တွေ့လိုသော ချမ်းသာမှုသည် ပြာသိုလမှလွဲ၍ မည်သည့်လမျှ တွေ့ရတော့မည် မဟုတ်ချေပြီ။ သင်၏ အချမ်းသာဆုံးလ၊ အဘယ်လနည်းဟူ၍ အပေးရှိခဲ့သော် သင်ဖြေရမည်မှာ ပြာသိုလပါဟူ၍ပင်တည်း။

# တတိယ လေ့ကျင့်ရမည့် သီလသိက္ခာ

တက်လမ်းရှာအပေါင်းတို့ –

– လေ့ကျင့်မှုပထမဖြင့် သံဃာထံမှောက်သို့ မိမိကိုယ်ကို အရောက် ပို့ခဲ့ပြီ။

– လေ့ကျင့်မှုဒုတိယဖြင့် ခြေချုပ်၊ လက်ချုပ် ကမ္မဋ္ဌာန်းအလုပ်ရစေခဲ့ပြီ။

ယခုအခါ အလှည့်သည် ရိုင်းစိုင်းမှု၏ ဒုတိယတံခါးပေါက်ဖြစ်သော နှုတ်ကိုပါ ထိန်းသိမ်းခြင်းဖြင့် အဆင့်တက်မှုသို့ လေ့ကျင့်ရမည့်အလှည့်ပေတည်း။

– မကောင်းကျင့်ကို ထမ်းဆောင်ရာ၌ ကိုယ်အင်အားသည် ယောက်ျားရင့်မကြီးတစ်ဦးကဲ့သို့ တောင့်တင်းလှ၏။ နှုတ်အားကား မိန်းမသားတစ်ဦးကဲ့သို့သာ အင်အားရှိချေ၏။ သို့တစေလည်း–

– ယောက်ျားကဲတော့ တစ်ချက်တည်း၊ မိန်းမဆဲတော့ အသံမစဲ ဟူဘိသို့ နှုတ်ဆော့ခြင်းသည် ကိုယ်ဆော့ခြင်းထက် ပေါ့ပါးချေရကား လွှတ်ခနဲဆို ပြောပြီး၊ ဆိုပြီးသား ဖြစ်နေတတ်ရကား နှုတ်ဆော့သည် လက်ဆော့ထက် အထိန်းရခက်၏။ နှုတ်ကြမ်းကို ကိုယ်ကြမ်းထက် ပြုပြင်ရခက်ချေ၏။

၎င်းကို ထိန်းကျောင်းရမည်မှာ လောကီစကား ခပ်များများပြောနေမည့်အစား၊ ဂုဏ်တော်ကို .ခပ်များများပြောနေခြင်းက မကောင်းကျင့်ကို ကြေလွင့်စေနိုင်သဖြင့် ဂုဏ်တော်စကား နှုတ်ဝယ်တတွတ်တွတ် ပွားနေခြင်းဖြင့် လေ့ကျင့်ရာ၏။

– ဘုရားကောင်းကြောင်း များများပြောနေခြင်းဖြင့် ရာဂ မထစေနိုင်။

– မယားကောင်းကြောင်း ကြပ်ကြပ်ပြောနေခြင်းဖြင့် ရာဂကြွစေနိုင်၏။

– တရားကောင်းကြောင်း တထောင်းထောင်း ပြောနေခြင်းဖြင့် မာန မထစေနိုင်၏။

– သားကောင်းကြောင်း ခပ်စောင်းစောင်းပြောနေခြင်းဖြင့်သာ မာန ကြွစေနိုင်၏။

လက်သည် ပုတီးကိုကိုင်လျက်က အဆက်မပြတ် စိတ်နေဘိသို့ နှုတ်သည်လည်း မိမိနှစ်သက်ရာ ဘုရားဂုဏ်၊ တရားဂုဏ်၊ သံဃာဂုဏ်သုံးမျိုး တစ်မျိုးမျိုးတို့ကို လက်နှင့် အံကိုက် နှုတ်ဝယ်တတွတ်တွတ် ပွားရွတ်နေသော် ကိုယ်သည်လည်းကောင်း၊ နှုတ်သည်လည်းကောင်း၊ ဖောင်းမကြွလေတော့ဘဲ ငြိမ်သက်သော သိတင်းသည်ဘဝသို့ ရောက်စေနိုင်၏။

ပုတီးစိတ်ခြင်းသည် ကိုယ်ဆိတ်ငြိမ်မှု (ကာယဝိဝေက)ကို ထောက်ပံ့၏။ နှုတ်ဝယ် တတွတ်တွတ် ဂုဏ်တော်ရွတ်ဆိုခြင်းသည်လည်း ကိုယ်ဆိတ်ငြိမ်မှုကို လှုပ်ရှားပေးနေသော တစ်ခြမ်းပဲ့ကိုယ်ကို ငြိမ်ဆိတ်စေသဖြင့် ကာယဝိဝေအာကိုပင် ထောက်ပံ့စေ၏။ ကိုယ်၊ နှုတ်နှစ်ပါးစုံဖြင့် ကာယဝိဝေကအပြည့်ကို ဖြည့်တင်းပေး၏။

– ထမ်းပိုးတင်၍ ထိုထမ်းပိုးနှင့် ယဉ်ပါးလာပြီ ဖြစ်သော ထိုထမ်းပိုးတုံးကိုပင် တင်ကာ လယ်ယာကွက်တွင်းသို့ သက်ဆင်းစေခြင်းနှင့် ပမာတူ၏။
– သည့်အတူ၏ ကာယကံသောင်းကျန်းမှု၊ ဝစီကံသောင်းကျန်းမှု၊ ဝစီကံသောင်းကျန်းမှုနှစ်ခုတို့ဖြင့် အလေ့အကျင့် အင်အားကြီးထွားလာသော် ဝါသနာသည် တဏှာဘက်မှ သဒ္ဓါဘက်သို့ သွက်သွက်ကလေးပင် ပြောင်းဝင်လာတတ်ချေ၏။
– သော ဘဂဝါ ဣတိပိ အရဟံ

ထိုမြတ်စွာဘုရားသခင်သည် လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းကြီးတို့၏ ပူဇော် အထူးကို ခံယူတော်မူထိုက်ပါပေ၏။ ဤသို့ မြန်မာ့စိတ်နားကို မြန်မာစကားဖြင့် ခပ်များများလေး ပြောကြားပေးချေသော် ဘာ့ကြောင့် ပူဇော်အထူးကို ခံယူတော်မူထိုက်လေသလဲ။

ဤအမေးသည် သင့်ကိုယ်သင်ပင်မေးမေးလာပေလိမ့်မည်။ သူတစ်ပါးမေးက မဖြေလိုလျှင် ခေါင်းခါလွတ်၍လည်း ရ၏။ သိဘူး ဟူ၍ ဘူးမှုတ်၍လည်း ရသေး၏။ ကိုယ့်ကိုယ်ကို ပြန်လှန်မေးသောအခါတွင်ကား မဖြေ၍ မရပြီ။ သိလိုဇောဖြင့် စပ်စုတတ်သော သားငယ်၊ သမီးငယ်အား မိဘတို့သည် သားတို့၊ သမီးတို့ စိတ်

တိုင်းကျ ဖြေဆိုနိုင်ရန် လေ့လာဘိသို့။ ထိုအခါ မိမိသိလိုသည်ကို မိမိသည် အဖြေမှန် ရှာကြံရတော့မည်မှာ မလွဲချေပြီ။

နတ်မင်းဖြစ်သော်လည်း ကာမစည်းစိမ်နှင့် ဘဝစည်းစိမ်ကို မက်မောနေသေး၏။ ထိုကာမစည်းစိမ်၊ ဘဝစည်းစိမ်ကို ခံစားခွင့်ရမည်ဆိုလျှင် တဏှာ အမိန့်ပေးတိုင်းလည်း စော်ကားပေးရ၏။ မာနခိုင်းတိုင်းလည်း မော်ကြွားပေးရ၏။ ဒိဋ္ဌိနှွန်တိုင်းလည်း ပြစ်မှားပေးနေရသေး၏။

ဘုရားရှင်ကား ဘုရားဖြစ်မှ မဆိုထားဘိ။ သိဒ္ဓတ္တအလောင်းတော်ဘဝကပင်လျှင် မိဖုရားပေါင်းသာကီမျိုး တစ်သောင်းခြောက်ထောင်၊ အခြားမျိုး တစ်သိန်းလေးထောင် နှစ်ရပ်ပေါင်း တစ်သိန်းနှစ်သောင်းသော ကာမစည်းစိမ်ကို အပြတ်စွန့်လွှတ်ရဲခဲ့၏။ ရမ္မ၊ သုဘ၊ သုဘရမ္မတည်းဟူသော နန်းမသုံးဆောင်နှင့် တကွနန်းလုံးပြည့် အဆောင်အယောင် အားလုံးသော ဘဝစည်းစိမ်တို့ကိုလည်း လက်ပေါ်ကျရောက်လာသော မီးပွားကဲ့သို့ ခါချပစ်ရဲခဲ့၏။

ဤသတ္တိကား အသာထားဘိဦး။ အပေါင်းကြာ၍ အကောင်းမှာရိုးသောကြောင့် ပစ်လွှတ်နိုင်သည်ဟု ပြောလိုက ပြောနိုင်သေး၏။

– နန်းရိပ်ကို စွန့်၍ သစ်ပင်ရိပ်ပျော်နိုင်သော သတ္တိ၊
– စားဦးမြိမ်တို့ကို စွန့်၍ ကြမ်းတမ်းသော ဆင်းရဲသား ဘောဇဉ်တို့ကို စားနိုင်သော သတ္တိ၊
– အဝတ်နန္ဒ အလှတို့ကို စွန့်၍ မြေမှုန့်ပေကပ်၊ ဝတ်စုတ်ပြတ်တို့ကို ကောက်ဝတ်နိုင်သော သတ္တိ၊

ထိုထိုသတ္တိတို့ကား နတ်မင်းကြီးများ မတုပနိုင်ပြီ။ ထိုအခါ ငါ့ထက်သာသည်ဟူသော ဉာဏ်ဖြင့် နတ်မင်းကြီးတို့သည် ခစားကြ၊ ပူဇော်ကြလေကုန်၏။

ဗြဟ္မာမင်းဖြစ်သော်လည်း ဘဝစည်းစိမ်ကိုကား တွယ်တာသေး၏။ ထိုဘဝစည်းစိမ်ကိုများ တိုးတက်ပွား၍ ရဦးမည်ဆိုလျှင် ဘဝတဏှာ၏ အမိန့်အတိုင်း စျာန်လျှဉ်ပွား၍ ခံစားပေးနေရမည်သာ ဖြစ်ချေ၏။

ဘုရားရှင်ကား ဘုရားဖြစ်မှ မဆိုထားဘိ။ အလောင်းတော်ဘဝ အာဠာရ

ဥဒက ရသေ့တို့နှင့် တွေ့စကပင် လမ်းဆုံးမဟုတ်သေးဆိုကာ ရှာန်လမ်းကို ပယ်ပစ်ခဲ့ပါချေ၏။ ထိုသတ္တိမျိုး ဗြဟ္မာမင်းကြီးတို့မှာလည်း မရှိသဖြင့် ငါ့ထက် သာသည်ဆိုကာ ဝိုင်းအုံလျက်က ခစားခြင်း၊ ဝပ်တွားခြင်း၊ ပူဇော်ခြင်းများဖြင့် ပူဇော်အထူးကို ခံခဲ့ရခြင်း ဖြစ်ချေ၏။

ထိုသို့ ဘုရား၏ ဂုဏ်သတ္တိတို့ကို ထိထိမိမိ သင့်စိတ်၌ရှိလာသောအခါ ဘုရားအပေါ်၌ ယုံကြည်သောသဒ္ဓါတို့သည် မိုးသီးကဲ့သို့ ကျရောက်၍ လာချေအံ့။ ဘုရားဂုဏ်၌ မိမိသဒ္ဓါစိတ် ပုံ၍ကျသွားသောအခါ ငါလည်းပဲဟူသော အလဲအလှယ်စိတ်သည် ကူးပြောင်းလျက်က မိမိဘက် လှည့်လာမည်သာ ဖြစ်ချေ၏။

– ဘုရားရှင်၏ ဂုဏ်ဟိတ်ကို ယုံကြည်စိတ်ဖြင့် မြင်သိနိုင်၏။

– ဘုရားရှင်၏ ဂုဏ်စိတ်ကိုကား မဂ်စိတ်ဖြင့်သာ မြင်သိနိုင်၏။

ထိုသို့ အဆင့်မြင့်ဂုဏ်ရိပ်ကိုမှီခိုလျက်က မိမိသည်လည်း အဆင့်မြင့်သို့ တက်ရောက်ရန်မှာ ဦးစွာ ဘုရားရှင်၏ ဂုဏ်ဟိတ်ကို နှုတ်တွတ်ရွရွပွားခြင်းဖြင့် အစပျိုးခဲ့ရာ၏။

အို တက်လမ်းရှာ –

ဘုရားဂုဏ်ကိုပွားထုံရာ၌ သင်သည် အဘယ်အာရုံဖြင့် ပွားထုံနေချေသနည်း။ ဆရာခိုင်းသဖြင့် ပွားသော ဂုဏ်သည်လည်း ဆရာကိုင်ဂုဏ်သာ ဖြစ်ချေ၏။ သင်ကိုင်ဂုဏ်ကား မဖြစ်တတ်။ လယ်ရှင်၏ စပါး၊ လူငှားရိတ်သိမ်းပေးနေရသည်သို့သာ ရှိချိမ့်မည်။

ရှေ့ရလာဒ်ကိုကြည့်၍ ပွားသော ဂုဏ်သည်လည်း တဏှာကိုင်ဂုဏ်သာ ဖြစ်ချေသေး၏။ သင်ကိုင်စွဲသော ဂုဏ်အဖြစ်သို့ကား မရောက်တတ်သေး။ လယ်ရှင်၏ စပါးလူငှားက ဝင်ရောက်ရိတ်သိမ်းရာ၌ လူငှားခဖြစ်သော အဖိုးအခကို မျှော်၍ ရိတ်သိမ်းနေပုံမျိုးသို့သာ ရှိချိမ့်မည်။

စင်စစ် ကာယကံဖြင့် ပုတီးအလုပ် လက်ကုပ်၍ ဝစီကံဖြင့် ဂုဏ်တော်သရုပ်အမွှန်းထုတ်၍ ကာယကံသောင်းကျန်းမှု၊ ဝစီကံ သောင်းကျန်းမှု၊ ချုပ်ငြိမ်းရေး

သည်သာ ကိုယ်အမူရာ၊ နှုတ်အမူရာ သန့်ရှင်းစေသဖြင့် အဆင့်မြင့်သို့ တက်ခွင့်ရခြင်းပင်။ ထိုရည်ရွယ်ချက်သည်သာ သီလဟူသော စကားလုံးကို အနီးကပ်ဆုံး ဘာသာပြန်ဆိုနေခြင်း ဖြစ်ချေ၏။

မကောင်းကျင့်တို့၏ ဖြစ်ပွင့်ရာစားကျက်သည် ကိုယ်၊ နှုတ်၊ စိတ် ဟူ၍ သုံးဆင့်မှုရှိချေရာ ပြင်ပစားကျက်ဖြစ်သော ကိုယ်၊ နှုတ်တို့ကို ထိန်းကျောင်းထားခြင်းဖြင့် စိတ်သည် အနီးပါးရှိ လူအများထံသို့ပင် အလည်ပတ်သွားခြင်းမျိုး မရှိပြီ။ ဆန်ရွေးနေသော သားသည်မအေသည် မိမိသားကို လွှာချင်းစောင်ဖြင့် ပတ်ဖွဲ့လျက်က ကျောပိုးကာ ရွေးနေဘိသို့၊ တောသွား မိခင်သည်လည်း မိမိသားကို ခါးဆစ်အထက် လွှာချင်းစောင်ဖြင့် ဖွဲ့ကျက်၍ သွားနေဘိသို့ မိခင်နှင့်ကလေး တစ်ပြေးတည်းပမာ ကိုယ်နှင့်စိတ်သည် တစ်ပြေးတည်းအဖြစ်သို့ မိမိ၏ အနီးအပါး ကပ်ရောက်စေ၏။ စိတ်အနီးအပါး လာရောက်ကပ်နေခြင်းသည်ပင် ကျောင်းဟူသော စကားလုံးကို ပုံဖော်ခြင်းဖြစ်၏။

လူတိုင်းသည်ပင် ဥပုသ်နေ့ဝယ် ဘယ်သွားမလဲ မေးသော် ကျောင်းသွားမလို့ ဟူ၍ ဖြေဆိုတတ်ကြမြဲ ဖြစ်၏။ သို့တစေလည်း ထိုကျောင်းသို့ ရောက်ရှိသွားသောအခါ စိတ်ကို ထိန်းကျောင်းနေသည်ကို မတွေးမိပြီ။ နွားကျောင်းသားသည် နွားတို့ကို မိမိထားလိုရာစားကျက်၌ ငြိမ်သက်စွာ (ခေါင်းမဖော်တမ်း) အစာစားသောက်စေရန် ကျောင်းနိုင်စွမ်းရှိဘိသို့ ဥပုသ်သည်၊ သီတင်းသည်အမည်ခံတို့သည်လည်း မိမိစိတ်ကို . သတိနယ်ကို ကိုင်စွဲလျက်က မိမိ၏ ကိုယ်ကာယ၊ နှုတ်ကာယ စားကျက်ထဲသို့ ငြိမ်သက်စေရန် ကျောင်းနိုင်မှသာ ကျောင်းသွားရကျိုးနပ်ချေမည် ဖြစ်၏။ ကျောင်းရောက်ပါမှ ပေါက်လွှတ်ပဲစား ပစ်ထားမည်ဆိုသော် သာမန်နေ့များထက်ပင် သူတစ်ပါး စားကျက် လယ်ကွက်၊ ယာကွက်များ ဖြစ်ကြသော အာရုံ (အဆင်း၊ အသံ စသည်)များသို့ တိုး၍ ခိုးစားမည်မှာ သေချာပြီ။

အစားသည် သာမန်နေ့ထက် ဥပုသ်နေ့တွင် ပို၍လည်း ကောင်းကောင်းစားတတ်၏။ ပို၍လည်း များများစားတတ်ကြသေး၏။

စကားသည်လည်းကောင်း၊ အကြွားသည်လည်းကောင်း၊ ခါတိုင်းနေ့ထက်

ယနေ့ လူစုံတွေ့ရသဖြင့် ပို၍လည်း ပြောတတ်၏။ ပို၍လည်း ငြင်းခုံရတတ်သေး၏။

အဝတ်အစားများသည်လည်း ခါတိုင်းနေ့ထက် တောက်ပြောင်နေတတ်ကြ၏။ ကျောင်းရောက်ကာမှ ယာကွက်၊ လယ်ကွက်များနှင့်တော့ ဝေးပြီဆိုကာ စိတ်နွားကို သွားလိုရာသွား လွှတ်ထားသော် စိတ်နွားသည် ရုပ်နွားထက် လျင်ချေရကား တဏှာ၏ စားကျက်အာရုံတည်း ဟူသော လယ်ကွင်းသို့ အပြေးဆင်းပေရော့မည်တည်း။

## စတုတ္ထလေ့ကျင့်မည့် သီလသိက္ခာ

တက်လမ်းရှာအပေါင်းတို့ –

မိမိစိတ် အဆင့်မြင့်သို့ လေ့ကျင့်ခြင်းဟူသော သီလပိုင်း၌ ဦးစွာ ကိုယ်ကို သံဃာ့ထံ အပ်နှံခြင်း၊ ထို့နောက် ကိုယ်ကျင့်ဖြင့် လေ့ကျင့်ခြင်း၊ ထို့နောက် နှုတ်ကျင့်ဖြင့် လေ့ကျင့်ခြင်းတို့ဖြင့် သို့မဟုတ် ကိုယ်၊ နှုတ်တို့ကို စခန်းသွင်းခြင်းအထိ အဆင့်မြင့်စေခဲ့ကြပြီ။

သို့တစေလည်း ကိလေသာသည် ကိုယ်သို့ကပ်သည်မဟုတ်၊ စိတ်မှာသာ ကပ်လေ့ရှိ၏။ နှုတ်သို့ ပူးဝင်သည် မရှိ၊ စိတ်သို့သာ ပူးဝင်တတ်ချေ၏။ သို့ကြောင့် ကိုယ်ကျင့်ကိုသာ ဦးစားပေး၍ စိတ်ကို လွှတ်ထားမိချေသော် တရားခံ အဖမ်းမှားသော ရဲဝတ္ထုရားကဲ့သို့ အမှုမှန်မဖော်ထုတ်နိုင်သည်ကို သတိမမေ့သင့်ချေ။

- ရေကြောင့်ဖြစ်သောရွံ့ မိမိ၌ ပေကျံသော် ရေဖြင့်သာ ဆေးကြောမှ သန့်စင်ချေ၏။
- စိတ်စွဲကြောင့်ဖြစ်သော ကိလေသာကိုလည်း မှတ်စိတ်သတိဖြင့်သာ သုတ်သင်မှ သန့်စင်ချေ၏။

အင်အားကြီးမားသော သစ်ပင်ကြီးတစ်ပင်ကို လှဲလိုရာ၌ ဦးစွာ သင်းသတ်ခြင်းအမှုဖြင့် ပင်စည်၏အင်အားကို ဖြိုထားနှင့်ရာ၏။ ပင်စည်အင်အား ချိန့်

လာသောအခါတွင်မှသာ ပြိုလဲသည်အထိ ပြုကျင့်ရချေ၏။ သို့မဟုတ်ဘဲ ရုတ်တရက် ခုတ်လှဲမိချေသော် ပင်စည်အင်အား မခမ်းခြောက်လေက လဲလျက်နှင့်ပင် အတက် ပေါက်တတ်ချေ၏။ သို့၊ စိတ်၌ ပူးဝင်နေသော ယုတ်စိတ်ခေါ် အောက်တန်းသွား စိတ်မျိုးတို့သည်လည်း၊ အစွဲအလေ့ခေါ် အနုသယအားဖြင့် ကိန်းနေသည်မှာ သစ် တစ်ပင်၏ ပင်စည်ထက် သက်တမ်းကြာမြင့်ခဲ့ပြီ ဖြစ်ချေ၏။ တစ်စချင်း တစ်စ ချင်း ပြင်ပရှိ ကိုယ်သောင်းကျန်း၊ နှုတ်သောင်းကျန်းများကို မထိန်းသိမ်းဘဲ ရုတ် တရက်ချည်း စိတ်အလုပ်ကို တင်းရင်းစွာ ပြုကျင့်မိပါသော်ကား သတ်ရင်းက အညွန့် အထိုးတက်နေတတ်၏။ ကြီးမားလှသော ကျောက်တုံးကြီးကို သေးငယ် မာကြောလှသော သံတုတ်ငယ်ငယ်ဖြင့် တအား ထုရိုက်မိချေသော် ထိုကျောက်တုံး ကြီးမှ တန်ပြန်ခုခံအားသည် မိမိနဖူးစသို့သာ ထိုသံတုတ် ကျရောက်လာစေဘိသို့ ကိလေသာ၏ တစ်ကျော့ပြန် ထိုးနှက်အားကြီးသည်လည်း မိမိ စိတ်သို့ပင် တစ်ခဲနက် ကျရောက်စေပြီး မပယ်ခင်ကထက် ပယ်ကာမှ ပိုကြီးနေတတ်ချေ၏။ ငယ်စဉ်ကာလတုန်းက ခံစားခွင့်မရခဲ့သော အာရုံများဆီသို့လည်း အတင်း ထိုးပြေး တတ်၏။ ဘဝအဆက်ဆက်က ငုပ်ကောင်အဖြစ်ဖြင့် ပါရှိလာသော အာရုံဟောင်း များကလည်း ဖွဆေးသန်၍ နံစော်လာသော အပုပ်ကဲ့သို့ တမဟုတ်ချင်း ထကြွလာ စေတတ်၏။ သို့ကြောင့် စိတ်ညစ်ပတ်ကိုမသတ်မီ ကိုယ်ညစ်ပေကို အလျင် ရပ် တန့်ထားစေခြင်းသာ ဖြစ်ဘိ၏။

ကိုယ်(နှုတ်)၏ ညစ်ပတ်မှုကင်းစင်လာချေသော် စိတ်ညစ်ပေမှုကို ဆေးကြော သင့်ပြီဖြစ်၏။ ထိုစိတ်ညစ်ပေမှုကို ဆေးကြောလိုသော် အနီးအပါးသို့ ရောက်နေ သော စိတ်ကို ကိုယ်နှင့် တစ်ထပ်တည်း ပူးကပ်စေ၍ အလုပ်ပေးရန်ပင် ဖြစ် ချေ၏။

- သီလစင်ကြယ်လိုလျှင် သရဏဂုံ မပွားထုံဘဲနှင့် မပြည့်စုံနိုင်။
- သရဏဂုံပွားထုံလျှင်လည်း သတိ(မှတ်စိတ်)မပါဘဲ အထဲသို့ မရောက်နိုင်။

ထိုမှတ်စိတ်တင်းတင်း အလုပ်ခွင်တွင်းသို့ ထိုးစိုက်ခြင်းရှိပါမှ စိတ်သည် ကိုယ်နှင့်တစ်ထပ်တည်း ကျချေ၏။

- ကိုယ်ကြီးက စားသောက်နေလျှင် စိတ်သည် စားသောက်ရာမှာသာ ဝင်စားနေတတ်၏။
- ကိုယ်ကြီးက သွားလာနေလျှင်လည်း စိတ်သည် ဖဝါးထပ်ကာ လိုက်ပါနေတတ်၏။

ထိုသို့ ကိုယ်စိတ်နှစ်တွဲစုံတွဲအဖြစ်ဖြင့် ကျင့်ပါသော်ကား စိတ်မြတ်စိတ်ထား စိတ်သားထွေးလေး မမွေးဖွားနိုင်စရာ မရှိပြီ။ ကိုယ် ဆိတ်ငြိမ်ခြင်းဖြင့် အာရုံ၏ အတိုက်ကို ရှောင်လွှဲနိုင်ပြီး စိတ် ဆိတ်ငြိမ်ခြင်းဖြင့် အာရုံ၏ အတိုက်ကို ခုခံနိုင်၏။ တစ်ဖန် ကိုယ် ဆိတ်ငြိမ်ခြင်းဖြင့် အာရုံ၏ သဘောကို အမိဖမ်းနိုင်ပြီး စိတ် ဆိတ်ငြိမ်ခြင်းဖြင့် အာရုံ၏သဘောကို ပေါလောကြီးပေါ်စေနိုင်၏။

ထိုသို့ဖြစ်ရန်မှာ ကမ္မဋ္ဌာန်းနည်းတစ်ခုခုကိုပွားရာ၌ ကိုယ်ကို အာရုံ ဆိတ်ငြိမ်ရာသို့ ထား၍ စိတ်ကိုပွားရာ ကမ္မဋ္ဌာန်းနည်း၏ ညွှန်ပြရာရှုကွက်သို့ ကပ်ထားရာ၏။ မိမိကိုယ်နှင့် အပြင်အာရုံတို့ ထိတွေ့ကြလေတိုင်း သိသိနေစေပြီး ထိမှုသိမှုတို့ အပေါ်မှ သတိကပ်လျက်က အစွဲသိပြောသည့် သညာသိအတိုင်း မှတ်ချက်ပေးရာ၏။

ပမာကား နှာသီးဝကို ကမ္မဋ္ဌာန်း (ရုပ်နာမ်၏ ဖြစ်မှုပျက်မှုတို့ကို စစ်ဆေးရာ နေရာဒေသ) အဖြစ် သတ်မှတ်ချေသော် အပြင်၏ အတွေ့အာရုံဖြစ်သော လေရုပ် အတိုက်နှင့် မိမိ၏ အခံရုပ်ဖြစ်သော နှာသီးဝတို့ ထိတွေ့ပွတ်တိုက်နေကြစဉ်–

- အစွဲသိသည် ဝင်သည်ဟု အသိပေး၏။ မှတ်စိတ်ကလည်း ထိုအစွဲသိက ထွက်ဆိုသည့်အတိုင်း ဝင်သည် ဟူ၍ပင် မှတ်တမ်းတင်ထားရာ၏။
- တစ်ဖန် အစွဲသိသည် ထွက်သည်ဟု အသိပေးထွက်ဆိုသော် သတိကလည်း ထွက်သည်ဟူ၍သာ မှတ်တင်ပေးရာ၏။
- ထိုအစွဲသိ သိနေသည့်အတိုင်း အထဲသိလေးကလည်း (ထိသိခေါ် ကာယဝိညာဉ်လေးကလည်း) သိသိနေသည်သာ ဖြစ်ချေ၏။

ထိလျှင်သိသည်။ ထိုအသိသည် အတွင်းဆင်ခြင်ဉာဏ် ပင်းထားသော ကာယဝိညာဉ်သိ ဟူ၍ ဆိုရ၏။ ထိုအသိပေါ်သည်နှင့် အစွဲသိ (မိရိုးဖလာသိ)ကလည်း ဝင်သည်၊ ထွက်သည်ဟု ပညတ်သိအဖြစ်ဖြင့် သိသိနေတတ်၏။ ထိုပညတ်သိပေါ်

မှာပင် သတိတင်လျက်က စစ်ဆေးရ၏။ ငါတို့ ပြောပြသည်က ရှုပ်ထွေးသေး၏။ မှတ်တင်ကြည့်က တစ်စစ ရှင်းလင်းစွာ မြင်သိရချေတော့၏။

ဤသို့ စိတ်လုပ်ငန်းကို ငန်းတိုက်ကာ ကုန်းကြုံးအားထုတ်ချေသော် စိတ်သည် ကိလေသာတို့နှင့် အဝေးကြီးဝေးသဖြင့် မာန်ကျလာ၏။ စိတ်မာန်ကျသော် ဂိုယ်မာန်လည်း ကျတော့သည်သာ ဖြစ်၏။ မာန်ကျလာသော် မန်းကျလာသော လူမမာကဲ့သို့ ကယောင်ကတန်း ကြဲစည်ခြင်း၊ ပြောဆိုခြင်း၊ ပြုလုပ်ခြင်း မရှိတော့ပြီ။

– စိတ်အကြဲအားကြီးမှ နှုတ်တံခါး ပွင့်အံ့ရချေ၏။
– နှုတ်ဖြင့် အားမရမှ ကိုယ်တံခါးကြီး ဖွင့်ပေးရတတ်၏။

ဤသို့ စိတ်ဓာတ်အားကို ကိလေသာခေါင်းပါးစေခြင်းဖြင့် လျော့ချလိုက်သော် သို့မဟုတ် ကိလေသာအားကို လျှော့ချ၍ စိတ်ဓာတ်အားချည်းသက်သက် ရင့်ကျက်စေသော် စိတ်စင်ကြယ်မှုသည် ခဝါဆိုင်မှ ပြန်ယူလာသော ပဝါဖြူလေးကဲ့သို့ ဖြစ်လာချေပြီ။

ထိုစိတ်စင်ကြယ်သူ၏ လေ့ကျင့်မှုသီလသည် အဆင့်မြင့်သို့ ထိုးတင်ပေးနိုင်စွမ်းရှိသော လေ့ကျင့်မှုဟူ၍ တထစ်ချ မှတ်သားထားသင့်၏။ စိတ်မပါသော လေ့ကျင့်မှုသည်ကား ဆားမပါသော ဟင်းလျာမျိုးကဲ့သို့ အရသာရှိသော်လည်း မကောင်းတတ်ပြီ။ စင့်စစ် စိတ်မပါသော လုပ်ကွက်မှန်သမျှ တိုးတက်ကြီးပွားရန် ကိုသော်လည်းကောင်း၊ လမ်းမှန်ရာသို့လည်းကောင်း၊ ချမ်းသာရာသို့လည်းကောင်း မပို့ဆောင်(မသယ်ဆောင်)နိုင်ပြီ။

အို တက်လမ်းရှာ –

ဤအဆင့်မှစ၍ သင်သည် သီလနှင့်သိက္ခာ အချိတ်ဆက်မိလာပြီ ဖြစ်ချေ၏။ အလေ့နှင့်အကျင့် ထပ်ဆင့်ကျလာပြီ ဖြစ်၏။ သို့သော် သိက္ခာတင်မျှသာရှိသေး၍ သိက္ခာရှင်ကား မဖြစ်သေးပြီ။ သိက္ခာတင်အဆင့်သည် ထားမတော်လျှင် ကျတတ်သေးသည်ကို သတိပြုလေ။

သင် ဆောက်တည်နေပါသည်ဆိုသော သီလ မည်မျှအထိ အဆောက်အဦ ပြီးစီးပါပြီလည်း ကျောင်းကပ်သီလအဆင့်လား၊ ပုတီးကိုင်အဆင့်လား၊ နှုတ်အော် အဆင့်လား၊ စိတ်ဝင်အဆင့်လား ဆိုသော အချက်တို့ကိုလည်း သင့်လုပ်ကွက်ထဲ သတိကပ်၍ စနည်းနာကြည့်ချေဦး။

အကယ်တိတိ ရှေ့ဆုံးဆင့်ဖြင့်သာ အချိန် ကုန်လွန်နေချေသော် သင် မျှော်မှန်းသော စိတ်ချမ်းသာစေမှုနှင့် လမ်းသွားဟူသော အကျိုးပြုသို့ မရောက်စေ၊ မရစေနိုင်။

သင်၏ လေ့ကျင့်မှုသည် သံဃာ့ထံ အာမဘဏ္ဍေ ဟူ၍ကား ကတိခံချေ၏။ သို့တစေလည်း သံဃာညွှန်ကြားသည့်အတိုင်း မိမိတံခါးများကို သတိ အစောင့် အကြပ် ထူထပ်စွာဖြင့် တင်းကြပ်စွာစောင့်စည်းမထားချေလျှင် စိတ်သည် အားအား ရှိလျှင် အားသလောက် လည်ပတ်တတ်သောအမျိုး အသစ်အာရုံဖြင့် ထိတွေ့ခွင့် မပေးလျှင် အာရုံဟောင်း၏ ကောင်းနိုးရာရာကို လိုက်လံဖွေရှာကာ ထိတွေ့နေ တတ်သောအမျိုး၊ ထိုအာရုံသစ်အာရုံဟောင်းတို့ကိုမှ အားရပါးရ ကျက်စားခွင့်မရ လျှင် မတွေ့ထိဘူးသေးသော အာရုံသစ်တစ်မျိုးမျိုးတို့ကို အဆန်းထွင်ကာ ပျော်ပါး တတ်သောအမျိုးဖြစ်သည့် အားလျော်စွာ–

- ကိုယ်ကောင်ကြီးကား ကျောင်းမှာနေလို့၊
- စိတ်ကား ပျော်စရာရွှင်စရာရှိသော နေရာသို့သွားကာ ပွေလို့ ဖြစ်တတ် ချေ၏။

ဒေါသစရိုက် ကြီးလေးသောစိတ်သည် သတ်လိုစိတ်၊ ဖြတ်လိုစိတ်တို့ကို တွေးလျက်က အာရုံသစ်ကို ရယူနိုင်ရန် ကြံစည်စိတ်ကူးနေမည် ဖြစ်၏။ ရာဂ စရိုက် ကြီးလေးသောစိတ်သည်ကား တစ်ပါးကာမ မတရားရယူရန်နှင့် တစ်ပါးဓန မတရားသိမ်းပိုက်ရန်တို့ကိုသာ ကြံစည် စိတ်ကူးနေမည်ဖြစ်၏။ မောဟစရိုက် ကြီးလေးသောစိတ်သည်ကား ထွေရာလေးပါး စိတ်ကစားလျက်က မျောက်နှင့်သစ်ပင် တောင်စဉ်ရေကျ ရေမရ၏သို့ အာရုံဟောင်းများရှိရာသို့ ဟိုမှသည်၊ သည်မှဟို ပြေးလွှားပျော်ပါး ဆော့ကစားနေမည်သာ ဖြစ်၏။ ထိုသို့ စိတ်ကစားလျှင် သင့်

အလေ့အကျင့် ညှိုးနွမ်း၏။ အကြံအားကြီး၍ နှုတ်ထဲသို့ စီးဆင်းလာစေသော အကြံအားကြီး၍ အင်္ဂါခြေလက်ထဲသို့ စီးဝင်လာချေသော ကျိုးပေါက်ခြင်းသို့ ရောက်စေလို၏။

သင်က သူတစ်ပါးတို့ကိုသတ်ရန်ကိုသော်လည်းကောင်း၊ မတရား အရယူရန်ကိုသော်လည်းကောင်း၊ လိမ်လည်လှည့်ဖြားရန်ကိုသော်လည်းကောင်း စိတ်ဖြင့်ကြံစည်ချေအံ့။

သူတစ်ပါးတို့ကလည်း တစ်ချိန်ချိန်မှာ သင် ကြံစည် ပြစ်မှားထားခဲ့သည့် အတိုင်း မတရား ကြံစည်တော့မည် မုချ။ သင်ယူထားသည့် အကြွေးတမတ် ပြန်ဆပ်ရန် တောင်းခံနေပြီ။

ထို မတရားအကြံစည်ခံနေရသော သင့်အဖို့ စိတ်ချမ်းသာပါမည်လော။ တစ်ဖန် သင်က သူတစ်ပါးတို့ကို ထိုမတရားမှု (မိမိ ကြိုက်စိတ်ကလေးကို မအောင့်နိုင်သဖြင့် တစ်ဖက်သို့ သွားရောက်ကာ လုယက်သတ်ဖြတ်ခြင်း စသည်) အလိုအကြံများဖြင့် စိတ်ကူးကြည့်ရာမှ ကြိုက်သွေးဆူတက်လာသဖြင့် ထွေးအံပစ်လိုက်မှ သက်သာရာရမည်ဖြစ်၍ ကြိုက်စကားဆိုခြင်း၊ ရန်စကားဆိုခြင်းများအထိ လွန်ကျူးမိချေအံ့။ မတရား ကြွေးငါးမူး တင်ရှိသွားချေပြီ။

သင့်လုပ်ရပ်အတိုင်းပင်လျှင် သူတစ်ပါးတို့ကလည်း သင့်အား ကြံရုံနှင့် အားမရကြသဖြင့် နှုတ်သံမြွက်လျက်က ရက်စက်ကြပေဦးမည်။ ထိုအခါ သင့်ကိုယ်စိတ်တို့ ချမ်းသာပါမည်လော။

တစ်ဖန်သင်သည် ဝစီနှုတ်မြွက်ထတဲ့၍ ပြစ်မှားပေးသော်လည်းပဲ သင့်စိတ်အကြံသည် အခဲကြေမသွားဘဲ အလိုရမ္မက်ကြီးသည် ထိပ်တက်၍ လာချေပြီဖြစ်ဖြင့် သွေးပွက်ပွက်ဆူကာ တစ်ဖက်သို့ ကိုယ်ထိလက်ရောက်အထိ စော်ကားမိချေအံ့။

သင့်အမှုကား ထို ကိုယ်ထိလက်ရောက်၌ စိတ်အကြံလည်း ပါ၏။ နှုတ်ရေးလည်း ပါ၏။ သို့ကြောင့် တင်းပြည့်ကျပ်ပြည့်သို့ ရောက်ချေရကား အကြွေး တစ်ကျပ် တင်ရှိသွားပြီ။

သင်ပြုသောအမှုအတိုင်းပင်လျှင် တစ်ပါးသူကလည်း သင့်ထံသို့ ကံစုံမာန်စုံဖြင့် အကြွေးစုံ အကုန်တောင်းခံကြပေလိမ့်မည်။ ထိုအခါ သင် ချမ်းသာပါမည်လော။

- အကြွေးရှင်တို့နှင့် ထိပ်တိုက် မဆုံမိသေးသော ဘဝ၊ ကြွေးတောင်း သက်သာ၏။
- အကြွေးရှင်တို့ စုပြုံကျရောက်လာသော ဘဝ၊ ကြွေးတောင်း သနားပူအောင် ခံရ၏။

သင်ယူတုန်းက တစ်ချက်တည်းရယ်သာ...။ သင်က ပြန်ဆပ်ရသောအခါ တစ်သက်နှင့်လည်း မပြီးတတ်။ ဆယ်သက် စသည်ဖြင့်လည်း မပြီးတတ်ချေ။ သင့်ဒဏ်ခံရပြီးကတည်းက တစ်ဖက်သူ သူ့ရှိဒဏ်ရာကြည့်ကာ မချိစိတ်တစ်ချက်ဖြစ်ပွားသော် အကြွေးတစ်ကြိမ် တောင်းရမ်းဖို့ စာရင်းတေးလိုက်သည်သို့ ဖြစ်သဖြင့် ထိုမချိစိတ် အကြိမ်ကြိမ် ဖြစ်ပွားလေတိုင်း စာရင်းတေးများ တိုးပွားလာချေပြီဖြစ်သဖြင့် သင့်ဘဝ ဆပ်မဆုံးသို့ ရောက်ရသောကြောင့်ပင်။ သို့ကြောင့် သူ့အသက်သတ်၍ သူ့ဥစ္စာ မတရားရယူ၍ သူ့ကာမ အစမ္မကြံစည်၍ အကြွေး ယူတော့မည်ကြံလျှင် သင်သည် အရှုံးနှင့်အမြတ်ကိုလည်း လက်ဦးတွက်ချက်ပြီးမှကြိုးစားပါလေ။ အို တက်လမ်းရှာ –

သင့်အလှည့်ကျ ကြွေးမဆပ်လိုလျှင် သူ့အလှည့်ချ၍ ကြွေးမယူဖို့ပင်တည်း။ စိတ်ကူးဖြင့် ယူသော တမတ်ကြွေးသည် ရာထောင်သိန်းသန်း စသည်တို့အထိဂဏန်းတက်တတ်ချေသဖြင့် တမတ်ကြွေးကို အလေးပေး၍ လက်ရှောင်သင့်ချေ၏။ ထိုရာ၊ ထောင် စသည်တို့သည် တမတ်ကို အောက်ခံထားလျက်ကသာ တက်ရသောကြောင့် ဖြစ်ချေ၏။ သို့ကြောင့် တမတ်တန် စိတ်ကြွေး ရေးရေးလေးမျှဖြစ်ပေါ်လာခွင့်မရအောင် သင့်လေ့ကျင့်မှုကို အခိုင်အမာ တည်ဆောက်ထားသင့်ချေ၏။ သီလသည် စိတ်ဓာတ်ရင့်ကျက် ခိုင်မာအောင် လေ့ကျင့်ရသော စိတ်လေ့ကျင့်ရေးစခန်းပင် ဖြစ်ချေ၏။ သူ့အသက် မသတ်ပါ၊ သူ့ဥစ္စာမယူပါ စသည်ဖြင့် ဝန်ခံကတိ ပေးထားရသော်လည်းပဲ စင်စစ် သင်သည် ကြက်ကြီးကို ဆုပ်ကိုင်ကာ နင့်ကို ငါမသတ်ဘူး၊ နင့်ကို ငါမသတ်ဘူးဟူ၍ ပွားစေရမည် မဟုတ်။

သင့်စိတ်ရင့်ကျက်ခိုင်မာလာသဖြင့် လောဘမီးက ထိုးပင့်သော်လည်း မတုန်လှုပ်ရန်၊ ဒေါသမီးက ထိုးဆွသော်လည်း မတုန်လှုပ်ရန်သာ ဖြစ်ချေ၏။ ထိုသို့ သင့်စိတ် ရင့်မာလာသောအခါ သတ်စရာနှင့်ပက်ပင်းတွေ့သော်မှ သတ်ဖြစ်လိမ့်မည်ကား မဟုတ်ပြီ။ ကြိုက်ပစ္စည်းနှင့် ရင်ဆိုင်တိုးသော်မှ စိတ်မပြစ်မှားပြီ။ မတရား ကာမ အသုံးပြုခွင့်ရသော်မှ ကိုယ်ချင်းစာနာသွားပြီ။ စိတ်မြင့်လျှင် ရုပ်မြင့်သည်သာ ဖြစ်၏။ စိတ်သေးသိမ်၍ ရုပ်မေးမှိန်ခြင်း ဖြစ်၏။ စင်စစ် ဘဝအဆင့်မြင့် တက် လိုသူတိုင်း စိတ်ထားမြင့်ဖို့၊ မြတ်ဖို့သည် အရေးကြီးဆုံးတည်း။ ထိုစိတ်အဆင့်တန်း မြင့်မားနေသူကား မည်သည့်ကာလ၊ မည်သည့်ဘဝမျှ အောက်တန်းသွားနှင့် အောက်တန်းစား ဖြစ်ခွင့်ရတော့မည် မဟုတ်ချေပြီတကား။

## ပဉ္စမလေ့ကျင့်ရမည့် သီလသိက္ခာ

တက်လမ်းရှာအပေါင်းတို့ –

လေ့ကျင့်မှုလေးဆင့် ဖွင့်ဆိုပြသရာ၌ တစ်ဆင့်နှင့်တစ်ဆင့်သည် ကွင်းဆက် ပမာအားဖြင့် တက်ရောက်လာသည်ကို သတိမူသင့်ချေ၏။ ဤအဆင့်တက်နည်း များသည် သတိလက်သွက်၊ ဉာဏ်ဖျောင်းထက်တို့အတွက် မဟုတ်ပြီ။ သတိမျက်ဝေး၊ ဉာဏ်လက်နှေးတို့အတွက်သာ ရည်ရွယ်၍ ပြောဆိုနေခြင်းမျှသာ ဖြစ်ချေ၏။

သတိလက်သွက်၊ ဉာဏ်ထက်မြက်တို့အတွက်မှာမူကား ဘုရားရှင် ဟောကြား ထားသော သီလတော် စကားအများအပြားပင် ရှိပါချေ၏။ ပညာရှင်တို့ အဆင့်ဆင့် ဖွင့်ဆိုထားကြသည်များမှာလည်း အများအပြားပင် ရှိပါချေ၏။ ငါတို့ လက် မဝင်သာလောက်အောင်ပင် ပေါကြွယ် များပြားလှပါချေ၏။ သို့ကြောင့် ဤ၌ မပြောသာပြီ။

ထိုသို့ အဆင့်တက်ရာ၌ သိက္ခာတင်အဖြစ်မှ သိက္ခာရှင်အဖြစ်သို့ ရောက်လို ရလိုသော် သရဏဂုံသည် လွန်စွာ အရေးကြီး၏။ သရဏဂုံမပါသော သီလ၊

ခေါင်းမပါသော သူ တစ်ယောက်ကဲ့သို့ အသိဉာဏ်ကင်းမဲ့မည်သာ ဖြစ်ချေ၏။ သရဏဂုံမပွားသော သီလသည်ကား အသက်မရှိသော ဝိညာဉ်မဲ့သူသေကောင်နှင့် ဘာမျှ မခြားပြီ။

ဒါယကာသည် သီလပေးသနားပါရန် သံဃာအား လျှောက်ထားပန်ကြား၏။ သံဃာသည်ကား သရဏဂုံ ဦးစွာ တည်စေပြီးမှ သီလကို ပေးသနား၏။ ဤ၌ တောင်းသူနှင့်ပေးသူ မှုကွဲနေသည်ကို သတိမူသင့်ချေ၏။

တစ်ဖန် ဒါယကာသည် ဆုတောင်းရာ၌ နိဗ္ဗာန်ကို ရ,ရပါလို၍ ဆုတောင်း၏။ သံဃာသည်ကား နိဗ္ဗာန်ကိုရရန် ဘဝမခြား ကြိုးစားအားထုတ်လွယ်ကြသည်ဖြစ်စေ ဆုပေး၏။ ဤ၌လည်း တောင်းသူနှင့်ပေးသူ မှုမတူသည်ကိုလည်း သတိမူသင့်ချေ၏။

သင်သည် ဆိုင်ရှင့်ထံသွားကာ သကြားပေးပါ၊ ဆားပေးပါ ဟူ၍ တန်ဖိုးပေး၍ တောင်းယူသည် မဟုတ်လော။ ထိုအခါ ဆိုင်ရှင်သည် တောင်းခံထားသော အလေးချိန်သားနှင့် ကြေး ကိုက်၊ မကိုက် တွက်ချက်စစ်ဆေးသေး၏။ ကိုက်ပြီဆိုမှ တောင်းသကြားကို စက္ကူကတော့လေးဖြင့် ထည့်ကာ, ထည့်ကာ ချိန်၍ ပေးခဲ့ချေသည်။

ဤ၌ သကြားတောင်းပါသည်ကို ဘာ့ကြောင့် စက္ကူပါ ပေးလိုက်ရသနည်း။ ဤသို့ အမေးရှိချေသော် ရပစ္စည်း၊ သယ်လိုရာသို့အထိ မဖိတ်မစင် ပါသွားလေအောင် စေတနာထား၍ သကြားနောက် စက္ကူပါ ကူထောက်၍ ပေးလိုက်ခြင်း ဟူ၍ ဖြေဆိုသင့်ချေ၏။

သည့်အတူ သံဃာတော်များသည်လည်း ဒါယကာငါးပါးမျှ တောင်းပါသော်လည်း သရဏဂုံ မလွတ်ခဲ့။ ရှစ်ပါး၊ ဆယ်ပါးအထိ တိုးမြှင့်တောင်းပါသော်လည်း ထိုသရဏဂုံကား အခံမလွတ်ခဲ့ပြီ။ စင်စစ် သရဏဂုံမပါဘဲလျက် ခံယူထားသော သီလ မစင်ကြယ်နိုင်သောကြောင့်သာ ဖြစ်ချေ၏။

သရဏဂုံသည် ကြော်ငြာပစ္စည်းမဟုတ်။ အလုပ်ခွင်သုံးပစ္စည်း၊ သီလ ခံယူစဉ် ထိုသီလရှေ့မှ ခံဆိုရုံမျှဖြင့် ကိစ္စမပြီးစီးချေ။ ထိုသို့ ကိစ္စပြီးစီးနေကြမည်ကို စိုးရိမ်တော်မူကြပါသဖြင့်လည်း၊

သရဏဂုံပေးပြီးသည်နှင့် သရဂမန် မဟာပရိပုဏ္ဏံ ယူထားသော သရဏဂုံ သုံးပါး တစ်ပါးပါးကို များများပွားလျက်က ပြည့်စုံစေကြဟူ၍ တစ်မျိုး၊

သီလပါ အားလုံး ပေးပြီးသည်နှင့် ဓမ္မံအပ္ပမာဒေန သမ္ပဒေထ သရဏံ ပွားလျက်က သတိဖြင့် မမေ့မလျော့၊ မပေါ့မဆ လေ့ကျင့်နေကြဟူ၍ တစ်ဖုံ။

ဤသို့လျှင် စိတ်ချတော်မမူကြသဖြင့် နှစ်ကြိမ်တိုင်တိုင် သတိပေး ဆုံးမခဲ့ကြပါ၏။ တို့တတွေကား သရဏဂုံဆိုသည်မှာ သီလခံယူစဉ် ထည့်ဆိုရုံသာ ဟူသော အသိမှ ရှေ့သို့ တိုးထွက်မလာခဲ့ချေပြီ။ သရဏဂုံ ပွားကောင်းသောအရာ ဟူ၍ပင် အသိအမှတ်ပြု၍ အချိန်နှင့်ဆက်၍ ပွားများရကောင်းမှန်း မသိကြပြီ။

ဤ၌ သရဏဂုံ၊ ဥပုသ်၊ သီလ ဟူ၍ သုံးပိုင်းပိုင်း၍ ခွဲဝေထားရ၏။ သရဏဂုံ မပွားများဘဲလျက် အာရုံ မလုံနိုင်ပြီ။ အာရုံမလုံသော် ဥပုသ်မရပြီ။ ဥပုသ်မှ မရသော် ခံယူထားသော သီလစင်ကြယ်ခြင်းသို့ အလျဉ်းမရောက်ပြီ။

သရဏဂုံပွားများနေသော် စိတ်သည် ထားရာမှာနေ၍ စေရာသို့မျှသာ သွားတတ်ချေ၏။ ထိုသို့ သရဏဂုံပွားထုံနေရာ စည်းဝိုင်းအတွင်းမှာသာ စိတ်ဝင်စား၍ နေချေသော် ပြင်ပအာရုံတို့ မည်မျှ ထူထပ်စွာ တိုက်ခိုက်ပစေ၊ တစ်ရာထဲ၌ တစ်ယောက်တည်း ဖြစ်နေတော့၏။ ကိုယ့်စိတ်နှင့်ကိုယ့်ကို စုံတွဲ ပူးကပ်နေပြီ ဖြစ်သဖြင့် လူတစ်ရာ၊ လူတစ်ထောင်တို့အကြား သွားလာနေရသော်လည်း တစ်ယောက်တည်းသာ ဖြစ်နေတတ်၏။ မျက်စိတံခါး အဆင်းရုပ်ဝင်လာသော အမြင်သည် အမြင် မျှသာ ရှိ၏။ ထို့ထက် ရှေ့မတိုးချေ။ နားတံခါးဝသို့ အသံရုပ်ဝင်လာသော် အသံသည် အသံမျှသာ ရှိ၏။ ထို့ထက် ရှေ့မတိုးချေ။ ကျန်တံခါးများသို့ ကျန်အာရုံများ အလုအယက် တိုးဝှေ့ဝင်ရောက်လာသော်လည်း သူ့ဟာ သူ့အတိုင်း မျှသာရှိ၏။ ရှေ့မတိုး။ အဘယ့်ကြောင့် မိမိစိတ်က လက်သင့်ခံ၍ ဆင်ခြင်ပေးချိန် မရသောကြောင့်ပင်တည်း။

ထိုသို့ အာရုံလုံသဖြင့် ဥပုသ်ရနေလျှင် ရာဂ၊ ဒေါသ စသော ကြားပွဲစားတို့ စိတ်၏အနား မကပ်သာပြီဖြစ်သောကြောင့် ကြိုက်သဖြင့် သတ်လိုစိတ်၊ မကြိုက်သဖြင့် သတ်လိုစိတ်၊ အမြင်မှားယွင်းသဖြင့် သတ်လိုစိတ် စသည့် အလေ့အကျင့်

(သီလ)များ ဖြူစင်သည့်အဖြစ်သို့ အလိုလို ရောက်ရှိသွားချေတော့၏။ သို့ကြောင့်-

သရဏဂုံပွားမှ အာရုံလုံ၊ အာရုံလုံမှ ဥပုသ်ရ၊ ဥပုသ်ရမှ သီလဖြူစင် သိက္ခာရှင် အသင် ဖြစ်သွားပြီ ဟူသော ဆောင်ပုဒ်ကို သင်ကြိုက်နှစ်သက်သော သီချင်းစာသားကဲ့သို့ အမိအရ ကျက်မှတ်ထားလေကုန်။

ဤလေ့ကျင့်မှုသီလအဆင့်သည် သင့်စိတ်တည်တံ့ခြင်းမှ စိတ်ဝင်စားခြင်း အထိ တိုးမြှင့်ရန် ဖြစ်ချေ၏။ သရဏဂုံပွားလျက်က ဖြည့်ကျင့်ရန် ဖြစ်၏။ ထို သရဏဂုံပွားထုံမှုသည်ပင် သင်ခြင်း၊ သိခြင်း၊ ရှိခြင်းတို့ကို တွန်းအားပေးနေသဖြင့် သိက္ခာဟူ၍ ဆိုရ၏။ ပွားမှုသည် သင်အံ့လေ့ကျက်နေသည်နှင့် အလားတူ၏။ သိခြင်းသည် ပွားသိနေရာ၏ ဖြစ်ပျက်ကို သိနေသည်ပင် ဖြစ်၏။ထိုအသိ၌ စိတ်အသိမြဲဝင်သွားသော် သိက္ခာရှိအဖြစ်သို့ ရောက်သည်သာ ဖြစ်၏။ သရဏဂုံ အပွားရပ်သော် သိက္ခာကျ၏။ သရဏဂုံပွားမိနေသော် သိက္ခာတင်ပြီး ဖြစ်၏။ သရဏဂုံပွားမှု သတိမလွတ်သော်ကား သိက္ခာရှင် ဖြစ်ချေတော့၏။ သို့ကြောင့် သူတစ်ပါး သိက္ခာချ၍မကျ၊ ပြောသူ မောရုံမျှသာ သင်ကိုယ်တိုင် သိက္ခာချမှ ကျသည်ကိုလည်း သတိပြုခဲ့ချေဦး။

စိတ်သည် အာရုံတို့၏ တိုက်ဆွဲ ဆွဲငင်နေခြင်းကြောင့်လည်း ပျံ့လွင့်၏။ အတွင်းဓာတ်ချင်း တိုက်ခိုက်ခြင်းကြောင့်လည်း ပျံ့လွင့်နေ၏။ အာရုံစွဲတို့၏ အထဲသို့ ဝင်မွှေနေခြင်းကြောင့်လည်း ပျံ့လွင့်နေသေး၏။

သံသရာမြေခ ခြေလှမ်းချကတည်းက အကြိုက်နောက်လိုက်မိဖြင့် ရှည်လျား လာခဲ့ရသော ထိုစွဲစိတ်အာရုံတို့က တို့ဆိတ်လာလျှင် အချိန်မရွေး လိုက်ပါ ပျော်ပါးတတ်၏။

ထိုအာရုံတို့ကို ကိုယ်တွင်း ခေါ်သွင်းလျက်ကလည်း နှားစမြုံ့ပြန် ဖျံ့ဓားတောင်း ပမာ စိတ်ကစားလျက်က ပျော်ပါးနေတတ်၏။

ထိုအသစ်စွဲ၊ အဟောင်းစွဲ အာရုံများကြောင့်လည်း ဘဝင်မငြိမ်မသက်ဖြစ်ကာ နှလုံးသွေးဆူလာသဖြင့် စိတ်ဂနာမငြိမ် ဖြစ်တတ်၏။

တစ်ဖန် ဓာတ်အချင်းချင်းတို့ ကိုယ်တွင်းဝယ် တိုက်ခိုက်နေခြင်းကြောင့်လည်း

ဘဝင်မငြိမ်မသက်ဖြစ်ကာ နှလုံးသွေးပွက်ဆူလာသဖြင့် စိတ်ဂနာမငြိမ် ဖြစ်တတ်သေး၏။

ထိုအခါ မီးပြင်းထိုးထားသော ဖိုခွင်ထက်မှ ဟင်းဆိုးသည် အခိုးပွက်ပွက်ဆူ၏။ အထက်သို့ တဟုန်ထိုး အတိုးအဖော့ခံရသဖြင့် အိုးဖုံးသည် အိုးနှင့်လွဲကာ ဘေးသို့ စွဲသွားသည့်နှယ် စိတ်သည် ကိုယ်နှင့် ကပ်နေသည်ဟူ၍ ဘယ်အခါမျှ မရှိတတ်ချေပြီ။

ထိုအိုးနှင့် ထိုအဖုံး အံဝင်ခွင်ကျ ဖြစ်စေရန်မှာ မီးကိုလည်း လျှော့ချရာ၏။ ရေပူကိုလည်း အေးစေရာ၏။ ပွက်ပွက်ဆူမှ မလှုပ်မယှက် ငြိမ်သက်သည်၏အဖြစ်သို့ ပြုပြင်ပေးရာ၏။ အထက်သို့ ပင့်တင်တတ်သော အခိုးကိုလည်း အားပျော့စေရာ၏။ ထိုအခါ အိုးနှင့် အဖုံးသည် အံဝင်ခွင်ကျ ဖြစ်လာရ၏သို့ ဘဝင်လေကိုမှုတ်လွှင့်တတ်သော ကြိုက်စိတ်စသည့် ကိလေသာ အပူငွေ့ကို ဦးစွာ လျှော့ချပစ်သင့်၏။ ထိုအပူငွေ့ အားနည်းသည်နှင့် ဘဝင်လေတုန်လှုပ်ခြင်း၊ နှလုံးသွေးပွက်ခြင်း၊ အပူခိုးတက်ခြင်းများ အလိုလို လျှော့ကျမည်ဖြစ်၏။ အစာကို အတိုင်းအဆနှင့် စားသုံးခြင်းဖြင့် အတွင်းဓာတ်တို့၏ အချင်းချင်းတိုက်ခိုက်မှုသည် ရန်ပွဲအသွင်မှ ပြောင်းလဲကာ အလုပ်တူလုပ်သော လုပ်ဖော်ကိုင်ဖက်များ၏ အပေးအယူတည့်လာစေမည်ဖြစ်၏။ ထိုအခါ ကိုယ်နှင့်စိတ်တို့ တစ်ထပ်တည်းကျရန် မခဲယဉ်းတော့ပြီ။

– ကိလေသာမီးအပူရှိန် လျှော့ချရာ၌ သရဏဂုံသည် လက်ပင်တည်း။

– အတွင်းဓာတ်အပူရှိန် လျှော့ချရာ၌ အစာအာဟာရသည် လက်ပင်တည်း။

ထိုနှစ်ပါးတို့တွင်လည်း သရဏဂုံပွားထုံခြင်းဖြင့် ကိလေသာအပူရှိန် အားနည်းလာသော် အစာတောင်းမှုလည်း အားနည်းလာချေရကား သရဏဂုံပွားမှု သာလိုရင်းဟူ၍ မှတ်သင့်ချေ၏။ သရဏဂုံဖြင့် ကိလေသာမီး မငြိမ်းအေးစေဘဲ အစာကိုချည်းလျှော့ချပစ်သော် ရုပ်ဓာတ် ချို့ယွင်းခြင်း အောင့်အီးထားရသဖြင့် မချင့်ရဲစိတ်အားကြီးလာသောကြောင့် စိတ်ဓာတ်ချို့ယွင်းခြင်းများ ဖြစ်စေတတ်၏။ အကြွေးတစ်ခုပေးချေရာမှ အညွှန့်နှစ်ခု တိုးပွားလာသည်သို့ ဖြစ်တတ်၏။

သရဏဂုံကို အချိန်ပြည့် ပွားပေးခြင်းဖြင့် ကိလေသာမီးသည် အားကြီးရာမှ အားနည်းလာစေပြီး မာန်ကျကာ မီးညွန့်ကျိုးလာစေ၏။ ပွားရာမှပါး၊ ပါးရာမှနည်း၊ နည်းရာမှ စဲရာသို့ ရောက်စေတတ်၏။ အလွန့်အလွန် အားကြီးနေသော ကိလေသာသည် အားနည်းရာသို့ အလိုလို ပြောင်းလဲလာ၏။ သူ့ဟူ၍ တမင်ချိန်သတ်စရာ မလို၊ မိမိပွားစရာရှိသည်ကိုသာ ပွားဖို့လို၏။ အတော်အလျော့လောက် အစွဲဆိုပါက ပျောက်ကင်းသည်အထိ ဖြစ်လာတတ်၏။ ထိုစိတ်မျိုး ဖြစ်လာသောအခါ တွေ့လျှင်သုံး၍ မတွေ့လုံးလုံး မေ့နေတတ်ပြီ။

- သရဏဂုံတစ်ချက်ပွားသည် မီးကြားမှ မိမိစိတ် တစ်ခါ ကယ်တင်လိုက်ခြင်းပင်။
- သရဏဂုံတစ်ချက်ပွားသည် ရိုင်းရာမှ မိမိစိတ်တစ်ခါ ယဉ်ကျေးသွားခြင်းပင်။

သတိကို အရိုးတပ်ထားသော ထိုသရဏဂုံသည် ကိလေသာကို ပယ်ခြင်း၊ သိစရာကို သိခြင်း၊ မိမိစိတ်ကို ပိုင်ဆိုင်ခြင်း ဟူသော အကျိုးသုံးချက်ကို တစ်လက်တည်းဖြင့် ရယူနိုင်စွမ်းချေ၏။ သရဏဂုံ၏ စွမ်းပကားကို ဤမျှအထိ သင်ယုံသင့်၏။ ပစ်ချက်သို့ တည့်လိုရှိ၊ မတည့်လိုရှိ ပစ်သာပစ်ချလိုက် ထိုသုံးပါးကားကနဲနေအောင် ကျလာပြီးသား ဖြစ်နေတော့၏။ သရဏဂုံသည် သံလိုက်ဓာတ်ပါသော ကျည်ဖူးကဲ့သို့ အစွမ်းထက်လှ၏။

## မျှောက်အုန်းသီးရ မဖြစ်ကြစေနှင့်

သံဃာတော်အရှင်မြတ်အပေါင်းက ၎င်းတို့လက်ဝယ် ရှိနေသော တောင်းသူရှိက လိုသရွေ့ပေးနိုင်သော သရဏဂုံကို သင့်ကိုယုံသဖြင့် ပုံပေးလိုက်ရာ သင်သည် သရဏဂုံကို ကိုင်လျက်က ပစ်ချိန်ကို မေ့မနေသင့်၊ အပ္ပမာဒသတိ လက်နက်ဆန်းကြီးထဲသို့ သရဏဂုံ သွင်းထည့်ကာ ရန်သူ ခေါင်းမဖော်သာအောင် တရကြမ်းပစ်ခတ်နှိမ်နင်းသင့်ချေ၏။

ရန်သူသည် အဝေးမှာ မရှိ၊ သင့်ဘေးမှာသာ ရှိ၏။ အဝေးမှာ တောနင်း ရှာဖွေနေစရာ မလို၊ သင့်စိတ်တွင်းကိုယ်တွင်း၌ပင် အဆင်သင့် ခိုအောင်းနေ၏။ သင့်စိတ် နိုးထလာသည်နှင့် ရန်သူသည် ခွစီးပြီးသား ဖြစ်နေပါ၏။ မြင်ရာမှလည်း တပ်ချီလျက် ကြားရာ၊ နမ်းရာ၊ စားသောက်ရာ စသည်တို့မှလည်း တပ်မကြီးများ ချီလျက်၊ တစ်ဖန် လျှောင်းရာ၊ ထိုင်ရာ၊ ရပ်ရာ၊ သွားရာတို့မှလည်း တပ်မကြီး အဆင့်ဆင့် အသင့်ချီလျက် သင့်အား ထိုးနှက်၍နေပါသည်ကို သင်မို့လို့ အေးအေး ဆေးဆေး နေနိုင်ချေ၏။ မြင်တိုင်း၊ ကြားတိုင်းမှလည်း ရန်စလျက်နေပါသည်ကို သင့်မို့လို့ ခံနိုင်ချေ၏။ အကောင်းဆိုကာ ပေးလျက်က အဆိုးဖြစ်ဖြစ်သွားသည် တို့ကို အထင်းသား တွေ့နေပါလျက် သင့်မို့လို့ မိတ်ဆွေ ထင်မှတ်နေသည်မှာ အံ့လောက်ပါပေ၏။ သင့်ဖို့ပြ၍ သူ့ဖို့ ခြုသွား၊ ယူသွားသည်ကို ပက်ပင်းသား တွေ့မြင်နေပါလျက် သင်မို့လို့ မိတ်ကောင်းကြီးပမာ ဆက်ဆံနေသည်မှာ အံ့လည်း အံ့လောက်စရာ ဖြစ်ပါချေ၏။

- ရန်သူကိုသတ်လိုလျှင် ရန်သူမှန်းသိဖို့ အရေးကြီး၏။
- ရန်သူကိုသတ်လိုလျှင် ရန်သူလို ဆက်ဆံဖို့ အရေးကြီး၏။

အဝေးကလာသော ရန်သူထက် အနီးကပ်ဆုံးရန်သူကို ပို၍ သတိထား သင့်၏။ ရန်သူက ကြားကလာသော ရန်သူထက် မိတ်ဆွေကြားမှထွက်လာသော ရန်သူကို ပို၍ ကြောက်သင့်၏။

စင်စစ် မယားသည် ရန်သူမဟုတ်၊ သင်လိုလား၍ ပေါင်းသင်းနေရသူသာ။ သားသည်လည်းကောင်း၊ တခြားသည်လည်းကောင်း၊ ရန်သူစစ်များ မဟုတ်ကြ။ သင် အရေးပေး၍ အရေးဆိုနေကြခြင်းသာ။ တကယ့်ရန်သူမှာ သင်၏ ကြိုက်စွဲ၊ မကြိုက်စွဲများသာတည်း။

ပြင်ပရှိ ရန်မိတ်ဟူသည် သင့်ဝမ်းတွင်းမှ လိုလားခြင်း၊ မလိုလားခြင်းဖြင့် ဖန်တီးမွေးထုတ်ထားသော တုတ်ကောင်မျှသာ ဖြစ်ချေ၏။ သင်က လိုလိုလားလား ဆက်ဆံထားသူတို့မှာ အချိန်အခါမရွေး၊ ဘဝမရွေး သင့်အား လိုလားနှစ်သက် နေမည်သာ ဖြစ်ပြီး သင် မလိုမလားဆက်ဆံထားသူတို့မှာကား အချိန်အခါ နေရာ

မရွေး၊ ဘ၀မရွေး သင့်အား မလိုလား မရှုစိမ့်ဖြစ်နေမည်သာ။ တစ်ဖန် သင့်လိုလားသူများက သင်၏ မကောင်းကျင့်ကို မသိကျိုးကျွံပြုကာ ကောင်းကျင့်ချည်းကိုသာ ရွေးဆယ်ကောက်နုတ်လျက်က အကောင်း လောကဓံလေးမျိုးတို့ဖြင့် ဖွံ့ဖြိုးတိုးတက်စေပြီး သင့်အား မလိုလား၊ မရှုစိမ့်သူများက သင်၏ ကောင်းကျင့်များကို မသိလေဟန်ဆောင်ကာ မကောင်းကျင့်ချည်းတို့ကိုသာ ရွေးဆယ်ကောက်နုတ်လျက်က မကောင်း လောကဓံလေးမျိုးတို့ဖြင် အပုပ်ချပေးနေမည်သာ။

စင်စစ် ဤဖြစ်ရပ်များသည် သူ့အပြစ်မဟုတ်၊ သင့်အပြစ်ချည်း ဖြစ်နေပါ၏။ သင် ထိုသို့ ဖြစ်ရသည်မှာ ရန်သူ၊ မိတ်ဆွေ ထင်ကာ ကိလေသာတို့နှင့် အပေါင်းများသော မှားပြစ်ချည်းသာ ဖြစ်ချေပါ၏။ သို့ကြောင့်–

တစ်ဖက်က အကောင်းလောကဓံတို့ဖြင့် တိုက်ဖျက်လာလျှင်လည်း သင့်ဝမ်းတွင်းရှိ လောဘကိုသာ ရန်လုပ်ရမည်သာ ဖြစ်ချေ၏။ သင့်လောဘကို သင့်လက်ရှိ သရဏဂုံ လက်နက်ဖြင့် ချေဖျက်ရမည်သာ ဖြစ်ချေ၏။ တစ်ဖန် တစ်ဖက်က မကောင်းလောကဓံတို့ဖြင့် တိုက်ကွက်ဆင်လာလျှင်လည်း သင့်ဝမ်းတွင်းရှိ ဒေါသကိုသာ ရန်လုပ်ရမည်သာ ဖြစ်ချေ၏။ သင့်ဒေါသကို သင့်လက်ရှိ သရဏဂုံ လက်နက်ဖြင့် ခွဲဖျက်ရမည်သာ ဖြစ်ချေ၏။

သရဏဂုံသည် ဘေးရန်ကို ညှဉ်းဆဲသတ်ဖြတ်ခြင်းတည်း။ ဘုရား၊ တရား၊ သံဃာအားတည်းဟူသော ဂုဏ်ဟိတ်သုံးမျိုး တစ်မျိုးမျိုးတို့ကို အောက်မေ့ပွားများခြင်းဖြင့် ထိုဂုဏ်ဟိတ်တို့အကြား မိမိစိတ်ကို ပို့လွှတ်ထားခြင်းသည် သရဏဂုံပွားထုံသည် မည်၏။ တစ်ဖန် ဘုရားဟူသော သဗ္ဗညုတဉာဏ်တော်၏ အစွမ်းသတ္တိ၊ ဓမ္မဓာတ်အား၏ အစွမ်းသတ္တိ၊ သံဃာ ဟူသော အကျင့်မှန်၊ အသိမှန်ခြင်း၏ အစွမ်းသတ္တိ၊ ထိုဂုဏ်စိတ်တို့အကြား မိမိစိတ်သွားရောက်နေခြင်းသည် သရဏဂုံပွားထုံသည် မည်၏။

ထိုသရဏဂုံများသည်ပင် ရတနာဟူ၍လည်း ဂုဏ်တင်ခံရသေး၏။ ရတနာဟူသည် မြတ်နိုးစရာများကို ဆို၏။ ထိုမြတ်နိုးခြင်းသည် အသုံးတည့်မှသာ ဖြစ်တတ်၏။

နွားသည် မြက်ကို အသုံးတည့်သဖြင့် မြက်ကိုသာ မြတ်နိုး၏။ သို့ကြောင့် နွားတို့၏ ရတနာသည် မြတ်သာလျှင် ဖြစ်ချေ၏။ ပတ္တမြားကျောက်ထုပ်ပစ်ချသော် မမြတ်နိုးပြီ။

မျောက်တို့သည် သစ်သီးကို အသုံးတည့်သဖြင့် ထိုသစ်သီးတို့ကိုသာ မြတ်နိုး၏။ သို့ကြောင့် မျောက်တို့၏ ရတနာသည် သစ်သီးသာလျှင် ဖြစ်ချေ၏။ ပတ္တမြားကိုကား မမြတ်နိုးပြီ။

လူတို့သည် ရွှေကိုသော်လည်းကောင်း၊ ငွေကိုသော်လည်းကောင်း၊ ကျောက်သံ ပတ္တမြားကိုသော်လည်းကောင်း အသုံးတည့်ကြသဖြင့် အမြတ်တနိုးလည်း သိမ်းဆည်းထားကြ၏။ ခေါင်းမှာဆင်၍ ရင်မှာလည်း ဂုဏ်ယူဝင့်ကြွားစွာ ဆွဲပြထားတတ်ချေ၏။ အဘယ့်ကြောင့်ဆိုသော် ရွှေနှင့်ကြေးတို့ကို ဆောင်သူသည် ပူသောစိတ်သည် အေး၍၊ နွေးသောကိုယ်သည်လည်း မြဲစေတတ်သောကြောင့် ငွေဆောင်သူကား ကိုယ်၌ဖြစ်သော အဆိတ်အတောက်တို့ကို ခွာချပစ်နိုင်စွမ်းရှိ၏။ ကလေးများ၌ ငွေခြေကျင်း၊ ငွေခြူ စသည် ဆွဲထားရသည်မှာ အဆိပ်အတောက်ရှိသော မြွေ၊ ကင်း စသည်များ ရှောင်ကွင်းသွားစေရန်ပင် ဖြစ်၏။ ပတ္တမြားကား စိတ်ရဲရင့်ခြင်းကို ဖြစ်စေ၏။ မင်းတို့၏ ပတ္တမြားအဆောင်ထားခြင်းမှာ ရဲရင့်စိတ် ကြီးမားရန်ပင် ဖြစ်၏။ မြကား စီးပွားတက်ရန်၊ ကျောက်စိမ်းနှင့် မြနှင့် အလားတူပင်။ ဤသို့လျှင် ရတနာတို့သည် သူ့သတ္တိစွမ်းပကားနှင့်သူ လူတို့အား အကျိုးပြုချေရကား လူတို့အတွက် အသုံးတည့်ကြပေကုန်၏။ အသုံးတည့်သဖြင့် မြတ်နိုးကြလေကုန်၏။

သည့်အတူ ဘုရားရှင်၏ ဂုဏ်တော်သတ္တိသည်လည်းကောင်း၊ တရား၏ ဂုဏ်သတ္တိ စွမ်းပကားသည် လည်းကောင်း၊ သံဃာ၏ ဂုဏ်သတ္တိစွမ်းပကားသည်လည်းကောင်း လူတို့အား ကိလေသာအပူဘေးမှလည်း ကင်းဝေးစေသဖြင့် အေးမြစေ၏။ ရွှေ၊ ငွေစသား၊ ကျောက်မျက်ရတနာများကို ထုခွဲရောင်းချ၍ နေအိမ်တိုက်တာကိုသော်လည်းကောင်း၊ ဝတ်စားတန် ဘာ ဒွါဒရာကိုသော်လည်းကောင်း၊ စားသောက်စရာ အဖြာဖြာကိုသော်လည်းကောင်း ဖန်တီးက ဖန်တီးသလိုပင် လိုတရဘိသို့ လူ့ဘဝ၊ လူ့စည်းစိမ် အဆင့်မြင့်ကို လည်းကောင်း၊ နတ်ဘဝ၊ နတ်

စည်းစိမ်အဆင့်မြင့်ကို လည်းကောင်း၊ အရိယာဘဝ၊ အရိယာစည်းစိမ် အဆင့်မြင့်ကို လည်းကောင်း ထိုရတနာသုံးပါးကလည်း အကျိုးပြုပေးနိုင်ပါချေ၏။ သို့ကြောင့် ဘုရား၊ တရား၊ သံဃာ ဟူသော အစွမ်းဂုဏ်သတ္တိသုံးမျိုးတို့ကို လူတို့၏ မြတ်နိုးစရာ၊ အားထားစရာ ရတနာဟူ၍ ခေါ်ဝေါ်ကြရပေကုန်၏။

သို့တစေလည်း အသုံး တည့်သူများအဖို့သာ ရတနာ ဖြစ်ချေ၏။ အသုံးမတည့်သူတို့အဖို့ကား ပတ္တမြားကျောက်ထုပ် မျောက်အုပ်ကြီးထဲသို့ ပစ်ချလိုက်သည့်ပမာ ကောက်ကြည့်၊ ကိုင်ကြည့်အဆင့်ဖြင့်သာ အချိန်ကုန်ဆုံးကြရချေသည်။

ထိုသို့ကား မဖြစ်သင့်၊ ဘုရားကား သင့်အတွက် ပွင့်ခဲ့ရ၏။ သင်မှမသုံး၊ ဘယ်သူသည် သုံးချိမ့်မည်နည်း။ တရားကား သင့်အတွက် ဟောဖော်ထားခဲ့၏။ သင်မှမသုံး၊ ဘယ်သူသည် သုံးချိမ့်မည်နည်း။ သံဃာကား သင့်အတွက် ပွင့်နေချေ၏။ သင်မှမသုံး၊ ဘယ်သူသည် သုံးချိမ့်မည်နည်း။ သင်အသုံးတည့်အောင် သုံးတတ်ပါမှ သင့်ထံ ရတနာတည်ပါမည်။ သင်ရှိသေမှသာ သင့်ထံ ရတနာ မြဲပါမည်။ သင်အလေးဂရု မြဲမြဲစွာ အားထားမှုပြုပါမှ သင့်ဒေသရတနာ ထွန်းကား၍ ပေါ်များပါမည်။

ဘုရားရှင်သာဝတ္ထိမှာသာ ဝါတော်အများဆုံး သီတင်းသုံးနေသည်ကို သတိထားသင့်၏။ ကုလားပြည်ဘုရား ခြေချင်းလိမ်အောင် ကြွနေသော်လည်း ပဲ၊ ရတနာခဲလည်မှာ မဆွဲသော ကုလား၊ တစ်ပြားသားမှ မရလိုက်သည်ကိုလည်း သတိပြုသင့်သေး၏။

ထိုအမြတ်ဂုဏ်သုံးမျိုးတို့တွင် ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ ဘုရားဂုဏ် မပြတ်နှလုံးသွင်းနေပါမည်ဟူ၍ ဝန်ခံခဲ့ပြီးနောက် ပွားသောကာလ ဘုရားဂုဏ်နှင့် သက်ဆိုင်သော ဂုဏ်တော်ကိုးပါး၊ တစ်ပါးပါး ပွားနေခြင်းဖြင့် စိတ်အေးရအောင် ကြိုးစားရပါမည်။ ၎င်းကို ကမ္မဋ္ဌာန်းအရာ၌ ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းဟူ၍ သုံးနှုန်းရပြန်ချေသည်။

ဓမ္မံ သရဏံ ဂစ္ဆာမိ တရားဂုဏ် မပြတ် အာရုံပြု၍ နေပါမည်ဟူ၍ ဝန်ခံခဲ့ပြီးနောက် ပွားသောကာလ ဘုရားဂုဏ်၊ သံဃာဂုဏ်မှ တစ်ပါးသော အခြားကမ္မဋ္ဌာန်းမျိုးမှန်သမျှ တစ်ပါးပါးကို ပွားနေခြင်းဖြင့် ပူစိတ်ကင်း၍ လင်းစေရချေသည်။

သံဃ သရဏံ ဂစ္ဆာမိ သံဃာဂုဏ် အာရုံမပြတ် ချဉ်းကပ်လျက်က နေပါမည်ဟူ၍ ဝန်ခံကတိပေးထားပြီးသည့်နောက် ပွားသောကာလ သံဃာဂုဏ်နှင့် စပ်ဆိုင်သော ဂုဏ်တော်ကိုးပါး တစ်ပါးပါးပွားနေခြင်းဖြင့် ပူစိတ်ဝေး၍ အေးစေရချေသည်။ ၎င်းကို ကမ္မဋ္ဌာန်းအရာ၌ သံဃာနုဿတိ ကမ္မဋ္ဌာန်းဟူ၍ သုံးနှုန်းရပြန်ချေသည်။

ထိုသုံးမျိုးတို့တွင် တရားဂုဏ်၌ အကျိုးပြုဂုဏ် (သွာက္ခာတ) စသည်ကို ပွားခြင်းဖြင့် သဒ္ဓါတိုးစေပြီး အကြောင်းခံဂုဏ် (ဆိုင်ရာကမ္မဋ္ဌာန်းများ)ကို ပွားခြင်းဖြင့် သဒ္ဓါရော၊ ပညာပါ တိုးစေ၏။ သို့ကြောင့်–

သရဏဂုံပွားပါ ဆိုသည်မှာ ကမ္မဋ္ဌာန်းထိုင်ပါ ဆိုသည်နှင့် ဘာမျှ မခြားသည်ကို သင်သတိပြုသင့်၏။ ထိုဂုဏ်သုံးပါး တစ်ပါးပါး အဆက်မပြတ် ပွားနေခြင်းဖြင့် ကမ္မဋ္ဌာန်းအရာသို့ ရောက်စေ၏။ အဆက်မပြတ် ပွားများခြင်းမရှိသော (သိက္ခာမပါသော) ထိုအလေ့အကျင့်သီလမျိုးသည် မျိုးစေ့မှန်သော်လည်း အဆံမပါသော သစ်စေ့ကဲ့သို့ ပွင့်ပေါ်ပေါက်ဖွားရန် အလားအလာမရှိပြီ။ သရဏဂုံသုံးပါး တစ်ပါးပါးကို စိတ်အဆက်မပြတ် ပွားများသော သီလမျိုးသည်သာ ပွင့်ကိန်း၊ ပေါက်ကိန်း ကိန်းသေရှိသော မျိုးစေ့ရတနာအစစ် ဖြစ်ချေ၏။ သီလလုံခြုံရန် သရဏဂုံပေးပါသည်ဆိုမှ ထိုသရဏဂုံကပင် ပေါက်ပြဲနေချေသော် သကြားကို ခြေနိုင် လက်နိုင်စက္ကူမပါဘဲ ဆုပ်ကိုင်သွားသည်ကမှ တော်ပေသေး ထင်မိချေ၏။

ထိုသို့ သရဏဂုံအချက် အဆက်မပြတ် စိတ်အမှတ်ရှိနေချေသော် စိတ်သည် ကိလေသာဘေးမှ ဝေးလျှင်ဝေးသလောက် အေးမြလာချေ၏။ ခေါင်းအေး၍ စိတ်အထိုင်ကျခြင်းသို့ ရောက်စေ၏။ ထိုကိလေသာတို့နှင့် အဝေးကြာ၍ အအေးများလာချေသော် စိတ်သည် ထားရာ၌ တည်စေ၏။ စိတ်တည်လျှင် ပွားမြဲ၊ သရဏဂုံလည်း ထိုထားရာ၌သာ တည်ချေတော့ရကား၊ သရဏဂုံတည်သူ၏ အဖြစ်သို့ မုချရောက်ရချေတော့၏။

ထိုတည်အား သရဏဂုံကို (သတိအားဖြင့် ထားလိုရာ၌) စိုက်ချထားချေပါသော်ကား ဓမ္မဟူသော ရုပ်နာမ်ဖြစ်ပျက်တို့၏ သဘာဝဓမ္မဂုဏ်သတ္တိတို့သည်

တဖွားဖွားနှင့်ပင် တက်သည်ကို လည်းကောင်း၊ သက်သည်ကိုလည်းကောင်း မြင်တွေ့ရချေ၏။ ဖြစ်ပေါ်လာသည်ကိုလည်း သိခွင့်ရ၏။ ပျက်ကျသွားသည်ကို လည်း သိခွင့်ရချေ၏။ တည်ရစ်သည်ကိုလည်း မြင်သိခွင့်ရ၏။ ပျက်ကျန်ရစ်သည် ကိုလည်း မြင်သိခွင့်ရချေတော့၏။ ဉာဏ်ခေါ် စိတ်၏ ရင့်ကျက်မှု ဓမ္မဂုဏ်သတ္တိသည် တည်ကျန်ရစ်ခဲ့၏။ ရုပ်နာမ် ဖြစ်ပျက်ခေါ် ဓမ္မဂုဏ်သတ္တိကား ပျက်ကျန်နေရစ် ခဲ့၏။

ထိုအမြင်ကိုကား မှတ်ဉာဏ်ထက်မြက်ခြင်း ဟူ၍ လည်းကောင်း၊ သမာဓိ ဉာဏ် ရင့်သန်ခြင်းဟူ၍လည်းကောင်း ဆိုရချေ၏။ ထိုသို့ သမာဓိဖက်မှတ်ဉာဏ် တက်သော အဆင့်မြင့်သို့ တက်လာနိုင်ပါမူကား စိတ်သန့်ရှင်းခြင်းသို့ ရောက်ပြီ ဖြစ်သဖြင့် မနောကံ သောင်းကျန်းမှု မရှိပြီ။ တစ်ဖက်ရှိ ဝတ္ထုအာရုံများသို့ အလို ကြီးသော အလိုဆိုးအကြံဖြင့် ဖျက်ဆီးရန် မကြံရွယ်ပြီ။ ကြံရွယ်ချိန်လည်း မရပြီ။ အလိုမကျသဖြင့် မရသည့်အမဲ၊ သဲနှင့်ပက်ရန်လည်း မကြံရွယ်ပြီ။ ကြံရွယ်ချိန် လည်း မပေးနိုင်တော့ပြီ။ ငါတကောကော၍ ငါသဘောကျ ပြုကျင့်ခံစားရန်လည်း မကြံရွယ်ပြီ။ ကြံရွယ်ချိန်လည်း လုံးဝ မပေးချင်တော့ပြီ။

မကောင်းကျင့်ကို ပြုကျင့်ရန် အတွင်းမနောကမှ ကြံစည်မပေးနိုင်တော့လျှင် နှုတ်ဆော့ခြင်း၊ ခြေကားရား၊ လက်ကားရား ပြုကျင့်ခြင်းတို့ကား စက်ခန်းချို့ယွင်း သွားသဖြင့် လေးဘီးစလုံး ရပ်နားထားရသော ကားအိုကားပျက်ကြီးပမာ အသက် မဝင်တော့ပြီ။

ထိုသူ၏ သီလမျိုးသည်သာ လေ့ကျင့်ခြင်းဟူသော စကားလုံးကို ပြည့်စုံစွာ ပုံဖော်နိုင်စွမ်းရှိသော သီလ ခေါ်ဆိုရချေ၏။ နတ်ပြည်၏ စောင်းတန်းဖြစ်၍ နိဗ္ဗာန်၏တံခါးဝသို့ ဦးဆိုက်သော သီလမျိုးဟူ၍ ခေါ်ဆိုရချေ၏။

သီလသည် စိတ်မစင်ကြယ်ဘဲနှင့် စင်ကြယ်ရိုးထုံးစံ မရှိ။ စိတ်သည်လည်း သရဏဂုံမပွားဘဲနှင့် စင်ကြယ်ရိုးထုံးစံ မရှိ။ သို့ကြောင့် စိတ်စင်ကြယ်၍ သီလ စင်ကြယ်စေလိုလျှင် သရဏဂုံကိုသာ တောင်ထက်မှကျလာသော စမ်းရေ၏ တောင် အောက်ဆီသို့ တသွင်သွင်စီးကာ အအေးဓာတ်ပေးနေဘိသို့ ကောင်းကင်မှ ကျလာ

သော မိုးရေပေါက်၏ မြေပြင်ဆီသို့ တဖွားဖွားကျကာ အစိုဓာတ်ပေးနေဘိသို့ စိတ်စဉ်မပြတ်၊ သတိကို အထပ်ထပ်ထား၍ ပွားများကြပါလေကုန်။ စမ်းရေတစ်ပေါက် မိုးတဖြောက်သည် အပေါက်သေးသော်လည်း သတ္တိကား ကြီးမားလှသဖြင့် အနည်းမှအများသို့ စုမိရန် ပွားများကြပါလေကုန်။

## ၃။ နတ်ပြည်နှင့်စပ်ဆိုင်သောစကား (သဂ္ဂပဋိသံယုတ္တကထာ)

တက်လမ်းရှာအပေါင်းတို့–

နတ်ဆိုသည်မှာ အများတို့ ကိုးကွယ်အားထားရာကို ဆိုချေ၏။

- တိရစ္ဆာန်တို့၏ အကြီးအကဲသည် တိရစ္ဆာန်တို့၏ အားထားရာ ဖြစ်သဖြင့် တိရစ္ဆာန်နတ် မည်၏။ လူသည်ပင် တိရစ္ဆာန် မြောက်မြားစွာ မွေးမြူလျက်က အစာရှာဖွေကျွေးမွေးကာ ထိန်းသိမ်းစောင့်ရှောက်နေက တိရစ္ဆာန်နတ်ဟူ၍ပင် ခေါ်ဆိုရမည် ဖြစ်ချေ၏။
- လူတို့၏ အကြီးအကဲသည်ကား လူတို့၏ မှီခိုအားထားရာ ဖြစ်သဖြင့် လူနတ် မည်ချေ၏။
- နတ်တို့၏ အကြီးအကဲသည်ကား လူတို့၏ လည်းကောင်း၊ နတ်တို့၏ လည်းကောင်း မှီခိုအားထားကြရာဖြစ်သဖြင့် နတ်၊ နတ်ဟူ၍ ခေါ်ဆိုရချေ၏။
- သုံးဆယ့်တစ်ဘုံသား အားလုံး၏ အကြီးအကဲ ဘုရားရှင်သည်ကား အားလုံးတို့၏ အားကိုးရာလည်းဖြစ်၊ အားလုံးကိုလည်း စင်ကြယ်စေတတ်၊ မိမိလည်း စင်ကြယ်တတ်သောကြောင့် ဝိသုဒ္ဓိနတ်ဟူ၍ ခေါ်ဆိုရချေ၏။

အကြီးအကဲဖြစ်ရန်မှာ အနည်းငယ်မျှသော ပုညခေါ် ပုဉ်းကံ၊ ဘုန်းကံ မရှိဘဲလျက် မဖြစ်နိုင်။ အနည်းငယ်မျှသော ကိုယ်ကျိုးစွန့်လွှတ်နိုင်ရုံမျှဖြင့်လည်း မဖြစ်နိုင်။ အများတို့ ယုံကြည်အားထားလောက်သာ အရည်အချင်းမျိုး မရှိဘဲ

လျက်လည်း မဖြစ်နိုင်။ နတ်တို့၏ နတ်ဖြစ်ရန် မဆိုထားဘိ။ လူတို့ နတ်ဖြစ်ရန် သည်ပင် အလွန်ခက်ခဲလှချေ၏။ ထိုလူနတ်တို့တွင်လည်း လေးကျွန်းပိုင်စကြာမင်း ကိုသော်လည်းကောင်း၊ တစ်ကျွန်းပိုင် ကေရာဇ်မင်းကိုလည်းကောင်း၊ တစ်နယ်ပိုင် ပဒေသရာဇ်မင်းကိုသော်လည်းကောင်း မဆိုထားဘိ။ တစ်ရွာပိုင် ရွာဆော်ရွာကဲ ဖြစ်ဖို့ပင် အလွန် မလွယ်ချေ။

တစ်ရွာလုံး၏မှုခင်းတို့ကို မိမိ၏ အလုပ်ခွင်လက်လွှတ်၍ လိုက်ပါ ဆောင် ရွက်ပေးနိုင်သလား၊ စေတနာကော ထက်ကဲ့လား၊ ကိုယ်ကျင့်ကကော ကောင်းရဲ့ လား။ ထိုသို့သော လားကလေးများကို နိုင်နင်းပိုင်ဆိုင်မှသာ တစ်ရွာလုံး၏ ယုံ ကြည်အားကိုးမှုကို ရ၍ ရွာဦးနတ် ဖြစ်နိုင်ချေ၏။ ပုဉ်းကံအရှိန်ကြောင့် အများက ပူဇော်ပသလျှင် စားနိုင်၏။ မပသ၍ ဖမ်းစားသော် နတ်သက် အကြွေစောတတ်၏။

ထိုရွာဦးနတ်သော်မှ သည်မျှ ခက်ခဲလှချေသေးလျှင် နတ်ပြည်၏ နတ်မျိုး ကား သာ၍ပင် ခက်ခဲလှချေ၏။ အနည်းငယ်မျှသော ရေးကုသိုလ်၊ ရေးဘုန်းကံ မရှိဘဲနှင့် မတက်ရောက်နိုင်။

ဒါန၏ စွန့်လွှတ်မှုသည် စွန့်လွှတ်မှု မည်ကာမတ္တဖြင့် လုံးဝ မစဉ်းစားနှင့်။ ဒါနဝိသုဒ္ဓိခေါ် စိတ်စေတနာ စင်ကြယ်ထက်သန် အသိဉာဏ်ပါသော ကောင်းမှု မျိုးကသာ တက်ရောက်နိုင်ချေ၏။ အများအကျိုး ဆောင်ရွက်ခဲ့သဖြင့် နတ်ဖြစ်လာ သူသည် အများအကျိုးကို ပြန်လှည့်၍ မကြည့်ရှုနိုင်လျှင် နတ်ဟူသော စကား အဓိပ္ပါယ်သွားမလှ ဖြစ်တတ်၏။ ဒါန၏ စွန့်လွှတ်မှုသည် အများကောင်းစားစေချင် သော စေတနာနှင့် ကိုယ်ကျိုးစွန့်လွှတ်လိုသော စေတနာတို့ကြားမှ ပေါက်ဖွားလာ သော ကုသိုလ်မျိုးဖြစ်၏။ ထိုကုသိုလ်မျိုး အကျိုးခံစားခွင့်ရစဉ် ထိုအကျိုးအကြောင်းခံ စေတနာများကလည်း အများကောင်းကျိုး သယ်ပိုးပေးခြင်း၊ ကိုယ်ကျိုး စွန့်လွှတ် ခြင်းတို့ကို ပြုကျင့်ရမည်သာ ဖြစ်၏။ နတ်သွေးဝင်၍ နတ်မေ့မေ့ကာ စိတ်ကြီး ဝင်မနေသင့်ပြီ။

သီလ၏ လေ့ကျင့်မှုကလည်း စိတ်စင်ကြယ်မှုအထိ ခရီးပေါက်စေသော လေ့ကျင့်မှုမျိုး ဖြစ်မှသာ တက်ရောက်နိုင်ချေ၏။ အများ၏ ယုံကြည်မှု၊ ကိုးစားမှု

သည် အမျှားတို့၏ ယုံကြည်ခြင်း၊ မိမိ၏ အကျင့်မှန်ခြင်းအကြားတို့မှ ပေါက်ဖွား လာသောအရာမျိုး ဖြစ်ချေ၏။ လူလူချင်း နတ်ဖြစ်ရေးထက်၊ နတ်နတ်ချင်း နတ်ဖြစ်ရေးက သာ၍ ခက်ခဲလှ၏။ အဘယ့်ကြောင့်ဆိုသော် အထက်နတ်မှန်သမျှ ဒါန၊ သီလ တစ်ချက်ကောင်းကြီးကို မိမိရရ ဆုပ်ကိုင်ပြီးမှသာ တက်ရောက်လာခြင်းများကြောင့်တည်း။

လူ့ပြည်၌ လူမှုကိစ္စများပြားလှသလို နတ်ပြည်၌လည်း နတ်မှုကိစ္စ များပြားလှချေ၏။ လူ့အရှုပ်အရှင်းထက် နတ် အရှုပ်အရှင်းက သာ၍ များသည် ဆို၏။ လူမှာကဲ့သို့ မယားတစ်ယောက်တည်း မဟုတ်ဘဲ နတ်တစ်ပါး မယားများစွာ ထိန်းပေးနေရခြင်း၊ လူမှာကဲ့သို့ စေ့စပ်ကြောင်း လမ်းစရာမလိုဘဲ ဘွားကနဲ ပေါ်လာသည်ကို ဖမ်းထိန်းရခြင်း၊ လူမှာကဲ့သို့ စားဝတ်နေရေး ပြေးလွှားနေစရာမလိုဘဲ မရှာဘဲနှင့် ပြီးနေသဖြင့် ကာမစည်းစိမ် အချိန်ပြည့် ခံစားနေခြင်းများကြောင့် နတ်ရှုပ်ကပုတ်ထုတ်၍ လက်မနိုင်အောင် ရှိသည် ဆို၏။

ထိုနတ်ပြည်ရှိ နတ်တို့၏ ကာမ အသုံးအဆောင်သည်ကား နတ်ပြည် တစ်ဆင့်နှင့်တစ်ဆင့် စည်းစိမ်အားဖြင့် လည်းကောင်း၊ အခြံရံအားဖြင့် လည်းကောင်း၊ အရွယ်အဆင်းအားဖြင့်၊ သက်တမ်းအားဖြင့်လည်းကောင်း လေးဆတိုး၊ လေးဆတိုးနှုန်းဖြင့် သာလွန်သည်ဆို၏။

ထိုအထဲ ဒါနလွန်ကဲမှုဖြင့် တက်ရောက်လာသောနတ် သီလ လွန်ကဲမှုဖြင့် တက်ရောက်လာသော နတ်မျိုးကား အခြားနတ်များထက် အသက်၊ အဆင်း စသည်တို့မှာ တစ်မျိုးတိုး၍ ထူးကဲနေသေးဆို၏။

ထိုသို့သော နတ်ပြည်သို့ တက်ရောက်ခွင့်ရရန်မှာ သတို့သမီးအိမ်နောက် မလွယ်ပေါက်က တက်ရသည်ထက် ခက်ခဲလှချေ၏။

လူ့ပြည်မှ လူဖြစ်ရန်မှာ လူဖြစ်စေနိုင်သော ကုသိုလ်ကံကလည်း အားကြီးမည်။ အာရုံယူဖို့ကလည်း အနီးအပါးမှာပင် ရှိသဖြင့် အာရုံထင်လွယ်ပြီး အစွဲဖြင့် ကူးနိုင်ချေရှိသေး၏။ လူမှနတ်သို့ အဆင့်မြင့်တက်ရာ၌ လူ့ပြည်မှ နတ်ပြည်သို့ အောက်မှ အထက်သို့တက်ရာ၌ အာရုံယူရန်လည်း ခဲယဉ်းလှ၏။ အာရုံထင်ရန်လည်း ခဲယဉ်းလှချေတော့၏။

သင်ပြုသောဒါနမှုက အထက်နတ်ဖြစ်ထိုက်သော မျိုးစေ့ကြီး ဆိုပါအံ့။

သင်ပြုသော သီလမှုက အထက်နတ် ဖြစ်ထိုက်သော စင်ကြယ်မှုကြီး ဆိုပါအံ့။

သေခါနီးကာလ ကံ – သင်ပြုကျင့်နေဟန်၊ ကမ္မနိမိတ် – သင်ပြုခဲ့သည့် အတိုင်း ပုံရိပ်ထင်လာသော အရိပ်နိမိတ်၊ ဂတိနိမိတ် – သင့်စေတနာနှင့် အဆင့်ညီသော ဘုံဗိမာန်နှင့် စည်းစိမ်အဆောင်ယောင် စသည်တို့၏ ပုံဟန်၊ ထိုသုံးမျိုး တစ်မျိုးမျိုး သင့်စိတ်မျက်စိထဲ မြင်ယောင်လာချိန် ကံနှင့် ကမ္မနိမိတ်ခေါ်သော ပြုကျင့်ပုံ၌ စိတ်မေးတင်နေချေသော် ဝတ္ထု (ကျောင်းစသည်)နှင့် အာရုံ (ထိုကျောင်း၏မြင်ကွင်း)ကို ငြိကပ်နေတတ်သဖြင့် အထက်နတ်ဘဝအစား ကျောင်းကပ် နတ်ဘဝမျှသာ ကျရောက်သွားချေတော့သဖြင့် အထက်နတ်ဘုံများနှင့် လွဲရပြန်ချေပြီ။

ထိုကံ၊ ကမ္မနိမိတ်ခေါ် ဝတ္ထုနှင့် အလှူခံပုဂ္ဂိုလ်တို့၏ မြင်ကွင်းပုံရိပ်ကို ကြည့်လျက်က ဖြစ်ပျက်မြင်ဖြင့် ကျော်လျက်ကလည်းကောင်း၊ လက္ခဏာအမြင်ဖြင့် ကျော်လျက်ကလည်းကောင်း၊ ထိုအာရုံကို ရှောင်လွဲလျက်က ကျော်လွှားခြင်းဖြင့် လည်းကောင်း၊ မိမိစိတ်၌ အငြိအတွယ်မခံမှသာ မိမိ သွားရောက်ရမည့် ဂတိနိမိတ် ကို စွဲကိုင်လျက်က နတ်ဘဝသို့ ရောက်ရချေ၏။

သင် တထစ်ချ မှတ်ယူစေချင်သည်မှာ အကြောင်းခံဖြစ်သော ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်တို့၌ သင့်စိတ် မငြိတွယ်စေဘဲ အကျိုးပေးဖြစ်သော သွားရောက်ရမည့်ဘဝသို့ သာယာစိတ်သွင်းလိုက်မှသာ မိမိကုသိုလ်ကံနှင့်အလိုက် ဖြစ်ထိုက်သောဘဝဆီသို့ တန်းမတ်စွာ ရောက်နိုင်သည်ဟူသော အချက်ပင်တည်း။

ငါစွဲသည် ကုသိုလ်စေတနာမျိုးစေ့ ခိုအောင်းနိုင်သော စိတ်ထားမဟုတ်။ ဒိဋ္ဌိခေါ် အမြင်မှားမှု ကုသိုလ်စေတနာ၏ တည်းခိုအိမ်သာ ဖြစ်သဖြင့် နတ်ပြည်သို့ မပို့နိုင်။ ဝတ္ထုနှင့် ပုဂ္ဂိုလ်စွဲတို့သည်လည်း ကုသိုလ်ဇော စောခွင့်မရသော အစွဲမျိုး ချည်းသာ ဖြစ်ချေရကား။ တဏှာ၏ မှုပိုင်အိမ်သာ ဖြစ်သဖြင့် နတ်ပြည်သို့ ပို့ မပေးနိုင်။

ထို ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်သုံးမျိုးတို့ ဆုံစဉ်ကာလတုန်းက ဖြစ်ပွင့်ထားသော စေတနာတို့ကသာ နတ်ပြည်သို့ ပို့နိုင်ချေရကား။ နတ်ပြည်သွား လက်မှတ်သည်

ငါလည်းမစွက်၊ ဝတ္ထုဘက်လည်းမပါ၊ ပုဂ္ဂိုလ်မှာလည်း မစွဲမက်သက်သက်သော ကုသိုလ်စေတနာသာ ဖြစ်ကြောင်း၊ ကောင်းကောင်းကြီး သဘောပေါက်၍ အားကိုး မမှားသင့်ကြောင်းသာ အကြံပေးလိုချေ၏။

– အဆင့်မြင့်စည်းစိမ်ကို ခံစံလိုလျှင် သင့်စေတနာ ထက်သန်နေပါစေ။

– ကြောင့်ကြမဲ့စည်းစိမ်မျိုး ခံစားလိုလျှင် သင့်စေတနာ သန့်ရှင်းနေပါစေ။

နတ်ပြည်သို့ ရောက်ရသည်မှာလည်း ထိုနတ်ဘဝကို သာယာသော တဏှာ ကြောင့်သာ ဖြစ်ချေ၏။ ပြိတ္တာဘုံသို့ ရောက်ရသည်မှာလည်း ထိုပြိတ္တာဘဝကို သာယာမှု ဖြစ်၏။ ဤသို့ တဏှာသည်ပင် အောက်သို့ပစ်ချ၍ တဏှာသည်ပင် အထက်သို့ မြင့်တင်ပေးချေရကား မည်သို့ ထူးခြားပါသနည်း မေးသင့်၏။

ပြိတ္တာဘုံသို့ ဆွဲချသော တဏှာသည် ငါ၊ ဝတ္ထု၊ ပုဂ္ဂိုလ်အစွဲကြီးရာမှ ဖြစ် ပေါ်လာသော သာယာစိတ် (ခင်မင်စိတ်)က ပို့လွှတ်ပြီး နတ်ဘုံသို့ မြင့်တင်ပေးသော တဏှာသည်ကား ကုသိုလ်စေတနာကြောင့် ဖြစ်ပေါ်လာသော ကောင်းကျိုးတို့ကို သာယာစိတ် (ခင်မင်စိတ်)ထားမိရာက တက်စေသည်ဟု မှတ်ယူထားသင့်ချေ၏။

ပြိတ္တာသည်လည်း တဏှာကြောင့်၊ နတ်ဖြစ်ရသည်မှာလည်း ယင်းတဏှာ ကြောင့်ပင် ဖြစ်သဖြင့် နတ်ဘဝကိုလည်း ပြိတ္တာဘဝဟု ဆိုကြ၏။ တစ်ဖန်လည်း ပြိတ္တာဘဝသည်လည်း မဝရေဆာဖြင့် ဆင်းရဲနေ၏သို့ နတ်ဘဝသည်လည်း ကာမစည်းစိမ် (မိမိလိုချင်သော အာရုံတို့ကို) မည်မျှ ခံစားရ၊ ခံစားရ အားရ တင်းတိမ်ခြင်း၊ ဝခြင်း လုံးဝ မရှိသောကြောင့် ပြိတ္တာဘဝဟုပင် ဆိုရချေ၏။ ကွာ သည်မှာ ဤလူ့ဘဝမှ ပြိတ္တာပြည်သွားလေသူသည် ငါစွဲအားကြီး၊ ဝတ္ထုစွဲကို ခိုမှီ၍ သွားရခြင်းကြောင့် သေခါနီးကာလတုန်းက အရွယ်အစား ပုံပန်းသဏ္ဌာန်အတိုင်း လည်းကောင်း၊ သေခါနီးဝတ်ဆင်ထားသော အဝတ်အစားအတိုင်း လည်းကောင်း သွားရောက်ကာ ဖြစ်ကြရပြီး နတ်ပြည်သွားလေသူသည်ကား ကုသိုလ်၏ အကျိုး ပေးအတိုင်းသော (ထိုကုသိုလ်ပြုစဉ်တုန်းက စိတ်ထားနှင့်လိုက်ဖက်သော) အဆင်း၊ အသံ စသည်နှင့် ဘုံဗိမာန်၊ ခြွေရံသင်းပင်း၊ ဝတ်စားတန်ဆာဒြ္ဒါဒရာတို့ဖြင့် ဖြစ်ရ ချေ၏။ သို့ကြောင့် ပြိတ္တာနှင့် နတ်၊ တဏှာခာတ်ချင်း တူသော်လည်း စေတနာ

ခာတ်ချင်းကား မတူပြီ။ အကျိုးပေးခြင်းလည်း မိုးနှင့်မြေတည်း။

ဤ၌ သာဓကမှာ ဒုဋ္ဌဂါမဏိမင်းကြီးပင်။ ၎င်းသည် သာသနာတော်၌ ကြည်ညိုစိတ်အားကြီးသည့်အလျောက် မွေးဖွားလာခဲ့၍ လူ့မှန်းသိတတ်ချိန်မှစပြီး သံဃာသို့ မလှူဒါန်းဘဲနှင့် မည်သည့် အစားအသောက်ကိုမျှ လက်ဦးမစားသောက်တတ်ချေ။

ဤသို့ဖြင့် ဘုရင်အဖြစ် ရောက်ရှိလာသောအခါ သာသနာတော်သို့ ကုဋေတစ်ထောင်တန်မျှသော သာသနိက အဆောက်အဦတို့ဖြင့် သဒ္ဓါစိတ်ကို မြှင့်တင်၍ ပူဇော်ချေ၏။ စေတီတိုင်းတို့၌လည်း

- နောင် ဤစေတီတော်ကြီးပြိုပျက်သော် နှောင်းလူတို့ ပြင်ဆင်နိုင်ရန်၊
- နောင် သာသနာ၌ ဘုရားကျောင်းတော်ဆောက်သောအခါ ရိက္ခာအထောက်အပံ့ရရန်၊
- ဘုရားရတနာကို မိမိအမြတ်ဆုံးသောရတနာတို့ဖြင့် ပူဇော်ကာ ဘုရားသည်သာ အမြတ်နိုးဆုံးပါဟူ၍ အသိအမှတ်ပြုရန်၊

အထက်ပါ ရည်ရွယ်ချက်များဖြင့် ဌာပနာထားခဲ့သော စိန်၊ ရွှေ၊ ငွေ၊ ပတ္တမြား၊ ပုလဲ၊ မြ၊ ကျောက် စသည်တို့ကား ထိုကုဋေတစ်ထောင်ထက်ပင် တန်ဖိုးများချေမည် ထင်၏။ ထိုမင်းကြီး နတ်ရွာစံခါနီးဝယ် သေမင်းကြီးနှင့် စစ်တိုက်ရာ၌ တစ်ပါးထီးတည်း ဖြစ်နေသဖြင့် အားငယ်တော်မူရာ၏။ ထိုအခါ မိဠာဒိဋ္ဌိ ကျည်းကုလားတို့လက်မှ သီဟိုဠ်ကျွန်းကြီးကို တိုက်ခိုက်သိမ်းယူစဉ်က အတူ ပါဝင်ခဲ့သော စစ်သူကြီး ထေရပုတ္တာဘယသည် ရဟန္တာအဖြစ်သို့ ရောက်ရှိတော်မူနေချေပြီး မင်းကြီး၏ အားငယ်နေမှုကို (ကလျာဏမိတ်ကောင်းပီပီ) နှစ်သိမ့်ရန်အတွက် ကြွချီတော်မူလာ၏။ သင်ပြုခဲ့သော ကုသိုလ်တော်များ မြောက်မြားစွာ ရှိနေပြီးဖြစ်သဖြင့် သင့်အတွက် သောကရောက်စရာ မလိုကြောင်း ဟောတော်မူ၏။

ထိုအခါ မင်းကြီးသည် ကုသိုလ်ဘက်သို့ သတိရလာပြီး မော်ကွန်းထိန်းအမတ်ကြီးအား ကုသိုလ်တော်စာရင်းများကို ဖတ်ကြားခိုင်းကာ နားထောင်တော်မူ၏။

ထိုကုသိုလ်တော် ကုဋေတစ်ထောင်ကျော်ကား မင်းအာဏာဖြင့် မင်းဘဝရောက်မှ ပြုခွင့်ရခဲ့သော ကုသိုလ်များဖြစ်၍ မင်းကြီး ဝမ်းမမြောက်မိ။ မင်းကြီး အနှစ်သက် ဆုံးကား ညီတော်နှင့် စစ်တိုက်စဉ်ကာလ စစ်ပွဲကြားက လှူခဲ့ရသော ထမင်း တစ်နပ်စာပင် ဖြစ်ချေ၏။

မင်းကြီးသည် ထိုထမင်းတစ်နပ်စာ လှူခဲ့ရာဒေသ၊ လှူခဲ့ရပုံတို့ကို ကံ၊ ကမ္မနိမိတ်အဖြစ် ပုံရိပ်များ ထင်လာစေ၏။ ထိုပုံရိပ်များကိုလည်း လွှန်ခဲ့ပြီ၊ ပျောက်ပြယ်သွားလေကြပြီဟူ၍ နှလုံးသွင်းမိသောအခါ တုသိတာသွား နတ် ရထားကြီးသည် ဘွားကနဲ ပေါ်စေ၏။ တုသိတာရှိ မိမိ ခံစားခွင့်ရမည့် စည်းစိမ် တို့၏ ပုံရိပ်သည်လည်း ဘွားကနဲပင် ပေါ်စေ၏။ ထိုပေါ်ထင်လာသော (မိမိ သွားရမည့်) နေရာဆီသို့ စိတ်သွတ်သာယာရင်းက လူ့ဝိညာဉ် ချုပ်ခမ်းသွားချေရာ တုသိတာ၏ နတ်ဝိညာဉ်အဖြစ်သို့ (ဖယောင်းတိုင်မီး တစ်တိုင်မှသည် တစ်တိုင်သို့ ကူးလိုက်သည့်ပမာ) ရောက်ကာ တုသိတာနတ်ဘဝသို့ ရောက်ရချေသည်။

## အထက်နတ်ဘုံတို့သို့ သွားခွင့်ရသူများ

တက်လမ်းရှာအပေါင်းတို့ –

အထက်နတ်ဘဝသို့ ရောက်နိုင်သူများမှာ အရိယာပုဂ္ဂိုလ်ရှစ်ဦးနှင့် ပုထုဇဉ်ထဲမှ ကုသိုလ်အကြောင်းခံ နှစ်မျိုးတို့ဖြင့် ဒါနမှု၊ သီလမှု ပြုကျင့်ထားလေသူ၊ ကုသိုလ် အကြောင်းခံ သုံးမျိုးစလုံးတို့ဖြင့် ဒါနမှု၊ သီလမှု ပြုကျင့်ထားလေသူ ထိုနှစ်ဦး၊ ပေါင်းဆယ်ဦးသာ တက်ခွင့်သာချေ၏။

ဤ၌ သင့်စေတနာကို ပြန်လှန်စစ်ဆေးကာ နတ် (အများတို့ အားကိုးရာ) ဖြစ်ထိုက်၊ မဖြစ်ထိုက် အဖြေရှာသင့်၏။ ဖြစ်နိုင်စရာအကြောင်း မမြင်သေးလျှင် သင့်စေတနာ ပြုသင့်ပြီ ဖြစ်၏။

သင်သည် လှူဒါန်းစဉ်ကာလတုန်းက ငါ၊ လှူဖွယ်ဝတ္ထု၊ အလှူခံပုဂ္ဂိုလ် ထို သုံးမျိုး တစ်မျိုးမျိုးထဲသို့ စိတ်ရောက်သွားကာ သာယာနှစ်သက်စိတ်၊ တပ်မက်

ခင်မင်စိတ်များဖြင့် လှူဒါန်းကောင်း လှူဒါန်းနေမည်။ ထိုစိတ်များ ကုသိုလ်နှင့် လုံးဝ မဆိုင်ချေ။ တဏှာပြဋ္ဌာန်းသော အကုစိတ်ချည်းသာ ဖြစ်ကြသဖြင့် သွားရာလမ်းသည် နတ်လမ်း မဟုတ်ပြီ။

တစ်ဖန် ငါ့အလှူဟူသော ငါစွဲစိတ်ဖြင့်လည်း လှူဒါန်းကောင်း လှူဒါန်းနေချေမည်။ ထိုစိတ်သည်လည်း ကုသိုလ်စိတ် မဟုတ်၊ ဒိဋ္ဌိ အနည်ထိုင်နေသော အကုသိုလ်စိတ်သာ။

တစ်ဖန် ငါ့အလှူဟူ၍ အသိမှတ်ထားသည်နှင့် လောက်မှ လောက်ပ့ါမလား၊ ငှမှ ငှပ့ါမလား၊ ချောချောမောမောမှ အောင်မြင်ပ့ါမလား စသည့် လားပေါင်းများစွာတို့ဖြင့်လည်း လှူဒါန်းကောင်း၊ လှူဒါန်းနေချေမည်။ ထိုစိတ်ထားသည်လည်း ကုသိုလ်မဖြစ်၊ ဝိစိကိစ္ဆာ အကုသိုလ်အစစ်သာ ဖြစ်သဖြင့် နတ်ဖြစ်ရန် အလားအလာ မရှိချေပြီ။

တစ်ဖန် ထိုလားတို့နောက် သောကဝင်၍ နောက်ပြန်သဖြင့် ပျံ့လွင့်စိတ်၊ ပူပန်စိတ်၊ နှလုံးမသာစိတ်များဖြင့်လည်း လှူဒါန်းကောင်း လှူဒါန်းချေမည်။ ထိုစိတ်ဓာတ်များသည်လည်း ကုသိုလ်နှင့် လားလားမျှမဆိုင်။ ဥဒ္ဓစ္စ ဒေါမနဿ အကုသိုလ်စိတ်ဓာတ်များသာ ဖြစ်ကြသဖြင့် ကုသိုလ်ကျိုးကို သွားရောက်၍ မခံစားနိုင်ပြီ။

ထိုစိတ်များ ဖြစ်ပေါ်ချုပ်ပျောက်ပြီးနောက် အကုသိုလ် အကျိုးစုများသာ တောက်လျှောက် လိုက်ပါလာသဖြင့် လားရန်ဂတိမှာ အောက်တန်းသွားချည်းသာ ဖြစ်ချေတော့၏။

- လူသည် ကုသိုလ်စစ်စစ်မှ ထဖြစ်လာသော အမျိုးတည်း။
- နတ်သည်လည်း ကုသိုလ်သက်သက်မှတက်ရောက်ရသောအမျိုးတည်း။

သို့ကြောင့် စေတနာ လူသော်လည်းကောင်း၊ နတ်သော်လည်းကောင်း ဖြစ်နိုင်စရာအကြောင်း မပါပြီ။

လူ၊ နတ်အဖြစ်သို့ ရောက်ထိုက်ရထိုက်သော ကုသိုလ်မျိုးတို့မှာ စွန့်လွှတ်မှု ဒါနကိုသော်လည်းကောင်း၊ လေ့ကျင့်မှု သီလကိုသော်လည်းကောင်း ပြုကျင့်ရာတိုင်းတို့၌ သာယာတပ်စွဲစိတ် မကပ်စေခြင်း၊ စိုးရိမ်ပူပန်စိတ် မကပ်စေခြင်း ဟူသော

အလောဘ၊ အဒေါသ စေတနာအကြောင်းခံနှစ်မျိုးတို့အောက်ခံထားသော ကုသိုလ်မျိုးတို့ ဖြစ်မှသာ ရောက်ထိုက်၊ ရထိုက်၏။ ထိုစေတနာမျိုးတို့သာ အပြစ်မဲ့၍ ကောင်းကျိုးကို ပေးစေနိုင်၏။

ထိုစေတနာသည်သာ တရိုတသေ ပြုပြင်ထားရသော စပါး၊ နှမ်း၊ ပြောင်း၊ ဂျုံ၊ ပဲစသော မျိုးကောင်းမျိုးမှန်တို့ကဲ့သို့ ဖြစ်ချေ၏။

လောဘ၊ ဒေါသ၊ မောဟ စသည့် သာယာတပ်မက်နှစ်သက်စိတ်များသည် လည်းကောင်း၊ မသာကြည်စိတ်များသည် လည်းကောင်း၊ ဇဝေဇဝါ ဟိုမှာသည် ပျံ့နှံ့နှံ့စိတ်များသည်လည်းကောင်း တမင်တကာ မပြုပြင်ဘဲနှင့် ပေါက်ရောက်လာသော အလေ့ကျပေါက် မျိုးစေ့တို့ကဲ့သို့ ဖြစ်ချေ၏။

တစ်ဖန် လူနတ်အဖြစ်သို့ ရောက်ထိုက်၊ ရထိုက်သော ကုသိုလ်မျိုးတို့မှာ စွန့်လွှတ်မှုဒါနကိုသော်လည်းကောင်း၊ လေ့ကျင့်မှုသီလကိုသော်လည်းကောင်း၊ ပြုကျင့်ရာတိုင်းတို့၌ ရှုမှတ်ဆင်ခြင်ဉာဏ်သက်ဝင်ထားသည့်အလျောက် ငါဟူသော အထည်ဒြပ်ကိုလည်း မတွေ့မြင်မိ။ လူ့ဖွယ်ပစ္စည်း၏ အထည်ဒြပ်ကိုလည်း မတွေ့မိ၊ မမြင်မိ။ အလှူခံပုဂ္ဂိုလ်၏ အထည်ဒြပ်ကိုလည်း မတွေ့မိ၊ မမြင်မိ။ မိမိမျက်စိရှေ့တွေ့နေရသည်မှာကား လှုပ်ရှားနေကြသော ရုပ်စုတို့၏ အဆင့်ဆင့် ဖောက်ပြန်ပြောင်းလဲနေကြကား ထိုင်ရာမှ ထရပ်ခြင်း၊ ထရပ်ရာမှ သွားလာခြင်း၊ တစ်ဖဝါးမှ တစ်ဖဝါး ပြောင်းလဲလျက်က လှုပ်ရှားနေခြင်း၊ လက်တစ်ဖက်မှ လက်တစ်ဖက်သို့ ကူးပြောင်းလျက်က လှုပ်ရှားနေခြင်း၊ တစ်ဖန် အဆန့်မှ အကွေးသို့ လည်းကောင်း၊ အကွေးမှ အဆင့်သို့ လည်းကောင်း၊ အမတ်မှ အကုန်းသို့လည်းကောင်း၊ အကုန်းမှ အမတ်သို့ လည်းကောင်း၊ ရှေ့လှည့်မှ နောက်ပြန်သို့ လည်းကောင်း၊ နောက်ပြန်မှ ရှေ့လှည့်သို့လည်းကောင်း၊ ရုပ်အဆင့်ဆင့်၊ နာမ်အဆင့်ဆင့်သို့ချည်း လှုပ်ရှားပြောင်းလဲနေကြသည်ကိုချည်းသာ တွေ့မြင်နေရချေ၏။ သုံးဆောင်နေသော ရုပ်နှင့် သုံးတော်ခံ ရုပ်တို့အချင်းချင်းတို့ လှုပ်နေကြရာတွင်လည်း ထိုနည်းမခြားသာ တွေ့မြင်နေရချေတော့၏။

ထိုသို့ ရုပ်တို့၏ အပေါ်ယံကြောကို ကျော်ဖြတ်၍ အတွင်းကြောအထိ အသိဉာဏ်ဆင်းသက်မိသူ၏ စေတနာသည် သာယာတပ်မက်နှစ်သက်စိတ် မကပ်

သာသဖြင့် အေးဆေးငြိမ်သက်စေ၏။ ငါစွဲတန်းလန်း မကျေချမ်းစိတ်များလည်း မခိုသာသဖြင့် အေးဆေး ငြိမ်သက်စေ၏။ ဒွိဟစိတ်၊ ပျံ့စိတ်များ မကိန်းသာသဖြင့်လည်း ကြည်သန့်စေ၏။

မျိုးကောင်းစပါး၊ ငရုတ် စသည်တို့ စိုက်ပျိုးရာဝယ် မြေသန့် မြေကောင်း ရရှိရေးသည် အရေးကြီးလှ၏။ ထိုမြေသန့်ရသော်လည်း တမန်းအေးခြင်း၊ မြေညက်ခြင်း၊ မြေဆီမြေသား တက်ခြင်းများ မဖြစ်လာသော် ရှင်သန်ရန် စိတ်မချရသေး။ ထိုအခြေအနေမျိုးတို့ ပေးလာမှသာ ရှင်သန်ခြင်း၊ ဖြစ်ထွန်းခြင်း၊ သီးစေပွင့်စေခြင်းတို့ စိတ်ချရစေ၏သို့။

ဒါနမှု၊ သီလမှု ကုသိုလ်တစ်ခုပြုရာ၌လည်း စေတနာ အဆံဝင်နေသော စိတ်၏ အေးသန့်ခြင်း၊ တည်ကြည်ခြင်းတို့သည် မရှိမဖြစ်သော အောက်ခံဖိနပ်များ ဖြစ်ချေ၏။ ထိုသို့ ဖြစ်ရန်မှာလည်း ပြုပြင်ယူမှ ရချေ၏။ မေ့မေ့ကြီးနှင့်လည်း ရလိမ့်မည် မဟုတ်။ ပျော်ပျော်ကြီးနှင့်လည်း ရလိမ့်မည်မဟုတ်။ မော်မော်ကြီးနှင့် ဖြစ်လာလိမ့်မည် မဟုတ်ပြီ။

ထိုသို့ ရှုမှတ်ဆင်ခြင်မှုဖြင့် မိမိစိတ်ကို ပြုပြင်၍ သာယာတပ်မက်စိတ်ကင်းသော အလောဘစေတနာ၊ နှလုံးမကြည်စိတ်ကင်းသော အဒေါသစေတနာ၊ ပျံ့လွင့်ထွေလာ ဇဝေဇဝါစိတ်ကင်းသော အမောဟစေတနာ၊ ထိုကုသိုလ်အကြောင်း ခံသုံးမျိုးပါသော ဒါနမှု၊ သီလမှုမျိုးတို့သည် အထက်နတ်ဘုံဆီသို့ သွားရာ မျိုးစေ့ ဖြစ်ချေ၏။

အထက်ပါ စကားတို့ကိုထောက်လျှင် အထက်နတ်ဖြစ်နိုင်သော ပုထုဇဉ် မျိုးသည်

- ဝိပဿနာဉာဏ် ဆယ်ဆင့်အထိ ခရီးပေါက်နေသော ကလျာဏ ပုထုဇဉ်ပုဂ္ဂိုလ်ကြီးများ၊
- နာမ်၊ ရုပ် နှစ်ပါး ကွဲပြားနေသည်အထိ အမြင်သန်သော စူဠ သောတာပန်ပုထုဇဉ်များ၊
- သမထဈာန်သမာဓိ အခြေခံရှိသော သမာဓိရှင် ပုထုဇဉ်များသာ တက်ရောက်နိုင်ခွင့် ရှိချေ၏။

နောက်နောက်က ထိုအဆင့်များအထိ အားထုတ်ခဲ့ဖူးသဖြင့် အကြောင်းခံ နှစ်ပါး၊ သုံးပါး ပါရှိသောဘဝမျိုးသို့ ရောက်နေချိန်ဖြစ်သော ပုထုဇဉ် သာမန်များ သည်လည်း တက်ရောက်နိုင်ခွင့်ရှိသောကြောင့် လာဇာ နတ်သမီး၊ ကုန္တက၊ အင်္ကုရ နတ်သားများနှင့် ဖားနတ်သား၊ နွားနတ်သားများကို ထောက်ချင့်၍ သိနိုင်သေး၏။

ထိုအထက်နတ်ဘုံသို့ ရောက်၍ နတ်စည်းစိမ်ခံစားရသောအခါတွင်ကား စွန့်လွှတ်မှုဒါနမျိုးစေ့ကြောင့် ကိုယ်ချမ်းသာမှုကို ဖြည့်စွမ်းပေးတတ်သော အခြွေအရံ ဗိမာန်စည်းစိမ်တို့ကို သိမ်းပိုက်ရပြီး လေ့ကျင့်မှု သီလမျိုးစေ့ကြောင့် စိတ်ချမ်းသာမှုကို ဖြည့်စွမ်းပေးတတ်သော လိုသလိုရ၊ တ,သလို ပြီးစီးစေနိုင်ခြင်းတို့ကို လက်ခံရ၏။ အကြောင်းခံ စေတနာအေးသန့်မှုကြောင့် ထိုစည်းစိမ်တို့၌ မကြောင့်မကြ၊ မတောင့် မတ ခံစားခွင့်ရစေ၏။

## နတ်ဆိုသော နတ်တို့၏ လူ့အကျိုးပြုများ

တက်လမ်းရှာအပေါင်းတို့ –

နတ်ဆိုသည်မှာ အများတို့ အားကိုးရာဟူ၍ အစဉ် ပြောပြခဲ့ပြီ။ အားရှိသူ သည်သာ အားကိုးလောက်၏။ အားကိုးလောက်မှလည်း အားပေးခံရချေ၏။ အားမရှိသူ အားကိုးမိက တောင်းဝှေးလှဲရာ အဘိုးအိုပါဘိသို့ အားကိုး သူ့အတွက် နာချက် မကင်းပြီ။

နတ်ဖြစ်လာလျှင် ကမ္မဇိဒ္ဓိတန်ခိုးကား မနှိုးဘဲနှင့် ထနေသည်သာ ဖြစ်၏။ ကမ္မဇိဒ္ဓိ (ကမ္မဇ = ကံကြောင့်ဖြစ်သော၊ ဣဒ္ဓိ – တန်ခိုး) ဟူသည် စွန့်လွှတ်မှု၊ လေ့ကျင့်မှု ပြုကျင့်စဉ်ကာလတုန်းက အမည်းရောင်မသန်းသော စေတနာမှ ပေါ် ထွန်းလာသော အကျိုးဆက်ပင် ဖြစ်ချေ၏။ ဝေးလံခြင်း၊ နံရံ စသည်ဖြင့် ကွယ် နေခြင်း အလွန်သေးငယ်ခြင်းရှိသော အဆင်းရုပ်တို့ကိုလည်း မြင်သိနိုင်စွမ်းရှိ၏။ အလွန်တိုးတိုးသာ ရှိလှသော ညှင်းညှင်းသံလေးကိုပင် ကြားသိနိုင်စွမ်း ရှိချေ၏။ ထိုသို့ဖြစ်ရန်မှာ ကုသိုလ်စေတနာ အလွန်ကြည်လင်တောက်ပနေမှသာ ရနိုင်၏။

ကိလေသာအငွေ့အသက် တစ်စက်ကလေးမှမရှိသော စေတနာမျိုးမှ တတ်နိုင်ချေ၏။

နတ်တို့သည် ထိုမျက်လုံးအစုံ၊ နားအစုံများဖြင့် လူ့ပြည်သို့ အမြဲ အကဲခတ်၍ နေလေ့ရှိ၏။ ဘာလုပ်နေကြလေသနည်း၊ ဘာဖြစ်နေကြလေသနည်း ဆိုသော အချက်ကို -

အကယ်တိတိ လူ့ပြည်ဝယ် အကျင့်ဆိုးများ လွန်စွာ သောင်းကျန်းလာသဖြင့် ကံဆိုးမိုးမှောင်ကျတော့မည်ဆိုလျှင် ကောလာဟလအမျိုးမျိုး ဖန်ဆင်းကြွေးကြော်လျက်က ထိုအကုသိုလ် ကံအကျိုးဆက်ထဲ ကုသိုလ်ကံသမားတို့ မကျရောက်စေရန် နှိုးဆော်ပေးကြလေကုန်၏။ အကုသိုလ်သမားတို့ သတိပြန်လည်လာကာ ကုသိုလ်ဘက်သို့ လက်ဆက်ရန်ကိုသော်လည်း နှိုးဆော်ပေးကြလေကုန်၏။

အကယ်တိတိ လူ့ပြည်ဝယ် အကျင့်ကောင်းများ ပေါ်ထွန်းလာတော့မည် ဆိုလျှင်လည်း ထိုနည်းမခြားပင် လူ့ပြည်သို့ ဆင်းသက်ကာ ထိုကံကောင်းကို လက်မလွတ်စေရန် နှိုးဆော်ပေးကြကုန်၏။ ဒေဝကောလာဟလ အမျိုးမျိုးတို့ကို လွှင့်ပေးကြလေကုန်၏။

ကမ္ဘာကြီး ပျက်တော့မည်ကိုလည်း နတ်တို့သာ အစင်းသိ၏။ ဘုရား ပွင့်တော့မည်ကိုလည်း ထိုနတ်တို့သာ အတွင်းသိ၏။ ထိုနတ်တို့က ကြွေးကြော်ပေးမှသာ လူတို့ သိခွင့်ရချေ၏။ နတ်သည် လူတို့၏ ရှေ့ဆောင်တည်း။ သတ္တဝါအပေါင်းတို့၏ သခင်တည်း။

တစ်ဖန်လည်း လူ့ပြည်အကြောင်းတို့ကို အောက်,အောက်နတ်များ ဖြစ်ကြသော စတုမဟာရာဇ်နတ်တို့နှင့် နတ်သဘင်အစည်းအဝေး ထိုင်ကြကာ စုံစမ်းမေးမြန်းကြရချေ၏။ ထိုစတုမဟာရာဇ်တို့ကလည်း ၎င်းတို့လက်အောက်ရှိ ကိုယ်စောင့်နတ်၊ အိမ်စောင့်နတ်၊ မြို့ရွာစောင့်နတ် စသည့် အဆင့်ဆင့်သော နတ် တို့ကို အထောက်တော်ထားကာ လူတို့၏ ကောင်းမှု၊ မကောင်းမှု အမှုအကျင့် အခြေအနေအရပ်ရပ်တို့ကို ရယူချေ၏။

ဤသို့ဖြင့် နတ်တို့သည် လောကပါလခေါ် လူတို့ကို စောင့်ရှောက်ကြရကုန်၏။ ထိုသို့ လူတို့အား စောင့်ရှောက်တတ်သောကြောင့်ပင် နတ် ဟူသော အမည်ထူးကို

ခံယူကြလေကုန်၏။ ထိုသို့ လူအမျိုးမျိုး၊ ယုံကြည်မှု အထွေထွေတို့ဖြင့် ရှုပ်ထွေးပွေလီမ်လှသော လူတို့ကို စောင့်ရှောက်နိုင်စွမ်းရှိသော ကံအရှိန်မျိုးသည် သာမန်မျှသော စွန့်လွှတ်မှုမျိုး၊ လှေ့ကျင့်မှုမျိုးတို့ဖြင့် မရနိုင်၊ မရောက်နိုင်သည်ကို အထူးသတိပြုသင့်ချေ၏။

မိမိနှင့်အတူနေ သား၊ မယားတို့၏ ယုံကြည်မှုကိုပင် မခံရသော ကိုယ်ကျိုးစွန့်မျိုး အကျင့်မျိုးတို့ဖြင့် မဖြစ်နိုင်သေး။ မိမိရပ်ရွာရှိ မိမိနေအိမ်၏ အရှေ့ခုနစ်အိမ်၊ အနောက်ခုနစ်အိမ်လောက်ကမှ မယုံကြည်သေးသော (စိတ်မချသေးသော) စွန့်လွှတ်မှုမျိုး အကျင့်မျိုးများဖြင့်လည်း မဖြစ်နိုင်သေးချေ။

စင်စစ် မိမိ၏ စွန့်လွှတ်မှုသည် ဆင်းရဲသားတို့ အားထားရာ ထမင်းရှင်အဖြစ်သို့ ရောက်စေပြီး မိမိ၏ ဂုဏ်သတင်းအရပ်ဆယ်မျက်နှာတို့သို့ ပျံ့သင်းစေသော စွန့်လွှတ်မှုမျိုးသည်သာ အများတို့အားထားရာ နတ်အဆင့်သို့ တက်နိုင်ချေ၏။

မိမိ၏အကျင့်သည်လည်း မိမိကို မြင်သည်၊ ကြားသည်နှင့် အများတို့မကြောက်ရွံ့စေသော (အများတကာတို့ စိတ်ချလက်ချနေနိုင်သော) ကိုယ်နှုတ်ကြမ်းတမ်း၊ စိတ်သရမ်းတို့ကို ချိုးနှိမ်ထားပြီး မိမိ၏ဂုဏ်သတင်း အရပ် ဆယ်မျက်နှာ တို့သို့ ပျံ့သင်းစေသော အကျင့်မျိုးဖြစ်မှသာ အများတို့ယုံကြည်ရာနတ်အဆင့်သို့ တက်နိုင်ချေ၏။

ဤ၌ ဦးမာဃနှင့် အပေါင်းပါ သုံးဆယ့်သုံးယောက်တို့၏ အကျင့်ကို စံနမူနာ ယူကြည့်။ ဦးမာဃသည် အစက သူလိုကိုယ်လိုပင် ဖြစ်၏။ မစလရွာ၌ စည်းဝေးပွဲလုပ်လျှင် ရွာလယ်ခေါင်အရပ် မြေကွက်လပ်မှာပင် စည်းဝေးကြရရာ ဦးမာဃသည် မိမိထိုင်ရန် ခြေဖြင့် နေရာကို ရှင်းလင်း၏။ တစ်ယောက်ကလုရ၍ ဝင်ထိုင်ချေ၏။ စိတ်မဆိုး။ နောက်တစ်နေရာရှင်းက နောက်တစ်ဦးကလည်း ဝင်ထိုင်ပြန်ချေ၏။ စိတ်မကွက်။ ထို့နောက် ... ထို့နောက် နေရာရှင်းတိုင်း တစ်ဦးပြီးတစ်ဦး လုယက်ကာ ဝင်ထိုင်ကြရာ စိတ်မပေါက်သည့်ပြင် ယုံစိတ်ပင် ပေါက်ချေ၏။

အကောင်းဆို လူတိုင်း ကြိုက်တတ်သကိုး။

ထို့နောက် ရက်များတွင်ကား စည်ဝေးမည်ဆိုလျှင် မစည်းဝေးခင်ကပင် ကြိုတင်ကာ တံမြက်စည်းလှည်းပေးထားပြီး ဖြစ်၏။ နောက်သော် မဏ္ဍပ်၊ ထို့နောက် တဲ၊ ထို့နောက်တွင်ကား အဆင့်ဆင့် အများအကျိုး တိုးမြှင့်ကာ အမြဲနေနိုင်သောအစည်းအဝေးဇရပ်ကြီးအထိ ထူထောင်ပေး၏။ လမ်းသွားလျှင် ခြေခင်းလက်ခင်းသာစေရန် မြေဖို့၊ မြေညှိ လုပ်ပေး၏။ ချိုင့်တွေ့လျှင်ဖို့၊ တောင်ပို့ ဖြစ်လျှင် ဖြို၊ နဂိုဆိုက မြက်ရှင်း၊ သဲခင်း စသည်ဖြင့် အများအကျိုး သည်ပိုး ဆောင်ရွက်ချေ၏။ ထိုအခါ အတူနေတို့ကား ဘာလုပ်တာလဲ မေး၏။ နတ်လမ်း ဖောက်တာပါဟုသာ ဖြေ၏။ အားလုံးက သူ့အကျင့်ကိုယုံ၊ သူ့ကိုချည်းပုံကြရာ နောက်ဆုံးလက်ညီတက်ညီဖြင့် အများအကျိုး သယ်ပိုးကြ၏။ အများ ချမ်းသာစေရန် ရည်၍လည်း –

ငင်းတို့အားလုံး မိအိုဖအိုများ လုပ်ကျွေးပါမည်၊ သားမယားတို့အား တရားသဖြင့် ရှာကြံကျွေးမွေးပါမည်၊ သူ့အသက် သတ်ခြင်း၊ သူ့ဥစ္စာ ယူငင်ခြင်း၊ သူ့မယား ကျူးလွန်ခြင်းများ လုံး၀ လက်ရှောင်ပါမည်၊ အချင်းချင်း မကျေနပ်ချက်တွေ့က ဆွေးနွေးတိုင်ပင်ခြင်းဖြင့် ကျေအေးပါမည်ဟူသော ကတိတို့ဖြင့် အသက်ထက်ဆုံး ပြုကျင့်ကြချေ၏။

ငင်းတို့သေလွန်သောအခါ ဦးမာဃသည် နတ်တို့၏နတ် ဖြစ်လာပြီး၊ ကျန်တို့ကား လူတို့၏ နတ်ဖြစ်ကြရချေ၏။ ဦးမာဃသည် နတ်တို့၏ ယုံကြည်အားကိုးရာ (လူတို့ကပါ ယုံကြည်အားကိုးရာ) ဖြစ်သောကြောင့် နတ်တို့၏နတ်၊ သို့မဟုတ် နတ်ဘုရာကြီး ဖြစ်ရ၏။ ကျန်နတ်တို့ကား လူတို့၏ အားကိုးရာ၊ လူ့အကျိုးကို အကျိုးပြုစေနိုင်သော နတ်အဖြစ်သို့ ရောက်ကြရချေ၏။ ထိုစေတနာတို့ကို ထောက်ဆလျှင် ဒါနမှု၊ သီလမှုတို့သည် အများတို့ကောင်းစေသည့် မိမိကောင်းကျိုး ပြုကျင့်ရမှု ဟူ၍ တထစ်ချမှတ်ပါလေကုန်။

# ၄။ မင်္ဂလာနှင့်စပ်ဆိုင်သောစကား (မင်္ဂလပဏှသံယုတ္တကထာ)

တက်လမ်းရှာအပေါင်းတို့ -

နတ်၏အဖြစ်သည် ဒါနမှု၊ သီလမှုတစ်ခုကောင်းဖြင့်သာ ရစေသဖြင့် ကာမဝဋ်မှ မလွတ်သေး။ ကာမဝဋ်မှ မလွတ်သေးသော် ကာမစည်းစိမ် ခံစားရာမှ အကြိုက်မိုးမွှန် နယ်ကျွံသဖြင့် ကျရသော အပါယ်လေးဘုံတို့မှလည်း မလွတ်သေးချေ။ ကောင်းကျိုးကို ခံစားနေရသော်လည်း ကောင်းကျင့်စစ်စစ်ကား ခြေမပေါ်သေးချေပြီ။

မကောင်းကျင့်ဟူသည် မိမိ၏ ကာမအတွက်နှင့် သူတစ်ပါးသို့ သံယောဇဉ်များဖြင့် ချည်နှောင်ပတ်ဖွဲ့ကာ ဖျက်ဆီးနှိပ်စက်ခြင်းပင်။

ကောင်းကျင့်ကား ထိုမှပြန်လှန်၍ မိမိကာမအတွက်နှင့် သူတစ်ပါးသို့ သံယောဇဉ်များဖြင့် ချည်နှောင်တုပ်ဖွဲ့ထားရာမှ မိမိရစ်ပတ်ထားသော သံယောဇဉ်ကြိုးကို ဖြေချပေးကာ သွားလိုရာသွားပါစေ ဆန္ဒဖြင့် ခွင့်လွှတ်ခြင်းပင်။

သို့ကြောင့် နတ်၏အလားသည် ဒါန၊ သီလကောင်းတစ်ချက်ဖြင့် တစ်ဖက်သို့ ပစ်ဖမ်းခြင်းသာဖြစ်၍ ကောင်းလျက်နှင့် မကောင်းသာ ဖြစ်သေး၏။ တစ်ဦးနှင့် ရစ်ပတ်ထားသော ချစ်ခင်တပ်မက်စိတ်ပြင်းထန်မှုများ၊ အလိုမကျစိတ်ပြင်းထန်မှုများ၊ ငါပြီး ငါပိုင် စိတ်အားကြီးမှုများတို့ အထပ်ထပ်အလိမ်လိမ်ဖြစ်နေကြသဖြင့် သူသည် ကိုယ့်အောက်မှ ရုန်းမထွက်သာဘဲသို့ ကိုယ်သည်လည်း သူ့အထက်မှ မဆင်းသော အခြေသို့ ဆိုက်လာခဲ့ချေ၏။ စားစား၊ သွားသွား၊ နားနား၊ နေနေ သူသည် ကိုယ့်စိတ်နှင့်သာ နေရပြီး၊ ကိုယ်သည်လည်း သူ့စိတ်နှင့်သာ အသက်ရှင်ရချေ၏။ ထိုရစ်ပတ်မှုတို့ တင်းကြပ်လာသော် နှစ်ဦးစလုံးပင် အလုံးလိုက် အထွေးလိုက်ကြီး အောက်သို့ပင်ကျရန်မှာ သေချာပေါက် ဖြစ်ချေ၏။ ကျလည်း ကျခဲ့ဖူးပေါင်း များလှချေ၏။

မင်္ဂလာကျင့်သည်ကား ထိုသို့မဟုတ်ဘဲ ဆန့်ကျင်ဘက်သည်သာ ဖြစ်ချေ၏။ ရန်သူဝိုင်းထားရာမှ ထွက်ပေါက်ပြသော မိတ်ကောင်းတစ်ယောက်ကဲ့သို့ မစင်လူးပေနေရာ ဆေးကြောရန် ရေစင်တစ်ခွက်ကဲ့သို့၊ အနာရောဂါ ဖိစီးနေရာ သောက်သုံး

ရသော ဆေးတစ်ခွက်ကဲ့သို့ ကိလေသာအပူစေးကို ရေပေး၍ ခွာချပစ်တတ်ချေ၏။ နှောင်ကြိုးကို ဖြတ်တောက်၍ ပြေစေ၏။ မျက်စိလည်လမ်းများကိုလည်း လမ်းမှန်သို့တက်၍ မျက်စိလည်ပြေစေ၏။

ထိုမဂ် (ကိလေသာရန်သူများကို သတ်ဖြတ်လျက်က သွားရာလမ်း)ကို ပိုင်ပိုင်ဆိုင်ဆိုင် လက်ကိုင်ရမိထားသောသူသည် အကြွေးတစ်ခု အကျေအလည် ဆပ်ပြီးသွားသူသည် ထိုအကြွေးရှင်များနှင့်တွေ့က မျက်နှာမပူရတော့ဘိသို့ ထောင်မှ လွတ်မြောက်ပြီး သွားသူသည်လည်း ထောင်ကိုလည်းကောင်း၊ ထောင်မှူး၊ ထောင်ပိုင်များကိုလည်းကောင်း၊ ထောင်ကြပ်၊ ထောင်စောင့်များကိုလည်းကောင်း တွေ့သော်လည်း မကြောက်၊ ချောက်သော်လည်း မလှုပ်၏သို့ အပါယ်ဘေးကြီးကိုလည်း မကြောက်တော့ပြီ။ အပါယ်သို့ ပို့လွှတ်တတ်သော ကိလေသာတို့၏ ဆူပူခြင်းကြောင့်လည်း မလှုပ်တော့ပြီ။ သို့ကြောင့် မဂ်ရပုဂ္ဂိုလ်သည် စကြာမင်းထက်လည်း အမြတ်သာ၏။ သိကြားမင်းထက်လည်း အစွန်းထွက်ပို၏။ တလောကလုံးကို အစိုးရသော ဗြဟ္မာ မင်းကြီးထက်ပင် အလေးသာသေး ဆို၏။ အဘယ့်ကြောင့်ဆိုသော် ထိုလူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းတို့သည် သူတစ်ပါးတို့အပေါ်မှာ မင်း၊ မိမိကိုယ်တွင်းရှိ ကိလေသာတို့အပေါ်မှာ ကျွန်ဖြစ်နေရသေးသဖြင့် ငိုတစ်လှည့်၊ ရယ်တစ်လှည့်မှ မကင်းကြသေး၍။

အို တက်လမ်းရှာ –

ထိုမဂ်စခန်းဖြင့် မဂ်ကုသိုလ်ကို ရယူလိုလျှင် –

ကာမကုသိုလ်များကိုလည်း ဉာဏ်မကျက်စားသောအားဖြင့် ရပ်တန့်ထားခဲ့စေချင်၏။ အဘယ့်ကြောင့်ဆိုသော် ကာမကုသိုလ်ပြုရာ၌ မိမိရှိ ကာမအလိုကို နှိုးဆွပေးရခြင်း၊ ဝတ္ထု၌ ကပ်နေသော ကာမအလိုကို ခြစ်ထုတ်ရခြင်း၊ အလှူခံရှိ ကာမအလိုကို ခြစ်ထုတ်ရခြင်း၊ အလှူခံရှိ ကာမအလိုကို နှူးပေးရခြင်းများကို အရင်းတည်ထားရသဖြင့် အပွေါ်သုက္က (ကြောင့်ကြမဲ့ကို) မရနိုင်သောကြောင့်။

ဈာန၊ ကုသိုလ် (ရူပကုသိုလ်၊ အရူပကုသိုလ်)များကိုလည်း ဈာန် မလွတ်ကင်းသော်လည်း ဈာန်ပေါ်သို့ (အာရုံစိတ်) မနင်းသောအားဖြင့် ဖြတ်တောက်ထားခဲ့စေချင်၏။

အဘယ့်ကြောင့်ဆိုသော် ဈာနကုသိုလ်ပြုရာ၌ ဈာန်ရှုရာ၊ ဈာန်ဝင်စားရာ ကသိုဏ်းကွက်စသည်သို့ စိတ်ပို့လွှတ်ထားရခြင်း၊ ထိုပြင်ပအာရုံ၌သာ ဉာဏ်ကျက်စားရခြင်းများကြောင့် ခန္ဓာဖြစ်စဉ်များနှင့် မနီးစပ်လေ၍။

စင်စစ် ထိုကာမကုသိုလ်၊ ရူပကုသိုလ်တို့သည် ကာမရာဂနှင့် ရူပရာဂတို့ ကြီးပွားတိုးတက်ရန် ဖွဆေး၊ ဆွဆေးများသာ ဖြစ်ကြချေ၏။ ရောင်စုံ ခြယ်သထားသော ကော်ရုပ်လေးကို ပြင်ပမှငေးမောကြည့်ကာ သွားရည်ယိုလက်ယားနေသော ကလေးပမာ၊ ကာမအာရုံနှင့် ဘဝအာရုံတို့၏ အပြင်အဆင်၊ အမွှမ်းအမံတို့ကို ကြည့်လျက်က သာယာနှစ်သက် တပ်မက်စိတ်များ တိုးပွားရန်မျှသာ ဖြစ်ချေ၏။ ထိုကုသိုလ်နှစ်မျိုးစလုံး၊ ပြင်ပကိုသာ အာရုံပြုရသဖြင့် ခန္ဓာ၏ ရုပ်၊ နာမ်ဖြစ်ပျက်တို့ကို မမြင်နိုင်သေး။ ကာမကုသိုလ်သည် သက်ရှိ၊ သက်မဲ့ဖြစ်သော ဝတ္ထုနှင့် ပုဂ္ဂိုလ်များသို့ လိုက်လံ၍ ဆက်ဆံရပြီး ရူပကုသိုလ်တို့ကား ကသိုဏ်းကွက် စသည့် သက်မဲ့များသို့ လိုက်လံကာ ဆက်ဆံနေရဆဲ ဖြစ်၏။

– မဂ်ကုသိုလ်ကား ထိုသို့ မဟုတ်ပြီ။ စိတ်သည် မိမိကိုယ်ပေါ်မှာသာ ရှိရပြီး အာရုံသည်လည်း မိမိကိုယ်ပေါ်မှပင် ရယူခံစားရချေ၏။

– တစ်ဖက်အာရုံတို့က လာရောက်တိုက်ခိုက်သော်လည်း မိမိကိုယ်ပေါ်မှာသာ စိတ်မေးတင်လျက်က သတိမပြတ် ရှုမှတ်ဆင်ခြင်ရချေ၏။

– တစ်ဖက်အာရုံတို့သို့ သွားရောက်ညှို့ယူသော်လည်း မိမိကိုယ်ပေါ်မှာသာ စိတ်မေးတင်လျက်က သတိမပြတ် ရှုမှတ်ဆင်ခြင်ရချေ၏။

– ထိုအာရုံတို့၏ တိုက်ခိုက်မှုကြောင့် မိမိ၏ကိုယ် ဖောက်ပြားနေခြင်း၊ သို့မဟုတ် အပြင်ဧည့်သည်အာရုံနှင့် အတွင်းအိမ်ရှင်ကိုယ်တို့ အချိန်းအချက်ပြုကာ ဖောက်ပြားနေကြပါသည်ကို မိမိစိတ်က ချောင်းမြောင်းကြည့်၍ အသိပေးခြင်းတို့ကို ဆင်ခြင်ဉာဏ်ဝင်၍ ခံစားရာ၌ မှတ်ချက်ထားပေးရခြင်း၊ အမှတ်အသားပြုရာ၌ မှတ်ချက်ထားပေးရခြင်း၊ အပေးအယူ ပြုလုပ်ကြရာ မှတ်ချက်ထားပေးရခြင်း၊ အစွဲထားရာ၌ မှတ်ချက်ထားပေးရခြင်းများဖြင့် ခန္ဓာ၏ အပြစ်ကို လည်းကောင်း၊ ကာမ၏ အဖြစ်၊ ဘဝ၏အပြစ်များကို လည်းကောင်း ဖော်ထုတ်ပေးသော

ကုသိုလ်ပင် ဖြစ်ချေ၏။ ကာမ၏ ဘဝအပြစ် အကုသိုလ်ကင်းသော ကုသိုလ်စစ်စစ်ပင် ဖြစ်ချေ၏။

ဤသို့ ခန္ဓာအား သုဘထင်မှ အသုဘအပြင်သို့ ရောက်စေပြီးနောက် (မိမိကိုယ် မိမိချစ်နေသော တဏှာကို အပိုးကျိုးပြီးသည့်နောက်) မှ ခန္ဓာရှိ ရုပ်၊ နာမ်တို့၏ ဖြစ်ပျက်ကို ကြည့်ရာ၏။ ခန္ဓာရှိ ရုပ်၊ နာမ်တို့၏ ဖြစ်ပုံ၊ ပျက်ပုံကိုလည်း ကြည့်ရာ၏။ ဖြစ်ပျက်မြင်၌ သမာဓိတည်ရုံမျှဖြစ်ပြီး ဖြစ်ပုံ၊ ပျက်ပုံမြင်မှ ရုပ်ကွဲ၊ နာမ်ကွဲ စသည့် ဉာဏ်စခန်းသို့ တက်နိုင်ချေ၏။

- တရားသူကြီးသည် အမှုလမ်းစပေါ်ရုံမျှဖြင့် သေဒဏ်မပေးနိုင်။
- သုတေသနမှူးသည် ဝတ္ထုတစ်ခုကို အဖြေမှန်လမ်းစ ပေါ်ရုံမျှဖြင့် ကိစ္စမပြီးစေနိုင်။

အစ၏ ဆုံးခြင်းကိုလည်းကောင်း၊ အဆုံး၏ ပြန်စခြင်းကိုလည်းကောင်း၊ ခေါက်ချိုးခေါက်ပြန် အလှန်လှန်အပြန်ပြန် စစ်ဆေးလျက်က ဦးစွာ ဖြစ်စုထင်ရခြင်း၊ ကွင်းဆက် ကျေးဇူးပြုနေခြင်း၊ လက္ခဏာပေါ်ခြင်း၊ ဖြစ်ပျက်မြင်ခြင်းတို့ဖြင့် သာယာညှင်းပြောင်း အကောင်းပိုင်းများကိုလည်း ရေရေလည်လည် စေ့စေ့စပ်စပ် သုံးသပ်ထားခဲ့ပြီး ရှေ့ဆက် မှတ်တမ်းတင်ရချေ၏။

အလယ်ပိုင်းတို့၌ ပျက်စုထင်ခြင်း၊ ကြောက်မက်ဖွယ်ဘေးဟု မြင်ခြင်း၊ အပြစ်ကို မြင်ခြင်း၊ အပျက် လက်ဆက်နေရသဖြင့် ငြီးငွေ့လာခြင်းတို့ဖြင့် ပျင်းရိခြောက်သွေ့၊ ဆွေ့ဆွေ့ခုန်အပိုင်းများကိုလည်း ရေရေလည်လည် စေ့စေ့စပ်စပ် သုံးသပ်ထားခဲ့ပြီး ရှေ့ဆက် မှတ်တမ်းတင်ရချေ၏။

အဆုံးပိုင်းတို့၌လည်း ပျက်စုမှ လွတ်မြောက်လိုခြင်း၊ လက္ခဏာတင်၍ ရှန်းထွက်ခြင်း ဖြစ်စုပျက်စုနှစ်ခုလုံးကိုပင် မမျှော်ခြင်းများတို့ဖြင့် ပျော်ရွှင်ချမ်းမြေ့ဘာကိုမျှ မအောက်မေ့သော အပိုင်းများကိုလည်း ရေရေလည်လည် စေ့စေ့စပ်စပ် သုံးသပ်ထားခဲ့ပြီး ဖြစ်၍ ဤ၌ စီရင်ချက်ချမှတ်ရန်သာ (သို့မဟုတ်) အကောင်အထည်ဖော်ရန်သာ ကြိုးစားရချေတော့၏။ တရားသူကြီးမင်း၏ အမိန့်သံမျိုးသာ ဤ၌ လိုအပ်ချေတော့၏။

– လက်ဝယ်ရှိ မိနေသော ရုပ်၊ နာမ်တို့၏ ဖြစ်ပျက်ကို မယှက်မလှူပ်၊ ငုတ်တုတ်ထိုင်စေ၍၊

– ထိုရုပ်၊ နာမ်တို့၏ ဖြစ်ပျက်ပေါ် လက္ခဏာစု တစ်ခုခု တင်ထား၍၊

– ထိုလက္ခဏာတို့၏ ချုပ်ပြတ်မှုပေါ်သို့ သတိကို စိုက်ချထား၍၊

– ထိုသတိ စိုက်ချထားရာသို့ အသိကို မြဲမြဲစွာ ချဉ်းကပ်ထား၍၊

ဖြစ်ပေါ်တိုးတက်လျက်က တဖွားဖွား ချုပ်ပျောက်နေကြသော ရုပ်၊ နာမ်အစုံကို လည်းကောင်း၊ ပျက်ကျ ဆုတ်ယုတ်လျက်ကလည်း တလှူပ်လှူပ် ချုပ်ပျောက်နေကြသော ရုပ်၊ နာမ်အစုံကို လည်းကောင်း၊ မြေတစ်မှုန့်ချင်းကို ဈာန်ယဉ်သွင်းကာ ရေတွက်နေခြင်းမျိုးကဲ့သို့ တိုး၍တိုး၍ ရှုကြည့်နေရင်းမှ ဖြစ်ပျက်ကြည့်လျက်က ဖြစ်ပျက်မရှိဘက်သို့ အသိစိတ် ကူးထွက်သွားချေတော့၏။ ကြည်စိတ်သည် ထို့ထက် ကြည်သို့ ထိုးတက်လာပြီး တည်စိတ်သည်လည်း ထို့ထက် တည်သို့ ထိုးတက်သွားချေတော့၏။ စူးစိုက်စွာ မြှုပ်နှံထားသော သတိနှင့် အသိတို့၏ အတွင်းသားလှိုက်၍ ဖော်ထုတ်ပေးခြင်းကြောင့် ငုပ်ကောင်များဖြစ်သော အမှု၏ လက်သည်တရားခံအစစ်များသည်လည်း သေစားသေစေ ဟူသော အပြစ်ဒဏ်ကို ချမှတ်ခြင်းခံကြရကာ အဆုံးသေဘဝဖြင့် သေဆုံးကြရချေတော့၏။

ပဌမမဂ်ဖြင့် ငါးစွဲဒိဋ္ဌိနှင့် ရတနာသုံးပါးအပေါ် ယုံမှားမှုတို့ကို သတ်ဖြတ်၍ ထိုရန်မှအေးသဖြင့် ခံစားရသော အငြိမ်းဓာတ်၊ အအေးဓာတ်တို့ကို ခံစားခွင့်ရစေ၏။

ဒုတိယမဂ်ဖြင့် ကြိုက်စွဲ၊ မကြိုက်စွဲနှစ်ပါးတို့ကို အခြေယိုင်စေ၏။ ထိုအခြေယိုင်၍ ထိုရန်မှဝေးသဖြင့် ခံစားရသော အငြိမ်းဓာတ်၊ အအေးဓာတ်တို့ကို ခံစားခွင့်ရစေ၏။

ထိုမဂ်ကုသိုလ်နှစ်မျိုးတို့သည် အကျင့်မှန်ရုံမျှဖြင့် (သီလစင်ကြယ်ရုံမျှဖြင့်) ရောက်နိုင်ကြသော ကုသိုလ်မျိုးဖြစ်ရကား တစ်ခုကျမိလျှင် နောက်တစ်ခု ဆက်လက်ကျရောက်ရန် မခဲယဉ်းပြီ။ ရှုမှတ်မှုအကျင့်ကို တစ်စိတ်တည်းထား၍ ကျင့်သဖြင့် ရနိုင်သော မဂ်ကုသိုလ်မျိုးများ ဖြစ်ကြသဖြင့် လက်လွှတ်မြားကဲ့သို့ တဟုန်ထိုး ကြိုးစားကြပါလေကုန်။

# ၅။ ကာမပြစ်မှုနှင့်စပ်ဆိုင်သော စကား (ကာမာနံမာ ဒိနဝပင္ခ်ိသံယုတ္တကထာ)

တက်လမ်းရှာအပေါင်းတို့ –

သောတာပန်၏အဖြစ်ကား မိမိက သူတစ်ပါးအပေါ်သို့ စော်ကားလိုစိတ် မရှိသော်လည်းပဲ သူတစ်ပါး တက်ရောက်စော်ကားသည်ကို အသာတကြည် လက်သင့်ခံနေရဆဲ ဖြစ်၏။

မိမိသာ အပါယ်ကို ချလွှတ်တတ်သည့် အကုသိုလ်စေတနာမျိုး မရှိတော့ သော်လည်း မိမိနှင့် ပေါင်းသင်းလေသူကို အပါယ်ဘေးမှလွတ်အောင် မစည်းရုံး နိုင်သေး။

ရာဇဂြိုဟ်သူဌေးသမီးသည် အပျိုစင်ဘဝနှင့်ပင် သောတာပန် တည်လာခဲ့ ချေ၏။ သို့တစေလည်း သောတာပန်သည် လေးဘက်သွားလွတ်သော်လည်း နှပ် မစင်သေးရကား။ ကဿပဘုရားရှင်လက်ထက်တုန်းက လင်တော်ခဲ့ဖူးသော တော လိုက်မုဆိုးကို မြင်ကာမျှဖြင့် တန်းတန်းစွဲဖြစ်ကာ မယားအဖြစ် လက်ခံရန် တောင်းပန်ပြီး လင်၏ ဖျက်ဆီးမှုကို ခံရရှာ၏။ လင်ဖျက်ဆီးသဖြင့် စိတ်နွမ်း၍ ကိုယ်ကျေဘဝသို့ ရောက်ခဲ့ရချေ၏။ သားသုံးယောက်အထိ မွေးဖွားပေးရချေသေး၏။ လင်သွားလျှင် အဆင်သင့်စေရန် အဆိပ်လူးမြား၊ လေးနှင့် ဓားတို့ကိုလည်း အဆင်သင့် ထားပေးရချေသေး၏။ လင်ရှာဖွေသဖြင့် ရရှိလာသော သမင်စသည့် သားကောင်သေများကိုလည်း ဖျက်ဆီးရောင်းချပေးရချေသေး၏။

စင်စစ် သောတာပန်၏အဖြစ်သည် ကာမရမ္မက်၏ ထိုးနှက်ဖျက်ဆီးခြင်းကို အာခံ အံတု၍ မတော်လှန်နိုင်သေးချေပြီ။ ကာမတစ်ကွက် မက်မက်မောမော သဘောကျဆဲသာ ဖြစ်သဖြင့် လင်ပုထုဇဉ်၏ ကြီးမားသော ရမ္မက်ဒဏ်ကို အလူး အလဲ ခံရဆဲပင် ရှိချေ၏။ လင်၌ ရစ်ပတ်ဖွဲ့ချည်ထားသော မိမိ၏ နှောင်ကြိုး

ကိုလည်း ဖြုတ်ပယ်၍ မပေးနိုင်သေး။

ပင့်ကူကြီးသည် ကွန်ရက်ကိုဖန်ဆင်းကာ သားကောင်တို့ကို ထောင်ဖမ်း၏။ မိလာသော် နှောင်ကြိုးများစွာတို့ဖြင့် ရစ်ပတ်တုတ်နှောင်ကာ ထိပ်ကိုဖောက်၍ ဦးနှောက်ကို စုပ်ယူစားသောက်ဘိသို့။

သောတာပန်၏ အဖြစ်သည်လည်း ပင့်ကူဘဝမှ မကင်းသေးချေ။ တစ်ဖက်သားကို မိမိအာရုံကြိုးများစွာတို့ဖြင့် ထောင်ဖမ်းကာ သံယောဇဉ်ကြိုးများဖြင့် တုပ်နှောင်၍ အာရုံခံစားဘိသို့ တစ်ဖက်၏ ထောင်ချောက်ကိုလည်း အသာတကြည် တိုးဝင်တတ်သေး၏။ တစ်ဖက်သို့ ကာမစည်းစိမ် ရက်ရက်ရောရော သုံးစေဘိသို့ မိမိလည်း ကာမစည်းစိမ်ကို မြိန်မြိန်ယှက်ယှက် တောင်းယူခံစားတတ်သေး၏။

ထိုကာမတစ်ကွက်ဖြင့်ပင် မိမိဘဝကို အဖျက်ဆီးခံရခြင်း၊ လူမှုဒုက္ခအဝဝတို့ကို ခါးစည်းခံရခြင်း၊ သားကျွန်၊ လင်ကျွန်ဘဝဖြင့် အနင်းခြေခံရခြင်းမှ မကင်းတတ်သေး။

တစ်ဖန် သောတာပန်၏အဖြစ်သည် မိမိသာ အပါယ်မှ အလွတ်ရုန်းနိုင်သော်လည်း မိမိအား စပ်ယှက်နေသော လင်သားကိုကား အပါယ်မှ လွတ်ကင်းစွာ မကယ်တင်နိုင်။

ဝိသာခါ တုသိတာ သွားသော်လည်း မောင်ပုညကား တုသိတာ ပါမသွားပြီ။ ၎င်းတို့နှင့်ရသော သားဆယ်ယောက်၊ သမီးဆယ်ယောက် တို့သည် လည်းကောင်း၊ မြေးလေးရာတို့သည် လည်းကောင်း၊ မြစ်ရှစ်ထောင်တို့သည် လည်းကောင်း အသင်းလိုက်၊ အဖွဲ့လိုက် တုသိတာသို့ လိုက်ပါခြင်းမရှိပြီ။

တစ်ဖန် အနာထပိဏ် တုသိတာတက်သော်လည်း ဇနီးသည် ပုညလက္ခဏာ ဒေဝီကား တုသိတာသို့ လိုက်ပါသွားသည်ဟု မကြားမိ။ သို့ကြောင့် မိမိသာ သက်သာရာရသော်လည်း အတူနေတို့ကိုကား မသက်သာစေတတ်။ ဒဏ်ရာဒဏ်ချက်တို့ဖြင့် ကျန်နေရစ်တတ်၏။

- သောတာပန်၏ ကာမစိတ် ပူးဝင်နေချိန် ဖျက်ဆီးမိက တော်သေး၏။
- သောတာပန်၏ အရိယာစိတ်ဝင်နေချိန် ဖျက်ဆီးမှုက အထိနာဦးမည်။

ထိုအရိယာ၏ ဉာဏ်ကျက်စားချိန် မိမိအလိုသို့ ပါရန် မြှူဆွယ်ခြင်း၊ ထိတွေ့ပွတ်သပ်ခြင်း စသည်ဖြင့် ပြစ်မှားသော်မှ အကျင့်ပျက်စီးမှု (သီလညှိုးနွမ်းမှု) ကား မနေပြီ။ သို့ကြောင့် အရိယာကို လင်တော်၊ မယားတော်သူများအဖို့ အရိယူပဝါဒအန္တရာယ်မှ လွတ်ကင်းရန် ချက်ကောင်းစောင့်နိုင်မှ တော်ကာကျချေမည်။ ပုထုဇဉ်အချင်းချင်း သူလိုကိုယ်လို အတူတူအနူနူချင်းကဲ့သို့ နသိုးကြိုးပြတ်ကား မဖြစ်သင့်ချေ။ အရိယူပဝါဒအန္တရာယ်ဟူသည် အရိယာဇာတ်ဝင်သူတို့ကို မတော်မတရား စော်ကားပုတ်ခတ်ခြင်းကို ဆို၏။ ထိုသို့ ပုတ်ခတ်လေသူ ဈာန်၊ မဂ်တို့သို့ မရောက်စေ၊ မရစေနိုင် ဆို၏။ နှုတ်ဖြင့် စော်ကားရုံမျှဖြင့် ဤမျှကြီးလေးသေးလျှင် ကိုယ်ထိလက်ရောက်ကား မေးမနေသင့်ပြီ။

တစ်ဖန် ဗိမ္ဗိသာရ မင်းကြီး၏ သေခါနီးကာလ သားတော်အဇာတသတ်၏ ညှင်းဆဲခံရခြင်းများသည်လည်း သားတော်အပေါ် ချစ်မိသော ကာမအပြစ်ပင် ဖြစ်ချေ၏။

- သားတော်က နန်းစည်းစိမ်တောင်းလျှင် ကျေနပ်စွာ ပေးအပ်ရ၏။
- သားတော်က ထောင်သွင်းအကျဉ်းချထားသော်လည်း စိတ်မဆိုးမိ။
- သားတော်က အစာဖြတ်ထားသော်လည်း စိတ်မခုမိ။

ဤသို့ဖြင့် အဆင့်ဆင့် ဖဝါးများခွဲခံရသည်အထိ ညှင်းဆဲပါသော်လည်း စိတ်မဆိုးနိုင်ခြင်းများမှာ ကာမပြစ်၏ ရလာဒ်များချည်း ဖြစ်ချေ၏။ ချစ်နေသမျှ မုန်းစိတ်ဝင်ရန် ခဲယဉ်း၏။ ကြိုက်စိတ်ပြင်းနေသမျှ ကြောက်စိတ်ဝင်ရန်လည်း ခဲယဉ်းလှချေ၏။

- ခွေးတို့၏ မစင်ကို မရွံမုန်းခြင်းသည် ကြိုက်စိတ်ပြင်းနေသောကြောင့်၊
- ပိုးဖလံတို့၏ မီးကို မကြောက်ခြင်းသည်လည်း ယင်းကြိုက်စိတ်မွန်နေသောကြောင့်ပင်။

သားတော်အပေါ် သံယောဇဉ်ကြီးမားသလောက် သားတော်၏ဒဏ်ကို အလူးအလဲ ခံရရှာချေ၏။ သားတော်၏ ဖျက်ဆီးမှုဒဏ်သည် မိမိ၏ အတွင်းရှိကာ မ၏ ဖျက်ဆီးမှုဒဏ်နှင့် နှိုင်းဆလျှင် ဘာမျှ မပြောပလောက်သောအရာသာ

ဖြစ်ချေ၏။ ပြင်ပ၏ တိုက်ခိုက်မှုဒဏ်သည် ဖဝါးခွဲသော် ဖဝါးလောက်မျှ ဒဏ်ရာရစေ၏။ မိမိအတွင်းရှိ ကာမစိတ်၏ ထိုးနှက်မှုဒဏ်သည်ကား တစ်ကိုယ်လုံးလည်း သွက်သွက်ခါစေ၏။ စိတ်မှာလည်း စွဲကျန်နေရစ်တတ်၏။ ဘဝအဆက်ဆက် ကူးသည်အထိလည်း ဒဏ်ချက်ပြင်းစေ၏။

ဗိမ္ဗိသာရမင်းကြီး တစ်ဘဝကြွေ၍ တစ်ဘဝ ပြည်သို့ကူးရန် အာရုံယူသော ကာလတွင်လည်း ဝေဿဝဏ် နတ်မင်းကြီး၏ အစေခံ ဇဝနနတ်သား (ခြေမြန်တော်နတ်သား) အဖြစ်ဖြင့် ခုနစ်ကြိမ် ထမ်းဆောင်ခဲ့ရသော ကာမစိတ်ကို အာရုံမှားသဖြင့် ထိုဝေဿဝဏ် နတ်မင်းကြီး၏ အစေခံဇဝနနတ်သားဘဝသို့သာ တန်းမတ်စွာ ကျရောက်ရရှာချေ၏။ ကာမပြစ်ကား တွေးသလောက် ကြောက်စရာ ကောင်းလှ၏။

## ကာမပြစ်ကို လွန့်မြောက်စေနိုင်သော လက်နက်

အို တက်လမ်းရှာ –

အရိယာတစ်ဦး၏ ကာမပြစ်သော်မှ ဤမျှ ခံချက်နာရသေးလျှင် သင်၏ ကာမပြစ်ကား တွေးဝံ့စရာ မရှိပြီ။ တွေးတတ်လျှင်ပေါ်၍ ကျော်တတ်လျှင်လည်း လွတ်မြောက်တတ်ပါ၏။ အရေးကြီးသည်မှာ ကာမ၏ဂုဏ်ကို အာရုံမပြုဘဲ ကျော်တက်လျှင်လည်း လွတ်မြောက်တတ်ပါ၏။ အရေးကြီးသည်မှာ ကာမ၏ဂုဏ်ကို အာရုံမပြုဘဲ ဓမ္မဂုဏ်သို့ အာရုံပို့လွတ်တတ်ရန်သာ အရေးကြီး၏။ ကာမခံစားနေရင်းက ကာမ၏ဂုဏ်(သတ္တိ)မှာသာ စိတ်မျှောချမထားဘဲ ထိုကာမကြောင့် မိမိပျက်စီးနေသည်ကို လည်းကောင်း၊ ထိုကာမကြောင့် သူတစ်ပါးသို့ ဝင်ရောက်ပျက်ဆီးမိသည်ကို လည်းကောင်း ကြည့်တတ်ရန်ပင် ဖြစ်ချေ၏။

ထောင်မှလွတ်လိုသူသည် ထိုကျရောက်နေသော ထောင်မှပင် ဖောက်ထွင်း၍သော်လည်းကောင်း၊ ကျော်တက်၍သော်လည်းကောင်း လွတ်မြောက်စေရ၏သို့ ထိုကာမမှ လွတ်မြောက်လိုသူသည်လည်း ထိုကာမကို ခံစားလျက်ကလည်း ကာမ

မှ လွန်မြောက်စေနိုင်၏။ ထိုကာမကို ရှောင်လွှဲလျက်ကလည်း (ထောင်မကျရေး၊ ရာဇဝတ်ဘေးကို မပြုကျင့်ခြင်းဖြင့် ရှောင်ကွင်းရ၏သို့) ကာမမှ လွန်မြောက်စေနိုင်၏။

ထိုအဆင့်သည် ကျင့်မှု(သီလ)သက်သက်ဖြင့် မလုံလောက်ပြီ။ ကျင့်ရာနေရာ စားကျက်ထဲ၌ မြဲမြဲသောစိတ်ကို ချထားနိုင်မှသာ လုံလောက်နိုင်၏။ ကြီးမားသော မြေထုကို တသွင်သွင်စီးသောရေအားဖြင့် တိုက်စားက လွန်မြောက်ရ၏သို့ ကြီးမားလှသော ကာမစိတ်ကိုလည်း တရစပ် ကျရောက်စေသော တည်စိတ်ဖြင့်သာ ထိုးဖောက်နိုင်၏။

ထိုတည်စိတ်သည် စခန်းဝင်နေစဉ် အတောအတွင်းမှာသာ တည်နေပြီး စခန်းအပြင် ထွက်ခွာလာသည်နှင့် ပျံ့သွားသော်ကား မလုံလောက်သေး။ တစ်ဖန် ကမ္မဋ္ဌာန်းအလုပ် အဟုတ်အဟတ် ထိုင်နေဆဲအတွင်းမျှသာ တည်စေပြီး ထိုင်ရာမှ ထသောအခါ၊ ထရာမှ ရပ်သောအခါ၊ ရပ်ရာမှ သွားလာလှုပ်ရှားလာသောအခါ၊ သွားလာလှုပ်ရှားရာမှ ရပ်ခြင်း၊ ထိုင်ခြင်း၊ လဲလျောင်းခြင်းပြုလေသောအခါမျိုးတို့၌ စိတ်တခြား၊ ကိုယ်တခြား ဖြစ်နေသေးသော်ကား မလုံလောက်သေး။

တစ်ဖန်လည်း ခန္ဓာဝန်၊ ခန္ဓာ့ကိစ္စများ ဖြစ်သော စားသောက်ခြင်းအမှု၊ ရေချိုးခြင်းအမှု စသည်တို့၌ စိတ်လစ်လပ်နေပြန်လျှင်လည်း မရနိုင်သေးချေ။

ကာမစိတ်သည် ကမ္ဘာ့မြေ ခြေချစဘဝမှသည် ဖြစ်လေရာဘဝတိုင်းတို့၌ အမြဲ ယှဉ်တွဲပါဝင်နေသည့် ဖွားဘက်တော်မျိုးပင် ဖြစ်ချေရကား။ အနည်းငယ်မျှသော စိတ်၏ သိပ်သည်းမှုဖြင့် မရနိုင်ပြီ။ တစ်နေ့တာ၏ အချိန်ကို တွက်ချက်ကြည့်လျှင်လည်း မျက်စိနှစ်လုံးပွင့်စမှသည် ပိတ်ချိန်အထိ ကာမနှင့်သာ အသက်ရှင်နေရသောအချိန်က များချေ၏။ တစ်သက်တာ၏အရွယ်ကို တွက်ချက်ကြည့်ပြန်လျှင်လည်း မိခင်ဝမ်းဗိုက်က ကျွတ်ကတည်းက နို့တောင်း၍ ထွက်လာသည်သာ ဖြစ်ပြီး သေချိန် အထိ သူ့အရွယ်နှင့်သူ ကာမတလျက်ကသာ အသက်ငင်သွားရသောသူကသာ များချေ၏။ ကာမဗွက်ကျော် မတက်ရဲသဖြင့် အသက်စွန့်သွားရသည် ချည်းတည်း။

- ကိလေသာတို့တွင် ကာမတဏှာသည်သတ္တဝါတို့ကို အမြဲ စောင့်ရှောက် တတ်ချေ၏။
- သတ္တဝါတို့တွင် မိခင်၏မေတ္တာသည် အမြဲ စောင့်ရှောက်တတ်ချေ၏။

တဏှာသည် သတ္တလောကကြီးကို ဆောင်ကြဉ်း၏။ တဏှာသည် သတ္တလောကကြီးကို ဆွဲငင်ထား၏။ အရာအားလုံးတို့သည် တဏှာ့အလိုသို့သာ လိုက်ပါမြဲ ဖြစ်ချေ၏ ဟူသော ဘုရားစကားတော်သည် တဏှာသည် သတ္တဝါတို့၏ မိခင်ကြီးဟူ၍ ကင်ပွန်းတပ်ပေးခြင်းပင် ဖြစ်၏။ မိခင်သည် တိရစ္ဆာန်မိခင်ဘဝ၌ပင် သားသမီးများကို အစာရှာပေးကျွေးခြင်း၊ နို့တိုက်ခြင်း၊ ရန်သူဘေးမှ ကာကွယ်စောင့်ရှောက်ပေးခြင်း စသည်များဖြင့် မိခင်မေတ္တာ၏ အစွမ်းကို ပြသနိုင်ခဲ့ချေ၏။ ဖခင်သည်ကား ဘဝ အဆင့် မြင့်တက်လာသော လူ့ရင့်မာကြီးအဖြစ်သို့ ရောက်သော်မှလည်း မေတ္တာစိတ် အားကြီးသော ဖခင်ကား အနည်းအပါးမျှသာ ရှိချေ၏။ အပြင်မှနေ ရှာဖွေပေးရုံမျှသာ ပြုတတ်၏။ ချေးက၊ သေးကစ၍ မွေးမြူ သုတ်သင်ပေးပို့ရာ၌ကား နှာခေါင်း ရှုံ့တတ်သေး၏။ မိခင်ကဲ့သို့ အနွံ့အတာ မခံချင်တတ်ပြီ။

## သားရေတုံးနှင့် တူထုရသလို

ကာမတဏှာသည် မြေခဲ၊ ကျောက်ခဲတို့ကို တူနှင့် ထုချေရိုက်ခွဲရ၏သို့ အစိတ်စိတ်အမွှာမွှာ ကွဲသွားခြင်းမျိုး မရှိ။ သားရေတုံးကြီးကို ပေခုံပေါ်တင်လျက်က တူဖြင့် ထုနှက်ရသည်သို့ ထုလေလေ ကုန်းထလေလေသာ ဖြစ်၏။ အထုနာလျှင် အထသန်လာတတ်ချေ၏။ ရာဂစရိုက်အားကြီးသူဖြစ်လျှင် ရာဂသွေးများ ထကြွလာစေပြီး ကာမဝိတက်အမျိုးမျိုးတို့ကို တိုး၍တိုး၍ တွေးလာတတ်ချေ၏။ စရိုက်၏ လက်ငုတ်တို့သည် သဲပုံကို လေဖေ့၏သို့၊ ထုံးပုံပေါ် ခဲကျ၏သို့ ဖွားကနဲ တက်၍ ကွက်ကနဲ ပေါ်စေ၏။ မှတ်အားကြီးလေလေ အတွေးနက်လေလေ ဖြစ်လာတတ်၏။ တစ်ရက် ၂၄ နာရီလုံးလုံး တစ်ပတ်လုံးလုံးကြီးအထိ နက်ကျယ်တတ်ချေသေး၏။ မတွေးဖြစ်ရန် ရှုမှတ်သော် အမှတ်ကြားမှ တိုးထွက်လာတတ်

ချေ၏။

သာသနာ့ဝန်ထမ်း ရှင်ရဟန်းဖြစ်ပါက အပြင်ဝေနေယျာတို့သို့ မည်သို့မည်ပုံ သာသနာပြုချင်သည်ဟူသော ကာမတဏှာတို့သည် လည်းကောင်း၊ သာသနိက အဆောက်ဦကြီးများ မည်သို့မည်ပုံ ဖန်ချင်သည်ဟူသော ဘဝတဏှာတို့သည် လည်းကောင်း၊ သာသနာတော်ကြီးအား ကုလားဖြူ ကုလားမဲကြီးတို့ အမဲဖျက် သလို လက်ရဲဇက်ရဲ စော်ကားနေပါသည်ကို မည်သို့မည်ပုံ တွန်းလှန်ချေဖျက်၍ ဗမာ့သာသနာမှ ကမ္ဘာ့သာသနာအထိ ကြီးပွားတိုးတက်ရန် စွမ်းစွမ်းတမံ အားထုတ် ချင်သည်ဟူသော ဝိဘဝတဏှာတို့သည် လည်းကောင်း ငယ်ထိပ်သို့တက်၍ တည် စိတ်ကို ဝိုင်းဝန်းကာ ဖွဲ့စားကြချေကုန်၏။

ထို့ထက်ကဲသော ကာမဝိတက်များမှာကား မိမိ၏ စိတ်တန်ခိုးစိတ်သတ္တိ တို့ကို အစွမ်းကုန် အသုံးချ၍ အဘိညာဉ်များကိုလှုပ်နှိုးကာ အပြည်ပြည်တို့၏ ဦးညွှတ်ရာ ဘုရင်တစ်ဆူအဖြစ် မိမိကိုယ်မိမိ ဖန်ဆင်းကြည့်၏။ ထိုအတိုင်းတိုင်း အပြည်ပြည်တို့ရှိ တီထွင်ထားကြသော လက်နက်ဆန်းများစွာဝို့သည် မိမိ စိတ် လက်နက်ဆန်းကြီး၏ အောက်မှာသာ သက်မဲ့ဖြစ်နေပြီး ကမ္ဘာကြီးကို စိတ်ဖြင့် အုပ်ချုပ်နေ၏။ ထိုအတိုင်းတိုင်းအပြည်ပြည်မှ ဆက်သလာသော သတို့သမီးများစွာ တို့ကိုလည်း တိုက်ကြီးလေးတိုက်အလိုက် ၎င်းတို့၏ အလေ့အထ အစားအသောက်၊ ရာသီဥတုတို့နှင့် လိုက်ဖက်သော အဆောင်ကြီးဟောင်းများစွာဖြင့် သိမ်းပိုက်ထား မည့် ဝါဒသည် တစ်မျိုးတည်းဖြစ်၍ ဘာသာအယူသည် တစ်စားတည်း ဖြစ်စေရမည့် ဗုဒ္ဓ၏ အဆုံးအမတို့ကို စိတ်မနောအတွင်းသို့ ပညာဉာဏ်ဖြင့် အမြဲ ကိန်းတည် နေစေရန် ကျင့်ကြံစေမည် ဟူသော ကာမဝိတက်အဆိုးတို့အထိ အမျိုးမျိုး ဝင် ရောက်ကာ အငုပ်မှ တက်ပေါက်လာကြလေကုန်၏။

ဤကား ရာဂလက်ငုပ်၏ လှုပ်ကြွလာခြင်း ဒေါသစရိုက်အားကြီးသူဖြစ်က လည်း မှတ်ချက်ပေါ်သို့ အတွေးများ ကျော်တက်လာသည်ကိုလည်း မကျေနပ် ဖြစ်နေတတ်၏။ လက်ရှိဉာဏ်အဆင့်၌ အားမရစိတ်များလည်း ထန်ပြင်းနေတတ်၏။ ကိလေသာဘက်သို့လည်း လှည့်ကာ မင်းကားခံစစ်၊ ငါကသာ ထိုးစစ် ခံနိုင်လျှင်

ခံပေရော့ ဟူ၍လည်း စိတ်ကြိမ်းကြိမ်း နေတတ်သေး၏။ သို့ စိတ်ကြိမ်းကြိမ်းသဖြင့် ငုတ်ကောင်များ နိုးထလာကာ ရှုကွက်၍ လှုပ်နှံ့ချေသော် မခံချင်စိတ်များ တိုးပွား လာတတ်ချေ၏။ တစ်ခါတစ်ရံ စိတ်ပျက်လာသဖြင့် ပစ်လှဲအိပ်သည် အထိလည်း ဖြစ်တတ်၏။

ထို့ထက်ကဲသော ဗျာပါဒဝိတက်များမှာ တစ်သက်တာ၏ အတွင်း အချင်းချင်း မသင့်မပြတ် ဖြစ်ခဲ့ဖူးကြသည့်သူတို့၏ ပုံရိပ်မျက်နှာများ၊ မိမိစိတ်၌ ထင် ဟပ်လာခြင်းပင် ဖြစ်၏။ မှတ်စိတ်တင်းလေ၊ ထင်လင်းလေ ဖြစ်လာတတ်၏။ ၎င်းတို့နှင့်တုဖက်ရန်ဖြစ်စဉ်က ၎င်းတို့၏ ဒေါသ သရုပ်ကို ဤမျှအထိ ကွဲပြားစွာ မမြင်ခဲ့မိ။ ယခုသော်ကား ၎င်းတို့၏ ဒေါသစိတ်ဖြစ်ပွားရာနေရာကိုလည်းကောင်း၊ ထိုဒေါစိတ်ကြောင့် မျက်နှာ၌ ရုပ်ပျက်ဆင်းပျက်ဖြစ်နေပုံကို လည်းကောင်း အထင်းသား တွေ့မြင်နေရချေ၏။ မိမိအနားသို့ စားမတတ်၊ ဝါးမတတ်အထိလည်း တိုးကပ်လာသည်ဟု ထင်မိတတ်သေး၏။ ၎င်းတို့ကိုကား ပြန်လည် ကလဲ့စားချေလို စိတ် ဟူ၍ မဖြစ်မိတတ်။ ရန်မလိုကာမှ ရန်ပိုလာနေပြီကော။ မာတုန်းက ရှောင် ကွင်း၊ ပျော့ကာမှ စုံလုံးနင်းချေကြပြီ ဟူသော ဒေါမနဿစိတ်ဖြင့် သက်ပြင်း မှုတ်လျက် အရှုပ်ကြား ခရီးသွားနေရသည့် ခံစားမှုမျိုးသာ ဖြစ်တတ်ချေ၏။

ဤကား ဒေါသလက်ငုပ်၏ လှုပ်ကြွလာခြင်း။

အို တက်လမ်းရှာ –

ထိုသို့များ သင်ကြုံတွေ့ရင်ဆိုင်နေရသော် ရှုလက်စ ကမ္မဋ္ဌာန်းကို ရပ်တန့် ပစ်လိုက်ပါ။ ရှေ့ဆက်နေပါက မစင်ပုံ တုတ်နှင့်ထိုးဆွနေသည်သို့သာ ရှိချိမ့်မည်။

ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းဖြင့် ရာဂစရိုက်ကိုနှိမ်၍ မေတ္တာကမ္မဋ္ဌာန်းဖြင့် ဒေါသစရိုက်ကို ချိုးထားခဲ့ပါလေ။

ဗုဒ္ဓါနုဿတိကား ပန်းပဲဖိုနှင့် တူသည်ဆို၏၊ ဓားများ ခုတ်ပါများလာ၍ ဆေးသားကုန်၊ အသွားတုံးလာခဲ့ချေသော် ပန်းပဲဖိုသို့ အပ်နှံရာ၏၊ ပန်းပဲဆရာသည် ပုံဖော်ရန် အပူပေးထုနှက်၍ ဆေးသားတက်ရန်ကား ရေသို့ချရ၏သို့ ဘုရားဂုဏ် ခြေစုံပစ်၍ ပွားခြင်းဖြင့် ကိလေသာရန်ကို အောင်နိုင်စေပြီး မိမိစိတ် ပုံမှန်အဖြစ်သို့

ရောက်စေ၏။ ဘုရားထံ၌ရှိသော ဓမ္မစိတ်တော်တို့ဖြင့် ထုံမွှန်းထားသော မေတ္တာတော်စိတ်အား၊ ကရုဏာတော်စိတ်အားများ၏ ပျံ့နှံ့စိမ့်ဝင်လာခြင်းများကြောင့် မိမိ၏ကျင့်ဆဲ ကမ္မဋ္ဌာန်းအလုပ်၌ ယုံကြည်သဒ္ဓါအားသည် မြင့်မားစွာ တက်ကြွလာချေတတ်၏။

ထိုသို့ မိမိစိတ်ကို ပြုပြင်ပြောင်းလဲပြီးမှ တစ်ဖန် ကျင့်မြဲကမ္မဋ္ဌာန်းကို ကောက်ကိုင်ရာ၏။ နောက်ယောင်ခံလိုက်နေသော ကာမစိတ်ကို မျက်ကြောဖြတ်ထားခဲ့ခြင်းတည်း။ မေတ္တာကမ္မဋ္ဌာန်းကား ကြိုးရည်နှင့်တူသည် ဆို၏။ ကြိုးဖိုအလုပ်သမားသည် ကြိုးခင်းထဲမှ ကြိုးချောင်းများစွာတို့ကို ခုတ်ယူစုစည်းကာ နေပူကျဲထဲမှ ကြိုးဖိုသို့ ထမ်းဆောင်လာချေ၏။ ထိုသို့ ထမ်းရင်း မတ်တပ်က မောပန်းတကြီး နေပူဒဏ် ဖိစီးလာချေသော် အရိပ်ကောင်းကောင်းဝယ် ကြိုးစည်းကြီးကို ပခုံးပေါ်မှချကာ ထိုကြိုးစည်းထဲမှ ကြိုးတစ်ချောင်းကိုနှုတ်ယူပြီး စုပ်ရ၏သို့ မေတ္တာ၌ စိတ်မြှုပ်သွင်းထားခြင်းဖြင့် မိမိ၌ ဖြစ်ပေါ်နေသော မတင်မကျစိတ်ကိုလည်း အေးဆေးစေနိုင်၏။ ရန်ဘက်၌ဖြစ်ပေါ်နေသော ခိုးလို့ခုလုစိတ်ကိုလည်း ကူညီငြိမ်းသတ်ပေးနိုင်၏။ မိတ်ဖက်၌ ဖြစ်ပေါ်နေသော မိမိအပေါ် စိတ်မချစိတ်များကိုလည်း ကူညီ ငြိမ်းသတ်ပေးနိုင်၏။ မေတ္တာသည် ရန်သူလည်းကြိုက်၊ မိတ်ဆွေလည်းကြိုက်၊ မိမိကိုယ်တိုင်လည်း နှစ်ခြိုက်သောတရားတည်း။

ထိုမေတ္တာစိတ် မိမိစိတ်သို့ ပျံ့နှံ့စိမ့်ဝင်သွားသောအခါတွင်ကား အေးဆေးငြိမ်သက်ခြင်းတို့နှင့်အတူ တည်ရှိဆဲ ဓမ္မစိတ်အားသည် ပြန်လည်၍ ပေါ်ပေါက်လာတတ်ချေ၏။ ဘဝင်လေငြိမ်သက်သွားပြီ ဖြစ်သဖြင့် နှလုံးသွေး အကြည်ဓာတ်ပေါက်ကာ ခေါင်းအေး၍ စိတ်အထိုင်ကျခြင်းသို့ ရောက်ရှိလာစေတတ်၏။ ထိုအခါ ကျင့်မြဲ ကမ္မဋ္ဌာန်းသို့ လက်ဆက်၍ရပြီ၊ ဒေါသစရိုက်ကား ရေထိခံရသော မြေဆွေးပမာ အရည်ပျော်လျက်က ပြတ်ကျန်ရစ်ခဲ့ချေပြီ။

# တည်စေလိုလျှင် စိတ်ကို ချမ်းသာစွာထား

- စိတ်ချမ်းသာခြင်းသည် စိတ်တည်ခြင်း၏ အကြောင်းတရား၊
- စိတ်ပူခြင်းသည် စိတ်ပြန့်ခြင်း၏ အကြောင်းတရား။

ထိုစိတ်ချမ်းသာစေလိုလျှင် ဝတ္တရားမပျက် ဆောင်ရွက်တတ်ရချေ၏။ ဝတ္တရားကားအတွင်း ဝတ္တရားနှင့် အပြင် ဝတ္တရားများတည်း။ အတွင်းဝတ္တရားကား မိမိ၏ ပွားများမြဲ ကမ္မဋ္ဌာန်းကို ချိန်တိုင်းပြည့် ဝတ်မပျက်ရန်ဖြစ်ပြီး အပြင်ဝတ္တရားများက ရှင်ရဟန်းများဖြစ်သော် မိမိ၏ ဆောင်ရမည့်ဝတ္တရားများ မချို့တဲ့စေမှုပင် ဖြစ်၏။ စေတီယင်္ဂဏဝတ် – ဗောဓိယင်္ဂဏဝတ်မှသည် ဆရာ့ဝတ်၊ တပည့်ဝတ်များအထိ ပါဝင်ချေ၏။

လူဖြစ်သော်ကား မိဝတ်၊ ဖဝတ်မှသည် သားဝတ်၊ မယားဝတ်များအထိ အစုံပါဝင်၏။ ထိုဝတ္တရားများ ကျေပွန်ပါမှ မိမိနှင့်ပတ်သက်သူတို့ စိတ်ချမ်းသာရ၏။ တစ်ဖက် စိတ်ချမ်းသာမှ ဘက်တူတံပိုးထမ်းဖြစ်သော မိမိလည်း စိတ်ချမ်းသာမည် ဖြစ်၏။ စိတ်ချမ်းသာသူမှာသာ စိတ်တည်ငြိမ်မှုကို ရစေနိုင်၏။ လူချမ်းသာ၊ လူသူဌေးလို ဟိုပြေးသည်ပြေးကာ စီးပွားရှာသည် မရှိပြီ။

အတွင်းဝတ်မပြတ်၊ အပြင်ဝတ်လည်း ထပ်စေရမည် ဆိုထားသဖြင့် တစ်ခါတည်း အလုပ်နှစ်မျိုးပြီးစီးနည်းကို ကျင့်သုံးသင့်၏။ ကျီးသည် အစာကိုလည်း စား၊ ရန်သူကိုလည်း ကြည့်၏သို့ အပြင်ဝတ် ဖြည့်ကျင့်ရင်းက အတွင်းဝတ်ဖြင့် ဝိုင်းရံထားရမည် ဖြစ်၏။ အတွင်းဝတ် ဖြည့်ကျင့်ရင်းကလည်း အပြင်ဝတ်ဖြင့် ဝိုင်းရံထားရမည် ဖြစ်ချေ၏။

ဆိုလိုသည်မှာ ကမ္မဋ္ဌာန်းဆို ကမ္မဋ္ဌာန်းချည်း ဖွတ်နှစ်၍ အားမထုတ်လေနှင့်။ မိမိဆောင်သင့်သည့် ဝတ်များနှင့် တွဲဖက်၍ ဘက်စုံ အားထုတ်လေ ဟူ၏။

- ကမ္မဋ္ဌာန်းထိုင်သဖြင့် အငြိမ်များလျှင် ဝိတက်ဝင်တတ်သည်။
- ဝတ္တရားကို ခြေလက်များဖြင့် ထိကိုင်လှုပ်ရှားနေရာ၌ ဝိတက်ဝင်စရာ မရှိ။

ကျောက်တုံးကြီးကို ပခုံးပေါ်တင်လျက်က စေတီရင်ပြင်ထက် တစ်လှမ်းချင်း တက်ခဲ့ရာ၌ ဝိတက်ဝင်ခွင့်မရပြီ။ တစ်ချက်ဝင်လျှင် တစ်ချက် ခြေလှမ်းမှားတတ်သောကြောင့် ဖြစ်၏။ မိမိလုပ်လိုသော အလုပ်ကို လုပ်နေရပြီဖြစ်သဖြင့် ကာမစိတ်လည်း ချမ်းသာအားရနေသောကြောင့် ဖြစ်၏။ ထိုအခါ စိတ်ကလေးသည် လှည်းနောက်လိုက်နေသော ခရီးသည်တစ်ဦးပမာ ဖြစ်နေချေရာ နောက်မှ သတိအားဖြင့် တွန်းပိတ်ထားလျှင် လှည်းပေါ်တက်ထိုင်၍ လိုက်ဖို့သာ ရှိချေတော့။

တစ်ဖန်လည်း စိတ်သည်အဆန်းကိုချည်း ရွေးချယ်လိုက်လေ့ရှိရာ ရှုကွက်၌ အတည်နည်းသဖြင့် အသိရှေ့မတိုးတော့သောအခါ မိမိ၏ ကမ္မဋ္ဌာန်းအလုပ်၌ ငြီးငွေ့လာတတ်၏။ ဆန္ဒအားများ ကုန်ခမ်းလာတတ်၏။ အကယ်တိတိ ပြင်ပဝတ္ထုရားများနှင့် တွဲဖက်ကာ အပြောင်းအလှည့်ထားကြိုးစားပါသော်ကား စိတ်မပျင်းရိတော့သဖြင့် အရှိသို့ တည့်တည့်တိုးဝင်ရန် သေချာသလောက် ဖြစ်ချေ၏။

သည်နည်းကို ကျေးဇူးရှင် ဝေဘူဆရာတော်ဘုရားကြီးသည် လက်တွေ့ကိုယ်တိုင် ကျင့်သုံးကြည့်တော်မူပြီးနောက် နောက်ပါ ဝေနေယျတို့အား ပေးသနားတော်မူခဲ့ပါချေ၏။ အကြိုက်တွေ့သဖြင့် ငြိမ်နေသော စိတ်ကလေးကို သတိတင်း၍ ကိုယ်၌ ချဉ်းစေခြင်းလည်း ဖြစ်၏။ ပြင်ပဝတ်ကို ဖြည့်ရာမှ ဖြစ်ပျက်နေသော ရုပ်နာမ်များတို့၏ အကြောင်းကို အသိနှင့်ကပ်ပေါင်း၍ သိစေခြင်းလည်း ဖြစ်ချေ၏။

ထိုသို့ လှုပ်ရာမှ ရရှိလာသောအငြိမ်သည် ငြိမ်မှတ်လျှင်ကား တက်ဖို့သာ ရှိ၏။ ပျက်ဖို့ကား မရှိပြီ။ အကယ်တိတိ ငြိမ်ရာမှရသော အငြိမ်သည်ကား လှုပ်လျှင် တက်ဖို့မရှိ။ ပျက်ဖို့သာ ရှိချေ၏။ အလှုပ်မှရသော အငြိမ်သည် တန်ဖိုးအကြီးဆုံး ဆို၏။ သည့်အတူ အရှုပ်ထဲမှရသော အငြိမ်သည်လည်း အရှင်းထဲက ရသည်ထက် တန်ဖိုးကြီးသည် ဆို၏။

သို့ကြောင့် လှုရှုပ်ရှုပ် အလုပ်များများထဲမှ တည်စိတ်ကို ရယူနိုင်ရန် ကြိုးစားရချေမည်။ ဤအဆင့်သည် ကြိုးစားလျှင် ရသင့်သောအဆင့် ဖြစ်၏။ ကျောထောက်နောက်ခံ အရှိန်အား ရှိနေပြီဖြစ်၍ စိတ်အေးလက်အေးဖြင့် ကြိုးစားနိုင်သောအဆင့်တည်း။

# မီးနှင့်ရေသည် ရန်ဘက်လည်းဟုတ်၊ မိတ်လည်းဟုတ်

- မီးသည် ရေ၏ရန်သူကားမှန်၏။ သို့တစေလည်း ရေစိမ်းကို ရေကျက် ဖြစ်စေလိုရာ၌ ထိုမီး၏ အကူအညီမှမရလျှင် ဖြစ်ရန် မလွယ်ကူပြီ။
- ရေသည်လည်း မီး၏ရန်သူကား မှန်၏။ သို့တစေလည်း မီး၌ရှိသော အခိုးအလျှံကို ငြိမ်းစေလိုရာ၌ ထိုရေ၏ အကူအညီမပါဘဲနှင့် အေးစေလိမ့်မည် မဟုတ်ပြီ။

သည့်အတူပင် ကိလေသာသည် မဂ္ဂင်အကျင့်နှင့် ရန်သူ။ တစ်ဖန် မဂ္ဂင် အကျင့်သည် ကိလေသာနှင့် ရန်သူ ဆိုသော်လည်း ကိလေသာသည် မဂ္ဂင် အကျင့် အဆင့်မြင့်တက်စေရန် လေ့ကျင့်ဘက်ပမာ ဖြစ်ချေရကား ရန်သူ၌ပင် ကျေးဇူးတရား ရှာတတ်က တွေ့နိုင်ချေ၏။ ဒေဝဒတ်၊ စိဉ္စာမာနတို့ကြောင့် ဘုရားရှင်၏ ခန္တီ ပါရမီ ပြည့်ဝလာသည်ကို ထောက်ချင့်ကြည့်။

သောတာပန်အဖြစ် ကြိုးစားရရာ၌ မဂ္ဂင်အကျင့်၏ ရှာန်ဘက်မှ ဝိစာရ၏ ကပ်၍ သုံးသပ်မှုကို ကိလေသာ၏ ဒွိဟစိတ်က ခုခံပေးလျက်က သုံးသပ်မှု အရှိန် အဟုန် ကြီးထွားစေခဲ့၏။ ငါဟူသော ကိလေသာအစွဲကို ရုပ်၊ နာမ် နှစ်ပါး၌ ကွဲပြားစွာ သိလိုမှုဉာဏ်ကို တွန်းအားပေးချေ၏။ ထိုရန်ဘက်တို့၏ အားပေးမှုသည် မိတ်ဖက်၏ အားပေးမှုနှင့်ကား မတူညီချေ။ ရန်ဘက်၏ အားပေးသည် ဖိအားကို အသုံးပြု၍ မြင့်တက်စေ၏။ မိတ်ဖက်၏ အားပေးကား ပင့်တင်အားကိုအသုံးချ၍ မြှင့်တင်ပေး၏။

- ဒွိဟစိတ်ပေါ်လေ၊ ကပ်ယှုသုံးသပ်အားကို တင်းရလေလေတည်း။
- ငါစွဲကြီးလေ ရုပ်၊ နာမ် ကွဲရန် ဉာဏ်ဝင်စားရလေလေတည်း။

သို့တစေလည်း သောတာပန်အဖြစ်၌ ရင်ဆိုင်ကြရသော ငါစွဲ ဒွိဟနှစ်မျိုးတို့ နှင့် ဝိစာရအသိဉာဏ် နှစ်မျိုးတို့၏ ရန်ပွဲကား ကြက်တောင်ရိုက်ကစားပွဲပမာမျှ လောက်သာ ရှိချေ၏။

ဤအနာဂါမ်အဖြစ်၌ ရင်ဆိုင်ကြရသော ရာဂ၊ ဒေါသ နှစ်မျိုးတို့နှင့် သမာဓိ၊ ပီတိ နှစ်မျိုးတို့၏ ရန်ပွဲကား ကျားနှင့်ဆင် ပင်လယ်ပြင် တွေ့နေသည့်ပမာ အားကြီးလှချေ၏။

အနာဂါမ်အဖြစ် ကြိုးစားရရာ၌ မဂ္ဂင်အကျင့်၏ စျာန်ဘက်မှ သမာဓိ၏ တစ်ခုတည်းသော အာရုံထဲ၌ စွဲမြဲစွာတည်မှု၊ ပီတိ၏ မိမိ၏ ကမ္မဋ္ဌာန်းအလုပ်၌ နှစ်သက်အားရ သဘောကျနေမှုတို့ကို ကိလေသာ အသင်းပင်း၏ ရာဂ၊ ဒေါသ စိတ်များက ခုခံပေးလျက်က တည်မှုနှင့် နှစ်သိမ့်မှုအရှိန်ကို တိုးမြှင့်စေခဲ့၏။

- လိုစိတ်က ကလက်လေ၊ တည်တံ့စိတ်ကို မြှင့်တင်ပေးရလေလေတည်း။
- အလိုမကျစိတ်က အပူသွင်းလေလေ၊ ပီတိစိတ်ကို မြှင့်တင်ပေးရလေလေတည်း။

ဤဉာဏ်၌ သတိမလွတ်နှင့်၊ သတိမလျော့နှင့်၊ သတိမပေါ့လေနှင့်၊ သတိချိန်ဆမနေလေနှင့်။ စေ့စေ့စပ်စပ်မှတ်ခြင်း၊ တင်းတင်းရင်းရင်းမှတ်ခြင်း၊ လေးလေးနက်နက် ထားမှတ်ခြင်း၊ အချိန်နေရာမရွေးဘဲ မှတ်ခြင်း ဟူသည် အပ္ပမာဒသတိ၏ အခြေခံလေးချက်တို့ကို အကွက်ကျကျထား၍ ဖော်ဆောင်ရချေ၏။ တစ်သိထဲသိ၊ တစ်သိထဲသိ ဟူသော သူတော်ကောင်းကြီးများ၏ ဩဝါဒသည် ဤဉာဏ်၌ သာ၍ အရေးပါ၏။ ရှေ့ဆက်လေ၊ ထိုစကားအရာ ရောက်လေ ဖြစ်လာ၏။

သို့မဟုတ်က တဏှာတစ်ချက် ပက်ထုတ်ခံရလျှင် အသည်းဆတ်ဆတ်ခါနာကျင်စေ၏။ ခံကျခံရသော ရေပြင်၏ လှိုင်းကျက်သည် ဂယက်အငြိမ်အချိန် စောကောင်းစောချေမည်။ ထိုတဏှာအဆွကြောင့် လန့်ခုန်သွားသော နှလုံးသွေး၏ လှိုင်းဂယက်ကား တစ်ရက်နှင့်ပင် မငြိမ်မဆိတ်ဖြစ်မှု မရပ်နားတတ်ချေ။ တစ်ပတ်နှင့်ပင် အတောမသတ်သေးချေပြီ။

အောက်ဉာဏ်များ၌ အတိုက်အခံတို့သည်ကား တောတွင်းတစ်နေရာရာ ဖြစ်သော တိုက်ပွဲများ၏ သို့ ပြင်ပအချင်းချင်း ဖြစ်ကြသဖြင့် အတွင်း၏ အလှုပ်အထ နည်းပါး၏။ စိတ်၏ ဖြူစင်တောက်ပမှုအား နည်းသေးသောကြောင့်လည်း အရာထင်မှု မသိသာလှသေးချေ။

ဝိစိကိစ္ဆာသည် ရတနာသုံးပါးအပေါ်၌ ယုံကြည်မှု ဒွိဟဖြစ်၍ တဏှာကဲ့သို့ နှလုံးသား ပြောင်းဆန်သည်ထိ မပြင်းတတ်။ ငါဟူသော အမြင်သည်လည်း တဏှာအကြိုက်သို့ လိုက်ပေးကာ မှတ်သားရုံသက်သက်မျှဖြစ်၍ တဏှာကဲ့သို့ မြေလှန်စနစ် မသုံးတတ်ချေ။

တစ်ဖန် အခံဘက်ရှိ ဝိစာရသည်လည်း ကပ်၍ သုံးသပ်ရုံသက်သက်မျှ ဖြစ်ဘိ၏။ သုံးသပ်မှုဟူသည် ပေါ်သောအာရုံ ပျောက်ပျက်မသွားစေရန် ကြည့်ထားပေးမှုမျှသာ ရှိသေး၏။ ထိုအာရုံကို တို့ထိခြင်း၊ လှုံ့ဆော်ပေးခြင်းကား မဟုတ်သေး။ ရုပ်၊ နာမ်နှစ်ပါးတို့ကို ကွဲပြားစွာ သိသိပေးနေသော အသိသည်လည်း ပွဲကြည့်တစ်ဦးပမာ သူတို့သဘာဝအတိုင်း ဖောက်ပြားနေကြပါသည်ကို သိသိနေခြင်းမှ တစ်ပါး တို့မီး၊ ရှို့မီး မပါဝင်ချေ။ သို့ကြောင့် ကြက်တောင်ရိုက် ကစားနည်းမျိုးကဲ့သို့ ချစ်ကြည်ရေးပွဲမျှသာ ဖြစ်ချေ၏။

ဤညဏ်၌ကား မြို့တွင်းမှာဖြစ်သော တိုက်ပွဲကဲ့သို့ ရန်းရင်းဆန်ခတ် နိုင်လှ၏။ သမာဓိဘက်က စိတ်မဲတင်းမှုအားသာလျှင် တဏှာအလှုပ်ကြမ်းကာ နှလုံးအိမ်ရှိ ရာဂသွေးတို့သည် နေမထိထိုင်မသာ လှုပ်ခုန်ကြလေကုန်၏။

တစ်ဖန် တဏှာဘက်က အဖိသာ၍ သမာဓိစိတ် မြုပ်နေလျှင်လည်း ထိုတဏှာပင် အလှုပ်ကြမ်းကာ စိတ်ရောကိုယ်ပါ သွက်သွက်ခါ တုန်လှုပ်ကြရလေကုန်၏။

ဤညဏ်၌ဖြစ်သော ကလက်စိတ်ကား ပျံ့စိတ်ကဲ့သို့ အဝေးပြေးခြင်းကား မဟုတ်။ ရာဂစိတ်အောက်၌ မှောက်လျက် ပြားနေတတ်ခြင်း၊ စိတ်တွင်းမှာသာ ဆူတက်၍ တစ်ဖက်၏ တစ်ခုသောအာရုံကိုသာ ကြမ်းပိုးသွေးစုတ်၊ ကျားကုတ်သွေးခဲပမာ စွဲငြိနေတတ်ခြင်းမျှသာ ဖြစ်ချေ၏။

အကယ်တိတိ ဣရိယာပုဒ်လေးပါးမှာ ဖြစ်စေ၊ ထိုလေးပါးတို့၏ အပြောင်းအလဲများမှာ ဖြစ်စေ၊ သတိအလွတ်မပေးဘဲ ချေးနာခဲ ခဲထားနိုင်သော်ကား ထို တဏှာစိတ်တို့သည် ပျောက်ခြင်းမလှ ပျောက်နေတတ်ကြလေုန်၏။

– သတိနည်းနည်းလျော့သော် အတွေးနည်းနည်း ပေါ်လာ၏။

- သတိအားလုံးလွတ်သော်ကား အတွေ့ဖိစီး ရာဂကြီးသည်၏ အဖြစ်သို့ ရောက်စေ၏။ ဤဉာဏ်၏ ဆန့်ကျင်ဘက်သည် ရာဂသာဖြစ်ပြီး ရာဂ၏ ရန်သူသည်လည်း ဤဉာဏ်သာဖြစ်သဖြင့် လက်ဦးသူ အနိုင်ရမည့် သတ်ပွဲကြီးပင် ဖြစ်ချေ၏။ သတိလျော့ရဲ ဉာဏ်မျက်မွဲဖြင့် သွားစမ်းလျှင် ကမ္ဘာစုံစုထားသော ရာဂသည် ကမ္ဘာတုန်အောင် တုံ့ပြန်မည်မှာ မုချတည်း။

## အနှည်ထိုင်ရေကို ကိုင်တွယ်သောအခါ

မိမိစိတ်၊ မိမိ၏ ကမ္မဋ္ဌာန်းအလုပ်၌ နှစ်သက်အားရသဘောကျနေစေရန်သည် အဓိကဖြစ်၏။ မိမိရယူသိမ်းပိုက်ထားသော မယားအပေါ်၌ နှစ်သက်မှုကင်းမဲ့လျှင် ထိုမယားနှင့် ပေါင်းသင်းရာ၌ စိတ်ချမ်းသာလိမ့်မည်ကား မဟုတ်။ ထိုမယားနှင့် ပေါင်း၍မှ စိတ်ချမ်းသာမှုမရသော် ထိုမယားနှင့် တစ်ယောက်ဆိုတစ်ယောက်အဖြစ်ဖြင့် မယားမှတ်မှတ်၊ သားမှတ်မှတ် ပေါင်းသင်းရန်မှာ ခက်ခဲလှချေတော့၏။ သည့်အတူ မိမိ၏ ကမ္မဋ္ဌာန်းအာရုံ၌ နှစ်သက်မှုပီတိစိတ် ဝင်မလာသော် စိတ် မချမ်းသာပြီ။ စိတ်ချမ်းသာမှုသုခစိတ်မှ ဝင်မလာသော်ကား ထိုတစ်ခုတည်းသော အာရုံ၌ စိတ်ချထားမှု မတည်တံ့နိုင်ပြီ။ သို့ကြောင့် ပီတိဖြစ်ရန် အရေးကြီး၏။

- စစ်ရှုံးသောအချိန် သူ့ကြောင့်၊ ငါ့ကြောင့် အပြစ်ဖို့နည်း။
- ကုန်ရှုံးသောအချိန် သူညံ့လို့၊ ငါညံ့လို့ လက်ညှိုးထိုးနည်း။

ထိုနည်းတို့သည် နိမ့်ကျစိတ်ကို နလံမထနိုင်အောင် ဖိထောင်းခြင်းမျိုးသာ ဖြစ်ချေ၏။ လျော့ကျနေချိန်၌ တွန်းအားများမှာ ပီတိဖြစ်စေမည့် ဂုဏ်တော် မေတ္တာပွားခြင်း၊ စိတ်ရဲတင်းမှု မွေးမြူခြင်း၊ ဖြစ်ပျက် ရုပ်၊ နာမ်ပေါ်၌ စိတ်ပုခက်စီးစေခြင်းဖြင့် မိမိအလုပ်၌ နှစ်သက်အားရ သဘောကျစိတ် ဝင်လာရန် ပြုစုပျိုးထောင်ပေးခြင်းပင် ဖြစ်ချေ၏။

အနည်များသောရေကို ကြည်လင်သော ဖန်ခွက်ထဲသို့ ထည့်သွင်းကာ

အနည်ထိုင်သည်အထိ စိတ်ရှည်လက်ရှည် စောင့်ဆိုင်းသင့်ချေ၏။ မြေညီ၍ လေမထန်သောနေရာ၌ ချထားခံရသော ထိုရေရှိ အနည်ထိုင်မှုတို့သည် တစ်စချင်း၊ တစ်စချင်း အမှုန့်တို့ အောက်အရပ်သို့ ကပ်ကျသွားပေလိမ့်မည်။ ထိုကျသွားသော အနည်တို့ အိပ်မောကျချိန် မရောက်မချင်း စိတ်ရှည်ရှည် စောင့်ဆိုင်းရသေး၏။ အနည်ကျန် အထနေးသောကာလတွင်ကား တစ်နေရာမှတစ်နေရာသို့ သယ်ဆောင်၍ရချေပြီ။ သို့တစေလည်း ဖန်ခွက်ဆီသို့ စိတ်ကင်းစောင့် ပို့လွှတ်ထားခြင်း၊ ခြေလှမ်း မကြမ်းတမ်းစေခြင်း၊ ကိုင်လက် မလှုပ်ရမ်းစေခြင်းများကို အထူးဂရုစိုက်၍ သယ်ဆောင်ရချေမည်။ အဘယ့်ကြောင့်ဆိုသော် ရေဝယ်ရှိ အနည်မှုန်များသည် ငါးထက် အပြေးမြန်သောကြောင့်တည်း။

သည့်အတူ ဂုဏ်တော်မေတ္တာ တဖြာဖြာဖြင့် စိတ်ကို ကြည်သန့်စေ၍၊ ရာဂပွက်သဖြင့် မငြိမ်မသက်သော ဘဝင်လေတို့ကို ငြိမ်သက်စေ၍၊ ဘဝင်လေပင့်သဖြင့် ကစဉ့်ကလျားဖြစ်နေသော နှလုံးအိမ်ကို ငြိမ်သက်စေ၍ ရာဂ၏ အနည်အလေးမှေးမှိန်သွားသည်အထိ ပွားများရမည် ဖြစ်ချေ၏။ ပွားများမြဲ ကမ္မဋ္ဌာန်း၌သော်လည်း ဘဝင်ငြိမ် နှလုံးအေးသည်ထိ ပွားများရချေ၏။

ထိုရာဂ မထကြွတော့၍ အေးမြသောစိတ် ဖြစ်သော်မှ တင်းစိတ်ကို လျော့၍ တစ်သိထဲထိ, တစ်သိထဲသိ ဟူသော သိသိနေခြင်းကိုသာ အားပြုရာ၏။ ဤဉာဏ်နေရာသည် ကာမ၏နယ်မြေ၊ ရာဂ၏နယ်မြေများ ဖြစ်သဖြင့် ထိုဉာဏ်ရလိုစိတ်ဆန္ဒကိုပင် မထားသင့်တော့ပြီ။ မည်မျှ အားထုတ်ချလိုက်မည် ဟူသော အားထုတ်လိုစိတ်သော်မှ မထားသင့်ပြီ။

ထားသင့်သည်မှာ မိမိစိတ် ရှုကွက်ရှိ ဖြစ်ပျက်၌ မလွတ်တမ်းသိသိနေရေးသာ ဖြစ်ချေ၏။ မိမိစိတ်၊ မိမိ၏အနား အမြဲတမ်း ပျော်ရွှင်နေရေးသာ ဖြစ်ချေ၏။

ထိုလိုစိတ် တစ်မှုကို ခန္ဓာတွင်း သွင်းပို့လိုက်ချေပါမူကား တရားလိုမှ မတရားလိုသို့ မီးခိုးကြွက်လျှောက် ကူးစက်သွားကာ ထိန်းမနိုင်၊ သိမ်းမရသို့ ဆိုက်စေတော့၏။ အောက်လက်စစ်ပွဲကား မိုက်ရူးရဲလုပ်၍ရ၏။ ဝါရင့်ရန်သူနှင့် ထိပ်တိုက်တွေ့သော စစ်ပွဲကား ဉာဏ်မကူလျှင် နလံမထူအောင် ရှုံးမည့်ပွဲ ဟူ၍ တထစ်ချ မှတ်ပါလေကုန်။

# ၆။ လွှတ်မြောက်ခြင်း၏ အကျိုးနှင့် စပ်ဆိုင်သောစကား
## (နေကွမ္မာနိုဿံ ပဋိသံယုတ္တကထာ)

တက်လမ်းရှာအပေါင်းတို့ –

– ကာမတဏှာသည် တစ်ဖက်အာရုံသို့ မိမိစိတ်ကျရောက်ရာမှ ရလာသော ကောက်ရပစ္စည်းဖြစ်သဖြင့် မလိုချင်သေးပြန်၍ ပေးက လွယ်သေး၏။

– ဘဝတဏှာသည်ကား မိမိ၏ ရလာသော အမြတ်စားဘဝကို မှီ၍ ဖြစ်နေသော မူပိုင်ပစ္စည်း ဖြစ်နေသဖြင့် မလိုချင်သော်လည်း ပြန်ပေးစရာသူမရှိ ခက်ခဲဘိ၏။

– ကာမတဏှာသည် ဘောဂသမ္ပတ္တိမှ ဖြစ်လာပြီး၊ ဘဝတဏှာကား ဘဝသမ္ပတ္တိမှ ဖြစ်၍ လာတတ်၏။ ဘောဂသမ္ပတ္တိသည် ပေးကမ်းစွန့်ကြဲပစ်ရုံမျှဖြင့် ကင်းပလွယ်၏။ ဘဝသမ္ပတ္တိကား မွေးသည်မှ သေအထိ ကိုယ်နှင့်မကွာ လိုက်ပါ နေတတ်သဖြင့် ကင်းပရန် ခဲယဉ်းလှချေ၏။

ဘဝ၏ လူလားမြောက်ပိုင်း၌ အမိ၏ ချက်ပြုတ်ကျွေးမွေးခြင်း စသည့် ဝတ္တရား သည် ၅ကုန်သင့်ပြီ ဖြစ်၏။ အဖ၏ ရှာဖွေကျွေးမွေးခြင်း စသည့် ဝတ္တရားသည် လည်း ကုန်သင့်ပြီ ဖြစ်၏။ ထိုအခါ ငါသည် အဖနေရာထား၍ အမိနေရာအတွက် သူလိုလာပြီ ဖြစ်၏။

ငါသည် ငါ့ဘဝ လူတစ်လုံး၊ သူတစ်လုံးဖြစ်ရေးအတွက် ရလာသောပညာ ကို အသုံးချကာ ပစ္စည်းရှာမည်။ စီးပွား ဖြစ်ထွန်းစေမည်။ အိုးနှင့်အိမ်နှင့် ဖြစ်စေ ရမည်။ အိမ်ရှိလျှင် အိမ်ရှင်မလည်း ရှိရမည်။ ငါ့အစား နွားသော်လည်းကောင်း၊ ကားသော်လည်းကောင်း ကိုယ်ပွားရှိရမည်။ ငါ့အစား သားသော်လည်းကောင်း၊ သမီးသော်လည်းကောင်း ကိုယ်စားလည်း ရှိရမည်။ ဤရည်ရွယ်ချက်များဖြင့် မိနားဖနားမှ သည်သား ခွဲထွက်ခဲ့ချေပြီ။

မယားယူသည်မှာ ငါ့ကိုချစ်၍ ယူသည်သာ။ ရည်းစားကို အရေးဆိုရာ၌ မင်းအတွက်သာဆိုလျှင်လေ ပြောသော်လည်း စိတ်တွင်းမှကား သင်းလေးကိုသာ ရလျှင် ငါမဆိုးဘူး ဟူသော ယတိပြတ် ဆုံးဖြတ်ချက်သာ ရှိချေ၏။ မိန်းမ တွေ့တိုင်းကား မယူ။ ငါကြိုက်မှယူသည် ဆိုကတည်းက ငါ့ချစ်၍ မယားယူသည်ဟူသော စကား ခိုင်လုံနေချေပြီ။

သို့ကြောင့် ရစမယား ထမင်းဝါး ခွံ့ပေးသည် မရှိ၊ ကိုယ့်ကိုယ်ကိုကား နေ့တိုင်းတည်း။ ရစမယား ရေချိုး၊ ချေးတိုက်၊ ချေးပွတ်ပေးသည် မရှိ၊ ကိုယ့်ကိုယ်ကိုကား နေ့စဉ်တည်း။ ရစမယား နောက်ဖေးသွားပေးသည် မရှိ၊ ကိုယ့်ကိုယ်ကိုကား ရက်မခြားတည်း။

မယားမှ သားမွေးသော် ထိုသားလေးအဖေက ကျောထောက်နောက်ခံအဖြစ် မျှော်လင့်၍ မွေးတတ်ချေ၏။ သမီးမွေးသော် အမေက ကျောထောက်နောက်ခံအဖြစ် မျှော်လင့်၍ မွေးတတ်ချေ၏။ သားမို့၊ သမီးမို့ ချစ်ကြစမ်းသာဆိုလျှင် မိမိဝမ်းတွင်းရှိ သန်ကောင်၊ တုတ်ကောင် စသည့် ပိုးမျိုးရှစ်ဆယ်တို့သည် မိမိသွေးနှင့် သူတစ်ပါးသွေးတို့ ပေါင်းမိရာမှ ရလာသော သားစစ်၊ သမီးမှန်များပင် ဖြစ်ချေ၏။

မွေးစတွင် မိခင်၏ နို့ရည်သွေးနှင့် မိမိသွေး ရောမိသဖြင့် သန်ကောင်များ ပေါက်ဖွားထကြွလာရ၏။ ကြီးပြင်းလာသော်ကား ကျွဲ၊ နွား၊ ကြက်၊ ဝက် စသည်တို့၏ အသားတို့ကို စားရာမှ၊ နို့သောက်ရာမှ (ကြက်ဥ စသည် သောက်ရာမှ) ထိုသွေးများနှင့် မိမိသွေး ရောနှောမိသဖြင့် ထိုသန်ကောင် စသည်များ ကြီးပွားနေရချေ၏။

ထိုသန်ကောင်၊ တုတ်ပိုးများ မတော်တဆ ထွက်ကျလာသော် လိုလိုလားလား မိမိသားဟူ၍ ဆီးကြိုပြေးကောက်သူ ဟူ၍ မတွေ့မိချေပြီ။ သားစစ်မို့သာ ချစ်ရမည်ဆိုသော် သန်ကောင်သည်သာ မိမိဝမ်းနှင့် လွယ်မွေးထားရသူ ဖြစ်ချေ၏။ လက်ရှိသားကား မယားဝမ်းမှ ထွက်လာသူဖြစ်သဖြင့် ဝမ်းကွဲသားမျှတည်း။ ဝမ်းကွဲနှင့် ဝမ်းလွယ်သားနှစ်ဦး ရှိရာဟွင် ဝမ်းကွဲကိုသာ ပိုချစ်သည်ကိုထောက်လျှင်

မိမိ အားကိုးရမည့်သား ဖြစ်၍သာ ချစ်ကြောင်း ခိုင်လုံနေချေပြီ။

ဤသို့ဖြင့် အချိန်ရှိသရွေ့ ရလာသောဘဝ၌ ချစ်မြတ်နိုးမှုသည် အားမရ လောက်အောင်ပင် ကြီးထွား၏။ အနုသည်လည်း မည်မျှပင် ဘဝအကြောင်း အပေါင်းမလှချင်နေစေ၊ ရဘဝ ချစ်နေသည်သာ။ သူတောင်းစားကလည်း မည်မျှ ပင် ဘဝအပေါင်းအကြောင်း မလှချင်နေစေ၊ ရဘဝ မပြစ်ရက်သည်သာ။ သည့် အတူ ခြေတစ်ပေါင်ကျိုး ကြက်၊ တောင်ပံတစ်ဖက်ပြတ် ဇရက် စသည့် ငှက် သတ္တဝါများသည်လည်း လိုချင်၍ ယူထားသောဘဝ စွန့်ပစ်ရန်ကား မလွယ်ကူချေပြီ။

- ဘဝ၌ သာယာတပ်မက်မှုသည် ကာမ၌ သာယာမှုထက် အဆပေါင်း များ၏။
- ကာမဂုဏ်ခံစားမှုတစ်ရက် ရပ်နားထား၍ ရ၏။ တစ်သက်လုံးလည်း ရပ်နားထား၍ ရ၏။

ဘဝခံစားမှုကား အချိန်နှင့်ဆက်၍ ရက်ပျက်မရှိ။ ဘဝရပ်တည်ရန် အသက် ရှူရှိုက်ပေးရခြင်း၊ အစားခွံ့ပေးရခြင်း၊ ရေချိုး၊ အဝတ်ပတ် စသည်တို့ကား ဘဝ ခံစားမှုများဟု ခေါ်တွင်၍ ထိုအသက်မွေးရာမှ ရရှိလာသော အာရုံ၌ ကောင်းနိုးရာရာ ခံစားမှုကား ကိုယ်ချမ်းသာမှုကို အားပေးသော ဘဝသာယာမှု ဆိုရ၏။

ဘဝသမ္ပတ္တိကိုမှီ၍ လူ့ဘဝ၊ လူနှင့်ထိုက်တန်သော မယား အာရုံငါးပါး ရယူခံစားခြင်း၊ ပွဲသဘင်စသည့် အာရုံငါးပါး ရယူ ခံစားခြင်း စသည်တို့ကား စိတ်ချမ်းသာမှုကို အားပေးသော ကာမဂုဏ်ခံစားမှု ဆိုရ၏။ ၎င်းတို့ကား ရပ်နား ထားလိုက ရနိုင်သည်သာ။

ရလာသောဘဝကို ယုယပိုက်ထွေး ရှာဖွေကျွေးမွေးခြင်းကား ရပ်နား၍ မရခဲ့ပြီ။ ထိုသည့်အထဲ စွန့်လွှတ်မှု၊ လေ့ကျင့်မှုတို့၏ ထက်သန်လွန်ကဲမှုကြောင့် ဘဝသမ္ပတ္တိအပေါ် ဘောဂသမ္ပတ္တိဆင့်ကာ လူမင်းအဖြစ်ဖြင့် လူ့ဘဝ၊ လူ့စည်းစိမ်ကို လည်းကောင်း၊ နတ်မင်းကြီးဘဝဖြင့် နတ်ဘဝ၊ နတ်စည်းစိမ်ကိုလည်းကောင်း၊ ဗြဟ္မာမင်းကြီးဘဝဖြင့် ဗြဟ္မာ့ဘဝ၊ ဗြဟ္မာ့စည်းစိမ်ကိုလည်းကောင်း ခံစားခွင့် ရနေဦးမည်ဆိုသော် ဘဝဒုက္ခကို မြင်ရန် အလွန့်အလွန် ခဲယဉ်းသွားပြီဖြစ်သဖြင့်

ဘ၀သမုဒယကား အလျားကျယ်၍ နက်ရှိုင်းသော ဘ၀ပင်လယ်ကြီးသာ ဖြစ်ချေတော့မည် ဖြစ်၏။ ထိုအခါမျိုးတွင် မိမိကြိုက်အာရုံတို့၏ အဖျက်ကို ခံရသဖြင့် အပျက်ဟူ၍လည်း မထင်၊ ဒုက္ခဟူ၍လည်း မမြင်နိုင်တော့ပြီ။

## သူ့အလိုသို့ တစ်ဖက်သတ်လိုက်ပေးရသော ဘ၀ဒုက္ခ

ကာမတဏှာကြောင့်ဖြစ်သော မယားဒုက္ခကား အကျိုးအကြောင်းပြ၍ ပြောတတ်က ကျေနပ်သေး၏။ သားဒုက္ခသည်လည်း နား၀င်အောင် ပြောတတ်လျှင် ကျေအေးမှု ပေးသေး၏။ ဘ၀တဏှာကြောင့်ဖြစ်ကြောင့် ခန္ဓာ့ဒုက္ခကား မည်သို့မျှ ဖြောင့်ဖျ၍ ရလိမ့်မည် မဟုတ်ပြီ။ သူတောင်းသလိုရမှသာ ကျေအေးတတ်၏။ အကျင့်ပျက်မယားကို ချော့ပေါင်းရသည်ထက် ခက်ခဲသေး၏။ သူစိမ်းတရံဆံ၏ မိမိစကား အရေးမစိုက်သည်နှင့်လည်း ထပ်တူဖြစ်၏။

အစာအိမ်၏ ဆာလောင်မွတ်သိပ်မှုကို ခဏနေပါဦး တောင်းပန်၍မရ။ အစာသွင်းမပေးသော် အချင်းချင်း ပွတ်တိုက်၍ အရေးဆိုကာ မပေးချင်း ရန်မူ၏။ အစာခွံ့ပေးမှသာ ရပ်နားတတ်ချေ၏။ တစ်ဖန် စားပေး၍မှ မပြီးသေးမီ အစာဟောင်းစွန့်ပေးရန် ခိုင်းစေပြန်ချေ၏။ စွန့်မပေးမချင်း ရန်မူ၏။ သူ့ဒဏ်မခံနိုင်၍ လိုက်စွန့်ပေးမှသာ ရပ်နားတတ်ချေ၏။ တစ်ဖန် စွန့်ပစ်ရာမှ ပြန်မည်မရှိသေး၊ ရေပူဆာပြန်ချေ၏။ သွင်းပေးမှ သက်သာခွင့်ပေး၏။ ဤသို့လျှင် ရေချိုးပေးရခြင်း၊ အ၀တ်၊ စောင်တို့ဖြင့် နွေးထွေးပေးရဖြင့်၊ ယပ်လေခတ်ပေးရခြင်း၊ ငှင်းပူဆာသော ဆေးလိပ်၊ ကွမ်းယာတို့ကို မီးညှိပေးရ၊ ဖွာရှိုက်ပေးရခြင်း၊ ထုံးတို့၊ ကွမ်းသီးစိတ်ထည့်၊ ဆေးထည့် စသည် ယာပေးရ၊ ၀ါးပေးရခြင်း စသည်ဖြင့် အမျိုးမျိုး ပြုပြင်ပေးနေရချေ၏။

တစ်ဖန် ထိုင်ရင်းမှ ဘယ်ညောင်းလာသော် ညာသို့ ပြောင်းလှည့်ပေးရခြင်း၊ ညာလှည့်၍မှ မကြာသေး၊ ဘယ်ဘေးသို့ ငဲ့ပေးရခြင်း စသည်များဖြင့်လည်း ပြုပြင်ပေးနေရချေ၏။

တစ်ဖန် ထိုင်လျက်က အာရုံညောင်းလာသော် ထရပ်ပေးရခြင်း၊ သွားလာလှုပ်ရှားပေးရခြင်း၊ ဘယ်လှည့်ညာကွေ့ ပြုပြင်ပေးရခြင်းများဖြင့်လည်း သူ့အလိုအတိုင်း လိုက်လံ ဆောင်ရွက်ပေးနေရချေ၏။ ဤသို့ဖြင့် တစ်နေ့တာကုန်လွန်၍ ကိုယ်လျှင်ပင်ပန်း၊ စိတ်ရိန္နမ်းကာ အနားယူလိုသောအခါမျိုးတွင်လည်း အဆင်သင့် နေရာခင်းထားပေးရခြင်း၊ သာယာညှင်းပြောင်း လျောင်းပေးရခြင်း၊ အဝတ်လွှမ်းခြုံပေးရခြင်း၊ ပ,လပ်ပေးရခြင်း၊ ဘယ်ညောင်းသော် ညာလှည့်၊ ညာနေမကောင်းက ဘယ်ပြောင်းပေးရခြင်း စသည်ဖြင့် သူ့အလိုကျ ဆောင်ရွက်ပေးနေရချေ၏။

တစ်ဖန် အပူအပုပ်အခိုးတို့ ကုန်ခမ်း၍ အင်အားလန်းဆန်းလာကာ နိုးသောအခါမျိုးတွင်လည်း အထက်ပိုင်းကိုယ်ကြီးကို ထောင်ပေးရခြင်း၊ အောက်ပိုင်းကိုယ်ကြီးကို ထူပေးရခြင်း၊ မျက်နှာသစ်ပေးရခြင်း၊ အပေါ့အခင်း တည်ပေးရခြင်း စသည်ဖြင့် တစ်နေ့တာ၏ ပြန်လည်အစ ယုယပေးလျက်ကပင် ကလေးငယ်တစ်ဦး မွေးထားရသည့်ပမာ ပြုစုလုပ်ကျွေးနေရပါချေ၏။ တစ်ရက်မဟုတ်၊ တစ်နှစ်မဟုတ် အသက်ထက်ဆုံးပင်။

– မယားကိုကား စိတ်တိုင်းမကျသော် ကွာရှင်းထားခဲ့၍ရ၏။

– သားကိုကား စိတ်မကျေနပ်သော် အမွေပြတ်ကြေညာ၍ရ၏။

မိမိ၏ခန္ဓာဝန်၊ ခန္ဓာ့ဒုက္ခကား အသက်ကံ မကုန်မချင်း ဖွတ်မိုတ်၍ ပေါင်းသင်းနေရမည်သာ ဖြစ်ချေ၏။ သူ့အလိုက်လိုက်ကာ သူ့အကြိုက်ကိုသာ ဆောင်နှင်းပေးနေရသည်သာ ဖြစ်ချေ၏။

မုဒိန်းမှုနှင့် လူသတ်မှုနှစ်ခုတို့ကို ပူးတွဲကျူးလွန်မိသူ၏ ထောင်ကျဘဝသည် ၎င်း၏ ကာမရမ္မက် နှိပ်စက်မှုစေတနာ အရှိန်အတိုင်း သေဒဏ်၊ သေမိန့်ကို နာခံရချေ၏။ အလုပ်ကြမ်းနှင့် ထောင်နန်းစံဘဝကိုလည်း ရချေ၏။

သို့တစေလည်း အယူခံဝင်ရက်၊ အသနားခံရက်များ မကုန်ဆုံးမီ အတောအတွင်းဝယ် ဖျားနာသော် ဆေးကုပေးလျက်က ညှဉ်းပမ်းနေ၏သို့၊ မောပမ်းသော် အစာကျွေးမွေးလျက်က နှိမ်စက်နေ၏သို့ ဤဘဝကို ရလိုသဖြင့် ပြုကျင့်ခဲ့သော ဒါနကံ၊ သီလကံ၊ စေတနာ၏ အထက်၊ အနုံ၊ အပြင်း၊ အပျော့တို့အတိုင်း ရလာ

သော ဤဘဝ၊ ဤခန္ဓာကြီးကိုလည်း ကံတရားသူကြီးမင်းသည် မသေမီအတွင်း အမျိုးမျိုးပင် ညှဉ်းပမ်းနှိပ်စက်လျက်သာ ရှိချေတော့၏။ ရာဇဝတ်မှု၌ ကြောက်ပါပြီ ပြော၍ ကျေနပ်ခွင့်လွှတ်လိမ့်မည် မဟုတ်။ မျက်ရည်ခံထိုး၍ မျက်နှာသာ ရစေ လိမ့်မည်ကား မဟုတ်ပြီ။

ဤလူ့ဘဝ၊ လူ့ခန္ဓာဝန် ကြောက်လွန်းလှ၍ နတ်ဗြဟ္မာတို့၏ဘဝခန္ဓာတို့ကို ာွားရောက်လဲလှယ်ယူပါသော်လည်း ခန္ဓာသည် ခန္ဓာသာဖြစ်၍ ဖောက်ပြားမှု ရှိသည်သာ ဖြစ်၏။ ခန္ဓာကြမ်းသည်အထိ ကြမ်းဖြင့် နွမ်းစေ၏သို့၊ ခန္ဓာနုတို့သည် လည်း အတွေ့နုဖြင့် ပင်ပန်းသည်သာ ဖြစ်ချေ၏။ ဆင်ကျောကုန်းမှ တစ်ထွာပြို စေသည် မဟုတ်၊ ကမျင်းမနီ၏ ကျောပြင်သည်လည်း တစ်ထွာတိတိ ပြိသည်သာ ဖြစ်၏။ ဆင်သည် ဆင်၏အထွာသာဖြစ်ပြီး ကမျင်းမနီသည်လည်း ကမျင်းမနီ၏ အထွာမျှသာ ကွာချေ၏။

- ခန္ဓာသည် ရှေ့၊ နောက်၊ အလယ် အချိန်သုံးသွယ်တို့ဖြင့် လက်မလည် အောင် ဖောက်ပြားနေသော ပျက်စုကြီးတည်း။
- ခန္ဓာသည် ပြင်ပ အကြောင်းတရားတို့၏အတိုက်ကြောင့် ဖောက်ပြား နေသော ပျက်စုကြီးတည်း။
- ကိုယ့်ကိုယ်ကို ချစ်နေခြင်းသည် ကုဆေးပေးရန် အခက်ခဲဆုံးတည်း။

## သူ့စိမ်းကို သူစိမ်းလိုမြင်သော်

- လက်ဖက်ဈေးတက်သံကြားသော် လက်ဖက်ရည်ကြိုက်တို့ ရင်ခုန်ရ၏။ မကြိုက်သူတို့ကား မဖြုံပြီ။
- ကွမ်းဈေးတက်သံကြားသော်ကား ကွမ်းကြိုက်သမားတို့ စိတ်မောရ၏။ မစွဲသူတို့ကား မဖြုံပြီ။

သည့်အတူ ကာမ၌ ခင်တွယ်သူသည် ကာမဈေးသည်ဟောင်း အရောင်း မလာသော် မျှော်ရတတ်၏။ ရောင်းပြန်သော်ကော ဈေးဆစ်၊ ဈေးမေးမကိုက်သေး

လျှင် စိတ်လေးရ၏။ ရပြန်သော်ကော ကိုယ်ကြိုက်လုံးလုံး၊ ကြာကြာသုံးရန် စိတ်စောရ၏။ တစ်ခု လက်ဝယ်ရောက်လျှင် တစ်ခုစောင့်ရှောက်ရ၏။ နှစ်ခု လက်ဝယ်ရောက်ကလည်း နှစ်ခုလုံးပင် စောင့်ရှောက်ရ၏။ တစ်ဖန်လည်း တစ်ခု လက်ဝယ်ရောက် ဆယ်ခုလောက်ပင် စောင့်ရှောက်ရ၏။ အဘယ့်ကြောင့်ဆိုသော် ထိုပစ္စည်းထားသိုရန် အဆောက်အအုံစသည့် ပစ္စည်းကိရိယာ တန်ဆာပလာများကိုလည်း ရှာကြံထားရသောကြောင့်တည်း။

ဘဝ၌ ခင်တွယ်သူသည်လည်း ဘဝလမ်းကြောင်းသွားလမ်း မကောင်းသော် စိုးရိမ်ရတတ်၏။ ဘဝလမ်းစ ခြေကြွလှလျှင်လည်း ပျောက်ရှမသွားရန် စိုးရိမ်ရတတ်ပြန်၏။ တစ်ဖန် နောင်ခါသွားလမ်းသာရန်ကိုလည်း လှမ်းမျှော်ကာ ဤဘဝမှနေ၍ ပြုပြင်နေရပြန်သဖြင့် စိုးရိမ်နေရသည်ချည်းပင် ဖြစ်ချေ၏။

ကာမ၌ မခင်တွယ်လျှင် ကာမ၏ အချိန်ရှယ် မခံရတော့သဖြင့် ကာမဝဋ်ကြွေးအေးရ၏။ ဘဝ၌ မခင်တွယ်လျှင်လည်း ဘဝသို့ ချိန်ရှယ်ရန် မလိုတော့သဖြင့် ဘဝဝဋ်ကြွေး အေးရသည်သာ ဖြစ်ဘိ၏။

ဤ၌ သတ္တဝါတို့ကို ချည်နှောင်ထားသော လွန်ကြိုးကြီးငါးချောင်းကိုလည်း သတိပြုသင့်သေး၏။ လွန်ကြိုးသည် သာမန် နွားချည်ကြိုးထက် တုတ်ခိုင်၏။ ကြိုးမျှင်ပေါင်းများစွာတို့ကို တစ်လွန်း, တစ်လွန်းတင်ကာ များစွာ ကျစ်စုထားပြီး လွန်းပေါင်းများစွာ တုံ့တင်ထားသောကြိုးကို လွန်ကြိုးဟူ၍ ခေါ်ဆိုကြ၏။

- အာရုံငါးပါး၌ ခင်မင်မှု အားကြီးနေခြင်းသည် ပထမလွန်ကြိုးကြီးတည်း။
- မိမိ၌ ခင်မင်မှု အားကြီးနေခြင်းသည် ဒုတိယ လွန်ကြိုးကြီးတည်း။
- သူတစ်ပါးတို့အပေါ်၌ ခင်မင်မှု အားကြီးနေခြင်းသည် တတိယ လွန်ကြိုးကြီးတည်း။
- နတ်ဘဝလောက်ကိုသာမျှော်၍ ကျင့်နေခြင်းသည်ကား စတုတ္ထ လွန်ကြိုးကြီးတည်း။
- ဘယ်ပြောင်းညာလှိမ့် တစ်လိမ့်လိမ့်နှင့် အိပ်စက်နေရသည်ကို ခင်မင်မှု အားကြီးနေခြင်းသည်ကား ငါးခုမြောက် လွန်ကြိုးကြီးတည်း။

ထိုတွင် အာရုံ၌ ခင်မင်မှုအားကြီးခြင်းသည် ငါစွဲတင်းလင်း၊ ငါတကောကောခြင်းမှ ဖြစ်လာသော လွန်ကြိုးကြီးများဖြစ်သဖြင့် ပထမမဂ်ဖြင့်ပင် ပြတ်တောက်နိုင်ခဲ့ပြီ ဖြစ်၏။

သူတစ်ပါးတို့၌ ခင်မင်မှု အားကြီးခြင်းသည်လည်း ငါစွဲတင်းလင်း၊ မြတ်နိုးစိတ် အထင်ကြီးစိတ် ပြင်းထန်ရာမှ ဖြစ်လာသော လွန်ကြိုးကြီးကြီးများ ဖြစ်ကြသဖြင့် ဒုတိယမဂ်ဖြင့် နှိမ်ပြီး၊ တတိယမဂ်ဖြင့် အကြွင်းမဲ့ ဖြတ်တောက်နိုင်ခဲ့ပြီ ဖြစ်၏။

ငါစွဲနှစ်လုံးရှိရာတွင် ဒိဋ္ဌိငါသည် ဤကားငါ၊ ဟိုမှာကား သူဟူ၍ အမြင်ယွင်းမှားခြင်း၊ ယွင်းမှားသည့်အတိုင်း ငါကောင်းစားရေးအရ ကြံခြင်းများသည် ငါပိုင်လိုမှုမှ ဖြစ်၏။

မာနငါသည် ဤကား ငါ၊ ဟိုမှာကား သူဟူ၍ ခွဲခြားတတ်ခြင်း၊ ခွဲခြားသည့်အတိုင်း ကိုယ့်ကိုယ်ကိုအထင်ကြီးကာ မြတ်နိုးခြင်း (ထောင်လွှားတက်ကြွခြင်း) များသည် ငါစွဲသက်သက်မှ ဖြစ်ချေ၏။ သို့ကြောင့် သောတာပန်သည် ငါပိုင်ကိုသာ လက်လွှတ်ထားခဲ့ပြီး ငါစွဲကား မကင်းသေးပြီ။ ထိုငါစွဲ(မာန)သည် အနာဂါမ်အထိ နှောင့်ယှက်နေဦးမည်သာ။

မိမိကိုယ်ကို ခင်မင်မှု အားကြီးခြင်း၊ နတ်ဘ၀သို့ မျှော်ကိုးခြင်း၊ အအိပ်မက်ခြင်းများသည် စတုတ္ထမဂ်သို့ရောက်မှသာ အကြွင်းမဲ့ ဖြတ်တောက်နိုင်ချေ၏။

ထိုသုံးမျိုးတို့ကို ဖြတ်တောက်နိုင်စွမ်းရှိရန်မှာ ကြည်နေရုံမျှဖြင့်လည်း ရစေမည်မဟုတ်။ စိတ်တပိုတစ်ပါး မသွားခြင်းဖြင့်လည်း ရစေမည် မဟုတ်ပြီ။

မိမိကိုယ်ဖြင့် အာရုံခံစားရာတိုင်းတို့၌ တဖိတည်းဖိ၊ တစ်သိတည်းချည်း သိသိနေမှသာ ဖြစ်၏။ အအားမထားနှင့်၊ အနားမထားနှင့်ဟူသော သူတော်ကောင်းကြီး များ၏ စကားသည် ဤဉာဏ်၌ သာ၍ အသုံးတည့်စေ၏။ ထိုအသိသည်ကား သိကာမတ္တ သညာသိကို ဆိုသည်မဟုတ်။ သူ့ကိုယ်အကြောင်း ကောင်းကောင်း သိစေသော ပညာသိကိုသာ ဆိုချေ၏။ ထိုအသိသည်ကား သိကာမတ္တ ဇ၀ေဇ၀ါ ပညာသိမျိုးကိုလည်း ဆိုသည်မဟုတ်။ ကြောင်းကျိုးဆက်တို့၏ အကွက်လိုက်၊

အကွင်းလိုက်၊ အထင်းသား၊ အရှင်းသား ပေါ်လွင်စေသော ပညာသိမျိုးကိုသာ ဆိုချေ၏။ အသမ္မောဟသမ္ပဇဉ်ခေါ်သော မတွေမဝေသိ၊ ရှင်းရှင်းလင်းလင်းသိ၊ အသိမျိုးသာ ဖြစ်စေရ၏။

အအားအနားကား အိပ်စက်ခွင့်ကိုမျှ မပေးသင့်ပြီ။ အဘယ်ကြောင့်ဆိုသော် ဤဉာဏ်အဆင့်သည် အဝိဇ္ဇာ(မောဟ)နှင့် ဝိဇ္ဇာ(ပညာ)တို့ ထိပ်တိုက်တွေ့ပွဲ ဖြစ်သောကြောင့် အဝိဇ္ဇာကား သင့်ကိုယ်ဟု စွဲချက်တင်က ဝိဇ္ဇာကား သူစိမ်းပါဟူ၍ ထုချေရမည့်ပွဲတည်း။

စားစားသွားသွား၊ နားနားနေနေ အပိုင်သိနေမှုသည် အမြဲ ပါဝင်နေရ၏။ နောက်ကြောင်းပြန်၍ ပူပန်တွေးများကို တားဆီးရမည် ဖြစ်သောကြောင့်၊

လှုပ်ရှားတိုင်းမှာ မှတ်ချက်ပါစေ၍ မှတ်ချက်တိုင်း၌ သိပိုင်နေမှုသည် အမြဲ ပါဝင်နေရ၏။ ဘဝ၏ မကောင်းကြောင်း၊ ဟောင်းလောင်းပေါ်စေရမည် ဖြစ်သောကြောင့်၊

လှုပ်ရှားတိုင်းမှာ မှတ်ချက်ပါစေ၍ မှတ်ချက်တိုင်း၌ သိပိုင်နေမှုသည် အမြဲ ရှိနေစေရ၏။ ဘဝ၌ အထင်ကြီးနေမှုကို အစမှအဆုံး လှစ်ပြရမည် ဖြစ်သောကြောင့်။

ထိုသို့ မတွေမဝေသိ ရှင်းရှင်းလင်းလင်းသိတို့ဖြင့် ကြိုးစားရာ၌ ပျံ့လွင့်ပူပန်မှုတို့သည် ပို၍ တိုးပွားစေမည် ဖြစ်၏။ ကိုယ့်ကိုယ်ကိုသက်ညှာမှုတို့သည်လည်း ပို၍၊ ပို၍ပင် တိုးပွားစေမည် ဖြစ်၏။ တိုက်ပွဲ၌ ဗိုလ်မှူးတစ်ယောက် အသက်မဆုံးရှုံးစေရန် နောက်လိုက်ငယ်သားများစွာ ရှေ့နောက်ဝဲယာဝိုင်းရံကာ လိုက်ပါဘိသို့ ဖြစ်ချေ၏။ အိပ်စက်လိုခြင်းများသည်လည်း ပျံ့စိတ်၊ ပူစိတ်တို့ ထကြွနှုန်းအတိုင်းပင် တိုးပွားစေမည် ဖြစ်၏။ အဘယ့်ကြောင့်ဆိုသော် ၎င်းတို့ကို ပယ်သတ်ရန် ဝင့်ပြစ်တို့ကို တူးဆွပေးနေခြင်းကြောင့် လည်းကောင်း၊ ဆန့်ကျင်ဘက်၏ သူ့အလှည့်ကျရောက်လာပြီဖြစ်နေခြင်းကြောင့်လည်းကောင်း လှုပ်ရှားထကြွမည်မှာ ဓမ္မတာပင်တည်း။ အနာရှိရာ ဆေးထည့်လေသောအခါ အနာနှင့် ဆေးတည့်လာသော် ထိုအနာ ကြွတက်လာ၏သို့ မှတ်ယူပါလေ။

ဤအဆင့်သည် ခေါင်းဆောင်အချင်းချင်းခင်းရသော စစ်ပွဲဖြစ်သဖြင့် ဉာဏ်သည် အရေးကြီးဆုံး ဖြစ်၏။ ဉာဏ်လက်နက်သည် ဤ၌ အရေးကြီး၏။ ဉာဏ်နောက်တွင် မှတ်ဉာဏ်ထက်မြက်မှု (သတိ)ဖြင့် ကူထောက်ရ၏။ မှတ်ဉာဏ်နောက်တွင်ကား ကိုယ်ရဲတင်းမှုနှင့် စိတ်ရဲတင်းမှု (ဝီရိယ)များ ထပ်ချပ်မကွာပါစေရ၏။ ဝီရိယဟူသည် ရဲတင်းခြင်းကိုဆိုသဖြင့် ဤ၌ ဝီရိယသည် ဗိုလ်ချုပ်အားမာန်ကဲ့သို့ ရှိစေရမည်တည်း။

## လက္ခဏာစုံ အကုန်ပေါ်စေ၍ ပုံဖော်ကြည့်ရမည့်ပွဲကြီး

အနိစ္စအချက် ပိုင်ရုံမျှဖြင့် ပထမ၊ ဒုတိယ မဂ်တို့သို့ တက်ရောက်နိုင်သော်လည်း တတိယမဂ်သို့ကား တက်ရောက်နိုင်စေလိမ့်မည် မဟုတ်။

တစ်ဖန် အနိစ္စအချက်၊ ဒုက္ခအချက် ပိုင်ရုံမျှဖြင့်လည်း စတုတ္ထမဂ်သို့ တက်ရောက်နိုင်စေလိမ့်မည်ကား မဟုတ်။ လက္ခဏာသုံးချက် ကွက်ကွက်ကွင်းကွင်း ရှင်းလင်းနေမှသာ တက်ရောက်နိုင်မည် ဖြစ်ချေ၏။ အနတ္တမမြင်သမျှ ဓမ္မသို့ လုံးဝဥဿုံ ဥက္ကောင်းဆိုက်နိုင်လိမ့်မည် မဟုတ်သေး။ အနတ္တမမြင်သမျှ အတ္တဟူသော ငါစွဲမာန ပြုတ်ထွက်စေနိုင်လိမ့်မည် မဟုတ်သေး။ အနတ္တမဆိုက်သမျှ ဘဝရာဂဟူသော မိမိကိုယ်၌ သာယာတပ်မက်မှု ကင်းစင်စေနိုင်လိမ့်မည်မဟုတ်သေး။

အရာရာတိုင်း၏ သဘောနှင့် သဘာဝတို့ကို ကိုယ့်ကိုယ်တိုင် ကိုယ်ပိုင်ဉာဏ်ဖြင့် ထိုးထွင်းမြင်သိပြီးမှသာ သဘောမျှသာပါဟူသော အနတ္တနယ်ပယ်သို့ ကူးဝင်နိုင်မည် ဖြစ်ချေ၏။ ထိုအခါ လူမင်းကြီးပါ၊ နတ်မင်းကြီးပါ၊ ဗြဟ္မာမင်းကြီးပါဆိုသည်ကို ကြည့်လျက်က ငုံ့ပြုံး ပြုံးမိမည်သာ ဖြစ်ချေတော့၏။ သာမန် လူ၊ နတ်၊ ဗြဟ္မာဆိုသည်ကိုကား ကြည့်လျက်က ဓာတ်ထဲမှ သရုပ်ဆောင်လောက်မျှသာ သိ၍ ၎င်းတို့ကိုကြည့်ကာ ရယ်မည်သာ ဖြစ်ချေတော့၏။

ခန္ဓာဖြစ်စဉ်၏ အနတ္တလက္ခဏာပေါ်သို့ ဉာဏ်မကျက်စားနိုင်သေးသမျှ မောဟသည် နာမပညတ်ဖြင့် လိမ်လည်တတ်ချေ၏။ ခန္ဓာဖြစ်စဉ်၏ တစ်စပ်

တည်းသော၊ တစ်ပြင်တည်းသော သန္တတိပညတ်ဖြင့်လည်း လိမ်လည်တတ်ချေ၏။ ခန္ဓာဖြစ်စဉ်၏ ပေါင်းစုပြုပြင်ထားသော သမူဟပညတ်ဖြင့်လည်း လိမ်လည်တတ်ချေ၏။ လူသဏ္ဌာန်၊ ခွေးသဏ္ဌာန်၊ ယောကျ်ားသဏ္ဌာန်၊ မိန်းမသဏ္ဌာန်၊ မြန်မာသဏ္ဌာန်၊ ရှမ်းသဏ္ဌာန်ဟူသော သဏ္ဌာန်ပညတ်ဖြင့်လည်း လိမ်လည်တတ်ချေသေး၏။

ထိုသို့ မလိမ်ဘဲလည်း တွေဝေငေးမောစေလျက်က ဘာဆိုဘာမျှ မသိစေသောအားဖြင့်လည်း ဖုံးဖိကာ လိမ်လည်တတ်သေး၏။

ထိုသို့ လိမ်လည်မရသောအခါ ခန္ဓာသို့ တည့်တည့်စိုက်ကျလာသော အသိဉာဏ်ကို တခြားသို့ ဦးလှည့်ပေးကာ လမ်းလွဲပေးတတ်သေး၏။

မောဟ၏ လိမ်ကွက်ကား ပိရိလှချေ၏။ ကာယကံရှင်သည်ပင် လိမ်၍လိမ်မှန်း မသိနိုင်လောက်အောင်ပင် ညင်သာခြင်း၊ ပိရိသေသပ်ခြင်း၊ အယုံသွင်းခြင်းများဖြင့် ပရိယာယ်ကြွယ်လှ၏။

ဒေါသဖြစ်သည်ကို မြင်သူတိုင်းသိ၍ ကြည့်သူတိုင်း မြင်နိုင်ချေ၏။ လောဘဖြစ်နေသည်ကိုကား ပြင်ပမသိသော်မှ ကာယကံရှင် သိနိုင်သေး၏။ မောဟကား အိမ်ရှင်ပင် မသိရပြီ။

ဤမျှ နူးညံ့၍၊ ဤမျှ အကင်းအညာပါးသော မောဟကို သာမန်အသိဉာဏ်တို့ဖြင့် မရနိုင်သည်ကို အထူး အလေးမူသင့်ချေ၏။

ငါတို့ခေတ် ထိုအဆင့်သို့ မတက်ရောက်နိုင်သည်မှာ ကိုယ့်ကိုယ်ကို ခင်မင်မှု အားကြီးလှသဖြင့် ညှာတာနေခြင်း၊ ဩဇာသတ္တိ မပြည့်သော အစာအာဟာရတို့ကို သုံးစွဲကာ ကျင့်ကြံနေရသဖြင့် ရုပ်ဓာတ်၊ စိတ်ဓာတ် မခိုင်မာခြင်းများကြောင့်ပင် ဖြစ်ချေ၏။

သို့တစေလည်း ညောင်လွန့်၊ စွန်းလွန်း၊ ဝေဘူတို့ကဲ့သို့သော ဆန္ဒဖွဲ့ကြီးမားရဲရင့်မှု အင်အားကောင်း ထက်ပါသော်ကား ရှေးရှေး ဝိရိယိဒ္ဓိပါဒ် အရှင်သခင်ကြီးများအတိုင်း –

– ခန္ဓာဖြစ်ပျက်၏ သဘောကို ရှုသိနေရုံမျှဖြင့် အနတ္တအချက်ကိုလည်း

ပိုင်ဆိုင်တော်မူကြရ၏။

- ခန္ဓာဖြစ်ပျက်၏ သဘောကို ရှုသိနေရုံမျှဖြင့် မဂ်အဆင့်ဆင့်တို့ကိုလည်း ပိုင်ဆိုင်တော်မူရ၏။
- ခန္ဓာဖြစ်ပျက်၏သဘောကို ရှုသိနေရုံမျှဖြင့် အဘိညာဉ် အဆင့်ဆင့် အသီးပွင့်တို့ကိုလည်း ပိုင်ဆိုင်တော်မူကြရချေ၏။

တစ်ခုလုပ်ရုံမျှဖြင့် သုံးပါးလေးထွေ အမွေမှန်သမျှ အားလုံး ရစေကြလေပြီ။

## မောဟ၌ ထိုးစစ်မရှိ၊ ခံစစ်သာ ရှိ၏

လောဘ၊ ဒေါသတို့ကား ထိုးနှက်မှုလည်း ပြုတတ်ချေ၏။ တစ်ဖက်က သတ်ဖြတ်ညှဉ်းဆဲလျှင်လည်း ခံစစ်ဖြင့် ခုခံတတ်သေး၏။

မောဟကား ထိုသို့မဟုတ်ပြီ။ မီးရောင်နှင့်တွေ့သော အမှောင်ကဲ့သို့၊ မီးရောင်တောက်သောအခါ အမှောင်သည် ဆုတ်ခွာသွားတတ်ပြီး မီးရောင်ပျောက်မှသာ အမှောင်သည် ကြီးစိုးခွင့်ရချေ၏။ မီးရောင်အား ပြိုင်ဆိုင်နိုင်သော ထိုးဖောက်အား မရှိပြီ။

သည့်အတူ မောဟသည် ဝီရိယ၊ သတိ၊ အသိတို့ အားကောင်းနေချိန် ကွယ်ပျောက်ရပြီး၊ ထိုသုံးပါး ပြတ်စဲမှသာ ဝင်ရောက်ခွင့် သာစေ၏။ လောဘကဲ့သို့ ကြမ်းတမ်းစွာ ထိုးနှက်ခြင်းမရှိ။ ဒေါသကဲ့သို့ ဟော့ဟော့ရမ်းရမ်းလည်း မရှိ။ သို့ကြောင့် မောဟသည် နိုင်ငံရေးခေါင်းဆောင်ကောင်းတစ်ယောက်ပမာ ရှိ၏။

လောဘ၊ ဒေါသတို့ကား ထိုနိုင်ငံရေးသမား၏ လက်ပါးစေများနှင့်သာ တူချေ၏။ နိုင်ငံရေးခေါင်းဆောင်ကောင်းတစ်ယောက်သည် တစ်ဖက်ရန်သူအား လက်ဆွဲနှုတ်ဆက်ရင်း၊ ပြုံးပြရင်းက သတ်ဖြတ်ကာ သွားလမ်း ရှင်းထွင်တတ်၏။ သို့တစေလည်း ၎င်း၏ သတ်ဖြတ်မှုကို ကာယကံရှင်ကလည်း မရိပ်မိ၍ ကျန်ရစ်သူတို့ကို ပြောမပြနိုင်စေခဲ့။ ကျန်ရစ်သူတို့ကလည်း ၎င်းမှန်း အလျဉ်းပင် မသိရှိပြီ။ အဘယ့်ကြောင့်ဆိုသော် ထိုသေသူ၏ အသုဘကိစ္စအဝဝတို့ကို ၎င်းကပင် အနီးကပ်

ဆောင်ရွက်ပေးနေခြင်းကြောင့်တည်း။

သည့်အတူသာလျှင် မောဟသည် ခန္ဓာ၏အကြိုက်စရိုက်သို့လိုက်ကာ ဝဋ္ဋ ထဲသို့ ထိုးသွင်းနှစ်မြှုပ်၍ သတ်ပစ်တတ်ချေ၏။ သို့တစေလည်း ခန္ဓာရှင်သည် မုန်းရမှန်း မသိနိုင်ခဲ့။ အဘယ့်ကြောင့်ဆိုသော် ဖြစ်ခဲ့သော ဒုက္ခတို့ကို ဖုံးဖိပေးတတ်ခြင်း၊ ခံစားခဲ့ရသော သုခတို့ကိုကား ဖော်ပြပေးခြင်း၊ ရှေ့သို့ လှမ်းမျှော်ပေးခြင်းများဖြင့် ခန္ဓာကိုကပ်၍ ကျေးဇူးပြုနေသောကြောင့်တည်း။

- တစ်နေ့လုံးခံခဲ့ရသော မယားဒုက္ခ၊ သားဒုက္ခ ညကျမေ့နေသည်မှာ မောဟလက်ချက်။
- လုပ်ရင်းကခံနေရသော ကိုယ့်ဒုက္ခ၊ လုပ်ရင်းက မသိသည်မှာ မောဟလက်ချက်။
- ရလာသော ဘဝ၏ ခံရချက်တို့ကို ခံရမှန်း မသိသည်မှာလည်း မောဟလက်ချက်ပင်။

ထိုမသိမှု (အသိမှားမှု) မောဟကို ပယ်သတ်ရန်မှာ သိမှုတစ်ခုတည်းသာ တတ်နိုင်၏။ အချိန်နှင့်စက်၍ ပျက်နေသော ခန္ဓာဒုက္ခကိုလည်းကောင်း၊ အချိန်နှင့်စက်၍ ပျက်နေသော ကိလေသာဒုက္ခကိုလည်းကောင်း၊ ခရေစေ့တွင်းကျ တိတိပပ သိနေလျှင် မောဟ ကင်းစင်ပြီ ဖြစ်၏။ မောဟကင်းစင်သည်နှင့် ပျံ့စိတ်၊ ပူစိတ်များလည်း ရပ်စဲရချေ၏။ ထိုပျံ့စိတ်၊ ပူစိတ်ကြောင့်ဖြစ်သော ထိုင်းမှိုင်းပျင်းရိမှုသည်လည်း လက်ရှောင်ရချေ၏။ သည့်တူ ဘဝ၌ အထင်ကြီးခြင်း၊ သာယာတပ်စွဲခြင်းများလည်း လက်ရှောင်ရသည်သာ ဖြစ်ချေ၏။

ဤ၌ ဈာန်၏ (ထိုင်းမှိုင်းပျင်းရိမှုကို ဟန့်တားတတ်သော) ဝိတက်သည်လည်းကောင်း၊ (ပျံ့လွင့်ပူပန်မှုကို ဟန့်တားတတ်သော) သုခသည်လည်းကောင်း ထိုအင်္ဂါနှစ်ပါးသည် သွားအတူ၊ လာအတူဖြင့် ဝီရိယ၊ သတိ။ အသိတို့၏ နောက်ပါးမှ ဖဝါးထပ်ချပ် ပူးကပ်၍လိုက်နိုင်လျှင် အဝိဇ္ဇာ ထူထောင်ထားသော နိုင်ငံသည် ချုံးချုံးကျ ပြိုလဲရသည်သာ ဖြစ်ချေတော့၏။

ဝီရိယသတိ၊ အသိတို့ ထူထောင်ထားသော ဝိဇ္ဇာနိုင်ငံသည်ကား ခိုင်ခံ့စွာ

တည်မြဲနေစေချင်၏။ အတ္တကွယ်၍ အနတ္တနယ်ပယ်မျိုးချည်းသာဖြစ်ချေတော့၏။

ထိုအခါ အနတ္တမျှသာဖြစ်သော ဤဘဝ၊ ဤခန္ဓာသည် သူစိမ်းတရံဆန်နှင့် ဘာမျှ မထူးပြီ။ ဓာတ်ရုပ်၊ ဓာတ်သားတို့ဖြင့် တည်ဆောက်ထားသော ဤဘဝ၊ ဤခန္ဓာကြီးသည်လည်း မြက်ခြောက်၊ ထင်းခြောက်တို့နှင့် ဘာမျှ မခြားပြီ။ သို့ကြောင့် ကိုယ့်ကိုယ်ကို ခင်မင်ခြင်း၊ နတ်ဘဝဖြင့် မြှင့်တင်လိုခြင်း၊ ဘဝအာရုံတို့၌ ခုံမင်ခြင်း၊ နှောင်ကြိုးများမှ လွတ်မြောက်ပြီ။

- အပျော်ဆုံးဘဝကို ပြပါဆိုလျှင် ကိုယ်ပြီးကိုယ်ပိုင် ဘဝကိုသာ ပြရမည် ဖြစ်ချေ၏။
- ကိုယ်ပြီးကိုယ်ပိုင်ဘဝကို ပြပါဆိုလျှင် ကိုယ့်စိတ်ကိုပိုင်ဆိုင်သော ဘဝကိုသာ ပြရမည် ဖြစ်ချေ၏။
- ကိုယ့်စိတ်ကိုပိုင်သော ဘဝကို ပြပါဆိုလျှင်ကား ဤနှောင်ကြိုးလွတ်စိတ်ကိုသာ လက်ညှိုးထိုး ပြသရမည် ဖြစ်ချေ၏။ နှောင်ကြိုးမဲ့စိတ်၏ ပျော်ရွှင်မှုကား လေဝဲငှက်ပမာတည်း။

ဤသည်ကား ဘုရားရှင်၏ နှုတ်ခွန်းတော်ဆက်မှ ရသော ကွင်းဆက်များတည်း။ ဘုရားရှင်သည် နွေဦးစ သစ်ကိုင်းဖျား၏ အညွန့်နီနီ ထွက်သည်ကဲ့သို့ ရှေ့သို့ အညွန့်ထွက်စေသော တရားတော်တို့ကိုသာ ဟောခြင်း၊ ပွင့်သောကာလ၌လည်း အရှေ့သို့လှည့်၍ ပွင့်ခြင်းများကြောင့် ရှေးခေတ် ဘုရားတည်ရာ၌ ဘုရားကိန်းဝပ်ရာ မုခ်ဦးသည် အရှေ့ဘက်မှသာ ရှိချေ၏။ ငါတို့ ခေတ်နှောင်း၌ကား မိမိက ဘုရားခြေတော်ရင်းမှနေ၍ ကြည်ညိုလိုသောကြောင့် မုခ်တို့သည် အနောက်လှည့်ကြပြီ၏။ စင်စစ် အရှေ့မျှော်သည့် အနောက်မျှော်ထက် အဓိပ္ပာယ် ပြည့်ဝသည်ကို သဘောပေါက်သင့်ကြပြီတည်း။

# ပြန်လည်ဆန်းစစ်ကြည့်ခြင်း

သတ္တဝါတိုင်းတွင် မည်သူမဆို မည်သူ့ကို မေးမေး ကောင်းစားချင်ပါ၏၊ ချမ်းသာချင်ပါ၏။ စကားနှစ်ခွန်းကိုသာ ဖြေဆိုကြပေလိမ့်မည်။ ထို၏ ဆန့်ကျင်ဘက် နှစ်ခွန်းတို့ကိုကား မည်သူမျှ ဖြေကြားရန် နှုတ်သွက်လိမ့်မည် မဟုတ်ချေပြီ။

သို့ကောင်းစားချင်သူတိုင်း၊ ချမ်းသာချင်သူတိုင်းချည်း ဖြစ်ကြပါလျက် ဘာကြောင့်များ မကြီးပွား၊ မချမ်းသာကြပါသနည်း။

- စွန့်လွှတ်မှုစေတနာ မမှန်၍ မကြီးပွားရခြင်း (ဒါနလွဲ၍ မွဲရခြင်း)
- ကိုယ်ကျင့်သီလ နေရာမမှန်၍ မချမ်းသာရခြင်း (သီလလွဲ၍ ဆင်းရဲခြင်း)

စင်စစ် စွန့်လွှတ်မှုအာရုံမမှန်ဘဲ ကြီးပွားတိုးတက်လာခြင်းများသည် ဖဲဒိုင်ခံ ရာမှရသော အကောက်ကြေး ဒိုင်စားမျှလောက်သာ အကျိုးပေးသန်စေ၏။ ထို ဖဲဒိုင်ရှင်၏ အကောက်ကြေးဒိုင်စားတို့သည် ငွေရတုန်း သုံးရ၍၊ သုံးရတုန်းသာ ကြီးပွားချေ၏။ ရဲလက်သို့ တန်းအဖမ်းခံရသော ကာလတွင်ကား အိမ်တွင်းရှိတို့ပင် အဆစ်ပါတတ်ချေသေး၏။

ကိုယ်ကျင့်ဖောက်ပြန်လျက် ချမ်းသာလာရခြင်းများသည်လည်း ဓားပြ တိုက်ရာမှ ရလာသော ငွေကြေးမျှလောက်သာ ချမ်းသာစေတတ်၏။ ထိုဓားပြ၏ တိုက်ရာပါ ရွှေ၊ ငွေကြေးတို့သည်လည်း ထုခွဲ၍ သုံးစွဲရစဉ်ကာလမှာသာ ချမ်းသာ ချေ၏။ ရဲလက်သို့ တန်းဖမ်းမိလေသော ကာလတွင်ကား အိမ်တွင်းရှိသာမက လူပါပင် အဆစ်ပါတတ်ချေသေး၏။

သို့ကြောင့် ကောင်းစားချမ်းသာချင်ကြပါလျှင် စွန့်လွှတ်မှုကို လက်မလွှတ်ကြ လေနှင့်၊ ကိုယ်ကျင့်တို့ကို မဖောက်ဖျက်ကြလေနှင့် ဟူ၏။

- စွန့်လွှတ်မှုသည် ကောင်းစားခြင်း၏ အရင်းခံ (ကောင်းစားချင်လျှင် ဒါနပြု)။

- ကိုယ်ကျင့်ကောင်းမှုသည် ချမ်းသာခြင်း၏ ဇစ်မြစ် (ချမ်းသာချင်လျှင် သီလဆောက်တည်)။

ထိုနှစ်ပါးတို့သည် အခြေခံလေ့ကားလည်းဟုတ်၏။ စီးနင်းရန် ဖိနပ်လည်းဟုတ်၏။ ထိုတွင် စွန့်လွှတ်လေ့ကျင့်မှုသည် ကံကို အခြေခံ၍၊ ဈာန်ကိုအခြေခံ၍၊ ဉာဏ်ကိုအခြေခံ၍ သုံးမျိုး ခွဲခြားထားသင့်ချေ၏။

လူ့ဘဝ လူချမ်းသာဖြစ်ခွင့် အရေးသည်ကား ထိုစွန့်လွှတ်မှု ကံကုသိုလ်နှင့် ကိုယ်ကျင့် ကံကုသိုလ်များကို ဝဲယာနှစ်ဖက် ညှပ်ကာ ပြုကျင့်မှ ဖြစ်နိုင်ခွင့်ရှိချေ၏။။

လူ့ဘဝ ရရှိခြင်း၊ ဘဝသမ္ပတ္တိကို သီလက တာဝန်ယူ၍ လူ့စည်းစိမ်အဆင့်မိ ခံစားခွင့်ရရှိရေး၊ ဘောဂသမ္ပတ္တိကိုကား ဒါနက တာဝန်ယူမှသာ ဖြစ်နိုင်၏။ တစ်ဖန် လူ့ဘဝ၌ပင် ကိုယ်ချမ်းသာမှုကို ဒါနက တာဝန်ယူရပြီး စိတ်ချမ်းသာမှုကိုကား သီလပါဝင်မှသာ ဖြစ်ချေ၏။ ကိုယ်ကျင့်မကောင်းသော သူဌေးကြီး၏ အဖက်ဖက်သို့လှည့်၍ စိုးရိမ်မကင်းခြင်း၊ ကြောက်ရွံ့ထိတ်လန့်မှု မကင်းခြင်းဖြင့် ဆက်ဆံနေရသည်များကို မျက်မြင်ပင် ဖြစ်ချေ၏။ တစ်ဖန် ကိုယ်ကျင့်မမှန်သော တောခိုဘုရင်ကြီးများ၏ အဖက်ဖက်သို့လှည့်ကာ စိုးရိမ်မကင်းစိတ်၊ လန့်စိတ်၊ ထိတ်စိတ်များဖြင့် ဆက်ဆံနေရသည်များကိုလည်း မျက်စိအောက်မှာပင် အမြင် ဖြစ်ချေတော့၏။

- မည်မျှ ကိုယ်လုံခြုံနေသော်လည်း စိတ်ကား မလုံခြုံပြီ။
- မည်မျှ အဆောင်ယောင်ဖြင့် ခံစားနေရသော်လည်း စိတ်ကား မပျော်နိုင်ပြီ။
- မည်မျှ စားမြိန်များကို စားသောက်နေရသော်လည်း စိတ်ကား မမြိန်ယှက်နိုင်ပြီ။

မိမိ၏ ကိုယ်ကျင့်သီလဖြင့် တစ်ဖက်သား ယုံကြည်စိတ်ချမှုတို့ကို အာမခံနိုင်သော တစ်ဖက်သား အေးချမ်းသာယာမှုတို့ကို မနှောင့်ယှက်သော လေ့ကျင့်မှုကောင်းသည်သာ မျိုးစေ့ကောင်း၊ မျိုးစေ့မှန်ဖြစ်သဖြင့် အကျိုးပေးဘဝ၌ တုံ့ပြန်မှုမျိုးကို ရနိုင်စေ၏။

တစ်ဖန် စိတ်ချမ်းသာမှုကို သီလက တာဝန်ယူရပြီး ကိုယ်ချမ်းသာမှု၌ကား

ဒါနပါဝင်မှသာ ဖြစ်ချေ၏။ စွန့်လွှတ်မှု မသန်စွမ်းသော ဆင်းရဲသား၏ တဲအိုပျက်ပေါ်မှာ တံခါးဖွင့်လျက်က အိပ်စေနိုင်သော်လည်း နံနက်၌ ပါးစပ်လှုပ်လိုသော် နံနက်၌ပင် လက်လှုပ်မှ စားသောက်နေရသည့် အဖြစ်များကိုလည်း မျက်မြင်ပင် ဖြစ်ပါချေ၏။ မလုံမလဲသော အဝတ်စားတို့ဖြင့် လူတို့ကြား မလာရဲ၊ မသွားရဲသည့် ဖြစ်အင်ကိုလည်း မျက်မြင်ပင် ဖြစ်ပါချေတော့၏။

နတ်၊ ဗြဟ္မာတို့၏ ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိတို့ကို ရယူရာတို့၌ စွန့်လွှတ်မှု ဈာန်ကုသိုလ်နှင့် ကိုယ်ကျင့်ကောင်းမှု ဈာန်ကုသိုလ်တို့က တာဝန်ယူရ၏။ စင်ကြယ်သော စွန့်လွှတ်မှု၊ ဒါနဝိသုဒ္ဓိဖြစ်ရန်မှာ ရှုမှတ်မှုပါဝင်သော စွန့်လွှတ်မှုမှသာ ရနိုင်၏။ စင်ကြယ်သော လေ့ကျင့်မှု၊ သီလဝိသုဒ္ဓိ ဖြစ်ရန်မှာကား ထိုရှုမှတ်မှု ပါဝင်သော သရဏဂုံ ပွားစီးမှုမှသာ ရနိုင်၏။ ကာမကို ဈာနဖြင့် အလဲအလှယ် ပြုမှ ရနိုင်၏။

ထိုတွင်လည်း ဘဝသမ္ပတ္တိကို ကိုယ်ကျင့်သီလက တာဝန်ယူ၍ ဘောဂသမ္ပတ္တိကိုကား ဒါနမှုဖြင့်ပင် ဝင်ကူမှသာ ရနိုင်ချေ၏။ နဝ်ဖြစ်သော်လည်း အစေခံနတ်များလည်း မရှားပါးပြီ။ တစ်ဖန် ဒါနဖြင့် နတ်သူဋ္ဌေးကြီး ဖြစ်နေပေမင့်လည်း သီလအကူ မပါချေက ကြောင့်ကြပူပန်မှု ကင်းစေလိမ့်မည် မဟုတ်ပြီ။

အရိယာတို့၏ ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိတို့ကို ရယူရာတို့၌ကား ဉာဏ်ကုသိုလ်ဖြင့်သာ စွန့်လွှတ်ကြရပြီး ယင်းဉာဏ်ကုသိုလ်ဖြင့်သာ လေ့ကျင့်ကြရချေ၏။ ပထမမဂ်ဖြင့် အပါယ်ဖြစ်ဘဝနှင့် အပါယ်ဖြစ် စည်းစိမ်တို့ကို ပေးစေတတ်သော အယူမှားမှု၊ ယုံမှားမှုတို့ကို စွန့်ပယ်နိုင်သော အကျင့်ကောင်းတို့ကို ကျင့်ကြရချေ၏။ သို့ကြောင့် အပါယ်၏ ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိတို့ကို လွှတ်ချခဲ့၍ လူ့ဘဝ၊ နတ်ဘဝတို့၏ ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိတို့ကို ပြောင်းလဲခံစားနိုင်ခွင့် ရရှိလာခဲ့ချေ၏။

ဒုတိယ၊ တတိယမဂ်တို့ဖြင့် တဏှာကျွန်ဘဝဖြင့် ကာမစည်းစိမ်တို့ကို ပေးစေတတ်သော၊ ကြိုက်ပြစ်မှား၊ မကြိုက်စော်ကားမှုတို့ကို စွန့်ပယ်နိုင်သော အကျင့်မှန်တို့ကို ကျင့်ကြံရချေ၏။ သို့ကြောင့် လူ့အဖြစ်၏ ဘဝသမ္ပတ္တိ၊ ဘောဂ

သမ္ပတ္တိတို့ကို ပြောင်းလဲခံစားနိုင်ခွင့် ရရှိလာခဲ့ချေ၏။ ကာမကို ဉာဏ်ဖြင့် လဲလှယ်ပေးမှ ရနိုင်၏။

စတုတ္ထမဂ်ဖြင့်ကား ဘဝကျွန်အဖြစ်ဖြင့် ဘဝစည်းစိမ်တို့ကို ပေးစေတတ်သော မသိမှားမှုကို စွန့်ပယ်နိုင်သော အသိမှန်တို့ကို ကျင့်ကြံကြရချေ၏။ သို့ကြောင့် ဗြဟ္မာ့ဘဝ၏ ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိတို့ကို ထွေးအံထားခဲ့ကာ အရိယာတို့၏ ဒိဋ္ဌဓမ္မ ဝေဒယိတဖြစ်သော ဖလသမာပတ်၊ နိရောဓသမာပတ် အကျိုးခံစားခွင့်များနှင့်တကွ ပြုခဲ့သမျှသော ဒါနမှု၊ သီလမှုတို့၏ ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိအားလုံးတို့ကို အတိုးရော‌အရင်းပါ ထုတ်ယူသုံးစွဲနိုင်ခွင့် ရလာချေတော့၏။ သို့ကြောင့် စွန့်လွှတ်မှု၊ လေ့ကျင့်မှု နှစ်မျိုးတို့ကို ခရီးသွားဖိနပ်တစ်ရံ ဟူ၍ သုံးစွဲခဲ့ချေ၏။

ဘုရားရှင်၏ ဘုန်းတော်အနန္တ၊ ကံတော်အနန္တတို့သည် ဒါနမှု၊ သီလမှု၊ အခြေခံသော အထက်,အထက် ပါရမီတော်များ၏ ရင့်ကျက်မှုမှ ဖြစ်ထွန်းလာရချေ၏။

ဘုရားရှင်၏ ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တတို့ကား ပညာပါရမီ အခြေခံသော အောက်,အောက် ပါရမီတော်များ၏ ရင့်ကျက်ရာမှ ပေါ်ထွန်းလာရချေ၏။

ဘဝသမ္ပတ္တိကို ဝိဇ္ဇာဉာဏ်မှ ထုတ်ယူသုံးစွဲတော်မူပြီး ဘောဂသမ္ပတ္တိကိုကား စရဏအကျင့်မှ ထုတ်ယူသုံးစွဲတော်မူချေ၏။ ဘဝကို ဉာဏဖြင့် လဲလှယ်ခြင်းပင် ဖြစ်ချေ၏။

သည့်အတူပင် အရှင် မဟာသာရိပုတ္တရာ၊ အရှင် မဟာမောဂ္ဂလာန် စသော သာဝကတို့သည်လည်း မိမိ, မိမိတို့ စုဆောင်းမြှုပ်နှံထားခဲ့ကြသော စွန့်လွှတ်မှု၊ လေ့ကျင့်မှုများအလိုက် ထိုက်ထိုက်တန်တန်သော ဘဝသမ္ပတ္တိ၊ ဘောဂသမ္ပတ္တိတို့ကို ထုတ်ယူသုံးစွဲ၍ ပြသတော်မူသွားကြလေကုန်၏။

– ဘုရားရှင်သည် သူ့အလုပ်သူလုပ်၍၊ သူ့အကြောင်းသူသာ ပြောပြသွားတော်မူပါချေ၏။

– သာဝကများသည်လည်း ထိုနည်းမခြားသာ ဖြစ်ပါချေ၏။

ဘုရားရှင်၏ ဝေဏေယျတို့နှင့် တွေ့လေတိုင်း ဟောဖော်ချွတ်လွဲထားသော စကားတော်အသွင် တရားဒေသနာတော်စဉ်များသည် ငါသည်ကား ဤမျှအထိ ထိုးသွင်းသိချေ၏ဟူ၍ သူ့အကြောင်း သူပြောသွားခြင်းသာဖြစ်ချေ၏။ ကိုယ်တော် (နှုတ်တော်)၏ ယဉ်ကျေးသိမ်မွေ့ခြင်းများသည်လည်း ငါသည်ကား ဤမျှအထိ ကာယိန္ဒြေ၊ မနိန္ဒြေတို့ကို ထိန်းသိမ်းထားနိုင်စွမ်း ရှိချေ၏ ဟူ၍ သူ့အလုပ်သူ လုပ်ပြသွားခြင်းသာ ဖြစ်ချေ၏။ ထိုအပြော၊ ထိုအလုပ်တို့သည် တမင် ဟန်ဆောင်မှုကား မဟုတ်ပြီ။ ရင့်ရာမှ ပွင့်လာသော အလိုလိုများပင်တည်း။

အို တက်လမ်းရှာအပေါင်းတို့ –

သင်တို့သည် ဘုရားကဲ့သို့သိ၍၊ ဘုရားကဲ့သို့ ကျင့်လိုလျှင် သို့မဟုတ် ဘုရားကဲ့သို့ ကျင့်၍၊ ဘုရားကဲ့သို့ သိလိုလျှင် ဘုရားရှင်၏ အဆင့်တက်နည်း အတိုင်း အဆင့်ဆင့်ပိုင်း၍ တက်ခဲ့ကြပါလေကုန်။

သင်တို့သည်ကား သာဝကတို့လောက်မျှသာသိ၍ သာဝကတို့လောက်မျှသာ ကျင့်လိုပါမူကား သို့မဟုတ် သာဝကတို့လောက်မျှသာကျင့်၍၊ သာဝကတို့လောက်မျှ သာ သိလိုပါမူကား သာဝကကျင့် ကျင့်၍ သာဝကသိ အသိဖြင့် အဆင့်တက်ခဲ့ကြပါ လေကုန်။

သင်တက်သော လှေကားသည် သင့်လှေကားသာဖြစ်၍ သင်ရောက်သော ဗိမာန်သည်လည်း သင့်ဗိမာန်သာ ဖြစ်ပါချိမ့်မည်။ ထိုလှေကားနှင့် ထိုဗိမာန်သည် တစ်ဆက်တည်းသော ကွင်းဆက်များသာ ဖြစ်၍ စရဏအကျင့် အဆင့်ဆင့်သည် သိသောဝိဇ္ဇာနှင့် တထေရာတည်းသာ ဖြစ်ချေရကား၊ မှန်းရာခရီး ပြီးစီးခြင်းသည် သင့်ကျင့်စဉ်အတိုင်းပင်တည်း။

# နိဂုံးချုပ်စကား

အနုပုဗ္ဗိက ကထာ ဟူသော ရှင်တော်မြတ်ဘုရား၏ နှုတ်ခွန်းတော်ဆက် စကား ခြောက်ခွန်းတို့ကို ငါတို့ခေတ်၏။ အခြေအနေသို့လိုက်၍ ဖွင့်ဖော် ပြောကြား၍ ပြီးစီးခဲ့ချေ၏။ ထိုသို့ ပြောကြားရာ၌ ဘုရားရှင်၏ ဖွင့်ဖော် မြွက် ကြားထားသော စကားခေါင်းစီးတို့ကို ငါတို့၏ အတွေးခေါ်သက်သက် ဉာဏ် ဝင်စားလျက်က ထပ်ဆင့် ပြောကြားထားသော စကားများချည့် ဖြစ်သဖြင့် ဘုရားရှင်၏အာဘော်များနှင့် အားလုံး ထပ်တူချည်းပါဟူ၍ ဝန်မခံသာပြီ။ တစ်ဖန် ဘုရားရှင်၏ အာဘော်များကို အတွင်းသိ၊ အစင်းသိ ဖြစ်တော်မူကြပါသော အဋ္ဌကထာဆရာမြတ်တို့၏ ဖွင့်ပြချက်များနှင့်လည်း ကွက်တိ၊ အံကိုက်ချည်းပါ ဟူ၍လည်းမဆိုသာပြီ။ အဘယ့်ကြောင့်ဆိုသော် ထိုဘုရား ဟောထား ပါဠိတော် စကားရပ်များကိုသော်လည်းကောင်း၊ အဋ္ဌကထာဖွင့် စာပေအဆင့်ဆင့်ကိုသော် လည်းကောင်း၊ လှန်လှောကြည့်ရှုကာ ရေးသားထားသော စကားစဉ်များ မဟုတ် ကြသောကြောင့်ပင်တည်း။

သို့ပါ၍ ဤစကားရပ်အသုံးနှုန်းများ၌ ဘုရားရှင်၏ အာဘော်နှင့်သော် လည်းကောင်း၊ အဋ္ဌကထာရှင်၏ အာဘော်နှင့်သော်လည်းကောင်း ချွတ်ချော်တိမ်းပါး မှုများရှိပါက ပညာရှင်တို့သည် နောက်နှောင်းသူတို့၏လက်သို့ အမှားမဆက်သာ စေရန် သုတ်သင်ရစ်ကြပါလေကုန်။

အကယ်တိတိ အဓိပ္ပာယ်ဆိုလိုချက်များ မပြည့်စုံသော်လည်းကောင်း၊ လွန်ကဲ နေသော်လည်းကောင်း၊ မိမိစကားကဲ့သို့ သဘောထားတော်မူကြကာ ဖြည့်စွက် ခြင်း၊ နုတ်ပယ်ခြင်းတို့ကိုလည်း လိုအပ်သလို အရေးယူ ဆောင်ရွက်တော်မူကြ ပါလေကုန်။

ဘုရားရှင်၏ ဤစကားတော်ခြောက်ခွန်း ဟောကြားတော်မူစဉ်ကာလသည် ကား သာသနာတော်၏ အဝင်ဝ၊ နေရောင်မပြတပြ အချိန်မျှသာ ရှိချေသေးရကား။

ဒါန၊ သီလ၊ ကာမအာဒီနဝ၊ နေက္ခမ္မ၊ သဂ္ဂ၊ မဂ္ဂတို့ဖြင့် ဒေသနာတော် စဉ်ထားခဲ့ပါချေ၏။ သောတာပတ္တိမဂ်လျှင် လမ်းဆုံးပို့သည်ဟူ၍ ဆိုနိုင်၏။ မဂ္ဂ စကားတော်တစ်ခုတည်းဖြင့်ပင် မဂ်အားလုံးကို သိမ်းကျုံးဆိုထားသည်ဟူ၍လည်း ဆိုနိုင်ချေ၏။

သာသနာအဝင်ဝအချိန်သည် သောတာပန်အဖြစ်ဖြင့် အရိယာ၏ ရေအယဉ် သို့ စတင်ဝင်ရောက်ရေးသည် လူတိုင်းအတွက် အသင့်လျော်ဆုံးဖြစ်၏။ ရဟန်း သာဝက မရရှိမီ (အင်အားမပြည့်မီ)၏ ကြွေးကြော်ချက်ပင် ဖြစ်ချေ၏။

တစ်ဖန်လည်း သောတာပန်၏အဖြစ်သည် အထက်မဂ်သို့ရောက်ရန် ကိန်း သေနေခြင်း၊ အပါယ်ဆင်းရဲတို့မှ ခွင်လုံးပိုင် လွတ်ကင်းနေခြင်းများကြောင့် ရှေ့ ဆက်ရန် အလားအလာကောင်းများ ဖြစ်ထွန်းနေပြီဖြစ်၍ ကြွေးကြော်ခြင်းပင် ဖြစ် ချေ၏။

ယခုသော်ကား သာသနာတော်၏နေရင့်ပိုင်းသို့ ရောက်နေပြီ ဖြစ်ရကား သူတော်ကောင်း များစွာတို့သည် ဘုရားအဆုံးမတော်၏ နေရောင်အောက်ဝယ် နီးကြားပွင့်လင်းနေကြပြီဖြစ်ရာ သောတာပတ္တိမဂ်နှင့်တကွ အထက်,အထက်သော မဂ်တို့အထိတိုင်ကြောင်း ကျိုးဆက်စကားများဖြင့် ထင်ရှားစွာ ပြောပြလျှင် နားဝင်နိုင်စရာအကြောင်း မြင်သဖြင့် စကားတော်ခြောက်ခွန်းနှင့် လမ်းဆုံးတို့ကို တွဲဖက်ကာ ပြသသော စကားစဉ်များကို ဤ၌ သုံးနှုန်းထားခြင်း ဖြစ်ချေ၏။

သောတာပန်၏အဖြစ်သည် ကာမပြစ်ကိုသိသော်လည်း ထိုကာမဖွက်ကို စွန့်ပယ်နိုင်သောသတ္တိ မရှိသေးသည်ကို သတိမူသင့်ချေ၏။ ဤရေသည် အနည်၊ အမှုန်များပါနေသဖြင့် မကောင်းမှန်းသိသော်လည်း ခရီးသွားရင်းက ရေဆာ၍ အမောဖောက်နေချိန်နှင့် ရင်ဆိုင်ရသောအခါတွင် မျက်စိမှိတ်ကာ အမောပြေ၊ အဆာကင်းသွင်းလိုက်ရသည်သို့သာ ရှိချေသေး၏။ အနာဂါမ်၏ အဖြစ်သည်သာ ကာမပြစ်ကို တစ်တစ်ခွခွမြင်၊ သိပယ်နိုင်စွမ်းရှိချေ၏။ တစ်ဖန် ဘဝ၏ အာရုံခံစားမှုမှ လွန်မြောက်ခြင်း၏ အကျိုးအာနိသင်ကို အနာဂါမ်၏အဖြစ်သည် ရိပ်မိနေသော်လည်း ထိုဘဝတဏှာ၏ နှံ့ဖွက်ကို ကျော်တက်နိုင်သောစွမ်းအားသတ္တိ နည်းပါးနေသေး

သည်ကိုလည်း သတိမူသင့်ချေသေး၏။ ပတ္တမြားမြေ ကျောက်တူးရာ၌ ပတ္တမြား တစ်ပွင့် လက်မိလက်ရ တူးဖော်မိလျှင် လက်ရှိ လူနေမှုအဆင့်အတန်းမှ ထိုးတက် သွားမည်ကိုကား သိ၏။ သို့တစေလည်း တူးဖော်ရာ၌ ဉာဏ်မပါသဖြင့် ကျောက် ကြောလွဲလမ်းကိုသာ မျှောလိုက်နေရ၏ သို့ ရှိချေသေး၏။ လက်တွင်းရှိ ကျောက်ဖြုံး ဖြင့် ပြုံးရသည့်အဆင့်မျှသာ ရှိချေ၏။

လွတ်မြောက်ခြင်း၏ အစွမ်းအာနိသင်ကို အပိုင်သိ၍ ထိထိမိမိ သုံးစွဲနိုင်သူ များမှာ စတုတ္ထမဂ်သို့ ဉာဏ်သက်ဆင်းပြီးသော သူတော်ကောင်းကြီးများသာ ဖြစ် ချေသည်ကို သတိမူသင့်ချေ၏။ ၎င်းတို့သာ လက်ရှိတူရွင်းနှင့် ကျောက်ဖြုံးကို လွှတ်ချနိုင်ခဲ့၏။

ဤ၌ စဉ်ထားသော စကားစဉ်တို့မှာ ထိုအခြေသို့လိုက်၍ စဉ်ပြထားခြင်း ဖြစ်ချေရာ ဟောစဉ်သို့မလိုက်၊ ကျင့်စဉ်သို့သာ လိုက်ထားသော စကားစဉ်များဟူ၍ ပညာရှင်တို့ ဆင်ခြင်သုံးသပ်တော်မူကြကာ အလေးမူ ကြည့်ရှုတော်မူကြစေချင် ပါ၏။

ဤသို့ ဖွင့်ဆိုပြသရာတွင်လည်း ငါတို့၏ ရှေးရှေးရှိပညာရှင်တို့၏ လက်တော်သို့ ဤစကားစဉ်များ ရောက်သွားချေသော် ငုံ့ကြည့်ကာ အလွန် ကလက်ရန်ဟူ၍ ကင်ပွန်းတပ်ကာ ပြုံးတော်မူကြမည်မှာ သေချာ၏။

တစ်ဖန် ငါတို့ နောကလ်နှောင်းရှိ ပညာရှင်တို့၏ လက်ဝယ်သို့ ရောက် သွားသောအခါတွင်မူကား မော့ကြည့်ကာ အလွန်ရိုးတာသော အသုံးနှုန်းများဆိုကာ ပြုံးခြင်းကိုသာ ခံယူရမည်မှာလည်း သေချာနေပါ၏။

ငါတို့သည်ကား ရှေ့ကိုလည်း ကြည့်ရေးသည် မဟုတ်၊ နောက်ကိုလည်း လှည့်ရေးသည် မဟုတ်။ ငါတို့မျက်စိ ရှေ့တွေ့နေရသော ဉာဏ်မျက်မမြင် သူတော်ကောင်း အစားစားတို့၏ ဉာဏ်မျက်စိ အတိမ်အနက်တို့ကို အကဲခတ်ကာ ရေးသားထားသော စာ၊ စကားစဉ်များသာ ဖြစ်သဖြင့် ပစ္စက္ခရှိ သူတော်ကောင်း အစားစားတို့ကိုသာ ကိုယ်စားပြုထားပါချေ၏။ သို့ကြောင့် မျက်မှောက်ရှိ သူတော် ကောင်း အစားစားတို့သည် ဤစကားခြောက်ခွန်းတွင်းသို့ ဉာဏ်စားကျက်

သွင်းထားနိုင်ပါ ချေသော် ငါတို့ ရေးရကျိုးနပ်ပြီ ဟူ၍သာ ယူဆမည် ဖြစ်ပါချေ၏။ အကယ်တိတိ ဤစကားခြောက်ခွန်းအတိုင်း ခြေစနင်း၍ အဆင့်ဆင့်သို့ တက်ရောက်ရန် ကြိုးစားပါမူကား ငါတို့ ပေးရကျိုးပါနပ်ပြီ ဟူ၍ ယူဆမည် ဖြစ်ပါချေ၏။ အကယ်တိတိ ကြိုးစားသည့်အတိုင်း တစ်ဆင့်၊ နှစ်ဆင့်ကိုမျှ ခြေစမြဲမြဲ တွဲထားနိုင်ပါသော်ကား ငါတို့ ပေးရကျိုး ထမ်းပိုးတိုး၍နပ်ခဲ့ပြီဟူ၍ ယူဆမည် ဖြစ်ပါချေ၏။ အကယ်၍များ သာမန်အဆင့်တို့ကိုကျော်လွန်ကာ အလယ်ဆင့်၊ အထက်ဆင့်တို့သို့ လွန်တက် လာနိုင်ပါမူကား ငါတို့ ပေးရကျိုး၊ ငါတို့ထက်ပင် တိုး၍ ခံစားသွားကြပြီဟူ၍ ကြွေးကြော်ပြောဆိုကာ လက်ခမောင်းခတ်၍ ဝမ်းသာနေမည်သာ ဖြစ်ပါကြောင်း။

ဒါနသီလေန စတ္တာရိ၊ အာသဝါနိစ ဒုဗ္ဗလျံ
ပဌမံ သောတာပန္နေန၊ ဒိဋ္ဌာသဝ ပဟာတဗ္ဗံ
သကဒါဂါမိ တနုကံ၊ အသေသံ အနာဂါမိကေန
ကာမဘာဝ ပဟာတဗ္ဗံ၊ သေသာနံ အရဟန္တေန
သမုစ္ဆေဒိ ပဗ္ဗံ ပဗ္ဗံ၊ သဂ္ဂံ မဂ္ဂံ အာဒိနဝံ
ပဟာယံ အတိက္ကန္တာယ၊ နိဗ္ဗာန ဓာရေသိ မုတ္တိံ။

ဒါ သီလေန – စွန့်လွှတ်မှုဒါန၏ အစွမ်းသတ္တိ၊ လေ့ကျင့်မှုသီလ၏ အစွမ်းသတ္တိနှစ်ပါးဖြင့်၊ စတ္တာရိ – လေးပါးကုန်သော၊ အာသဝါနိ – ယိုစီးပေါက်ကြီးများတို့ကို၊ ဒုဗ္ဗလျံ – အားအင်ချိနဲ့ ယဲ့ယဲ့မျှသို့၊ ဇဟိတိ – ရောက်ရလိမ့်လတ္တံ့။

ပဌမံ – လက်ဦးသော၊ သောတ္တာပန္နေန – အရိယာရေအယဉ်၏ အတွင်းသို့ ကူးဝင်စ သောတာပန်ဘဝဖြင့်၊ ဒိဋ္ဌာသဝ ပဟာတဗ္ဗံ – ပယ်သင့်ပယ်အပ် ယုတ်ပတ်သော ငါပိုင်၊ ငါစွဲ၊ ငါကဲတည်း ဟူသော ယိုစီးပေါက်ကြီးကို၊ သမုစ္ဆေဒိ – ရေသောက်မြစ်မှ လှိုက်ကာဆွ၍ ဖြိုချဖြတ်တောက်ခဲ့ချေပြီ။

ကာမာသဝ ပဟာတဗ္ဗစ – ပယ်သင့်ပယ်ထိုက် တဏှာ၏ သိမ်းပိုက်ရာနယ်မြေဖြစ်သော ကာမယိုစီးပေါက်ကြီးကိုကား၊ သကဒါဂါယ – သကဒါဂါမိမဂ်ဖြင့်၊ တနုကံ – အစေးခြောက်ကပ်အား ပြတ်သည်၏အဖြစ်ကို၊ ကတ္တာ – သင်းသတ်

သောလား ပြုပြင်ထား၍၊ အနာဂါမိကေန – အနာဂါမိကမဂ်ဖြင့်၊ အသေသံ – ရေသောက်မြစ်ခြောက်၊ ပင်ခေါက်ပြယ်စေး၊ ကိုင်းခက်လှေးနှင့် ရိဆွေးရွက်လန်၊ အကြွင်းအကျန်မရှိ၊ သမုစ္ဆေဒိ – ပေသီးသီးက ပင်ကြီးညှိုးခြောက် သေပွဲရောက်သို့ ဖြတ်တောက်ချထားခဲ့ပြီးပြီ။

သေသာနံစ – ထိုမှလက်ကျန်၊ ပယ်လှန်တွန်းဖို့ ပိတ်ဆို့သင့်သော ဘဝတဏှာဟူသည် သာယာငြိတောက် ယိုစီးပေါက်နှင့် အဝိဇ္ဇာဟူသည့် မသိကွန်းထောက် ယိုစီးပေါက်ကြီးများတို့ကိုကား၊ အရဟတ္တေန – အရဟတ္တ မဂ်လေးချက်စုံ သစ္စာလက်နက်ကြီးများဖြင့်၊ သမုစ္ဆေဒိ – ဖြတ်တောက်မှုကိုပြု၍၊ ပဗ္ဗံ ပဗ္ဗံ – အပိုင်းလိုက်, အပိုင်းလိုက်သော၊ သဂ္ဂံဝါ – နတ်ပြည်ရောက်ရေးကိုလည်းကောင်း၊ မဂ္ဂံဝါ – မဂ်ရရေးကိုလည်းကောင်း၊ အာဒိနဝံဝါ – ကာမအပြစ် စိစစ်ရေးကိုလည်းကောင်း၊ ပဟာယံ – ပယ်စွန့်လျက်က၊ အတိက္ကန္တာဃ – ကျော်လွန်လျက်က၊ နိဗ္ဗာနမုတ္တိံ – ခန္ဓာကင်းဆိတ် ချုပ်တိတ်ရာဖြစ်သော လွတ်မြောက်ခြင်းသို့၊ ဓာရေသိ – ပို့ဆောင်စေခဲ့ပြီတကား။ ။

# ရှေ့သို့တက်၍ အထက်ကိုလှမ်း

ဤလူ့ဘဝကြီးသည်ကား ကောင်းစုံ၊ မကောင်းစုံ အကုန်ပေါင်း၍ စုဆောင်း ရှာဖွေရာ ဈေးတန်းကြီးသာ ဖြစ်၏။

သင်၏ လူ့ဘဝ လာရောက်ရခြင်း၏ ရည်ညွှန်းချက်ကား ကုန်ရောင်းကုန်ဝယ်ဖြင့် အရှုံးကိုပယ်၍ အမြတ်ကို ဆယ်ယူရန် ဖြစ်၏။

အကယ်တိတိ သင့်ထံရှိ ကံစုံ၊ ကုန်ပစ္စည်းများကို တစ်ဖက်အာရုံများနှင့် တိုက်ဆိုင်စဉ် လောဘ၊ ဒေါသ၊ မောဟ အယုတ်ပိုင်းထား၊ ထိုကြေးများဖြင့်သင့်ကာ ရောင်းချလိုက်မိသော် သင်ကား ရောင်းမှား ဝယ်မှား အောက်လမ်းသွားဘဝဖြင့် နေအိမ်မှသေအိမ်သို့အပြန် ခွက်ခွက်လန် အရှုံးဖြင့်သာ ပြန်ရချေအံ့။

အကယ်တိတိ သင့်ထံရှိ ကံစုံ၊ ကုန်ပစ္စည်းတို့ကို တစ်ဖက်က အာရုံများနှင့် တိုက်ဆိုက်စဉ် ကံ၊ ဉာဏ်၊ ဝီရိယ အမြတ်ပိုင်းထား ထိုကြေးများနှင့် သင့်ကာ ရောင်းချနိုင်မိသော် သင်ကား ရောင်းတတ်၊ ဝယ်တတ် အဆင့်မြတ်ဘဝဖြင့် နေအိမ်မှ သေအိမ်သို့အလှမ်း အထက်တန်းကျအမြတ်ဖြင့် ပြန်ရချေအံ့။

သင်၏ လူ့ဘဝ လာရောက်ရခြင်း၏ အရေးတကြီးတာဝန်ကား ကံကောင်းဖို့ ပဌမ၊ ဉာဏ်ကောင်းဖို့ အဓိကအတွက် ဖြစ်သည်ကို မမေ့သင့်။

ဤတွင် ကံကောင်းလိုသော် ကံကုသိုလ်များဖြစ်ကြသော –

* (က) ဒါနမှု ပြုကျင့်ခြင်းဖြင့် ဦးစွာ ကောင်းကံကို ဆယ်ယူရပါမည်။

* (ခ) သီလမှု စောင့်ထိန်းခြင်းဖြင့် ဆိုးကံများကို ဖယ်ထုတ်ရပါမည်။

ဤကံကုသိုလ်နှစ်ချက်တွင် သီလကုသိုလ်က ဘဝသမ္ပတ္တိဖြင့် စိတ်ချမ်းသာမှု ကို တာဝန်ယူ၊ ဒါနကုသိုလ်က ဘောဂသမ္ပတ္တိဖြင့် ကိုယ်ချမ်းသာမှုကို တာဝန်ယူကာ ရှေ့သို့တက်၍ အထက်သို့ချီရပါမည်။

* ကံမကောင်းဘဲနှင့် ကံကောင်းဘဝ မရစေ၊ မရောက်စေနိုင်။

* ကံကောင်းဘဝမျိုး မဟုတ်ဘဲနှင့်လည်း ဉာဏ်ကောင်းကို မထူနိုင်။

* ကံကောင်းထောက်မ ဘဝကောင်းရသော ကာလမျိုးတွင်မှာမှ ဒါန၏ ဘောဂသမ္ပတ္တိကြောင့် ဖြစ်သော စေတနာက ငါစွဲ ဒါန၏ ဘောဂသမ္ပတ္တိကြောင့် ဖြစ်သော စေတနာက ငါစွဲကိလေသာကို ချုပ်ကိုင်ပေး၊သီလ၏ ဘဝသမ္ပတ္တိကြောင့် ဖြစ်သော စေတနာက အမြင်လွဲကိလေသာကို ကုပ်နှိမ်ပေးပြီး ချုပ်ကိုင်ပေး၊ သီလ၏ ဘဝ သမ္ပတ္တိကြောင့်ဖြစ်သော စေတနာက အမြင်လွဲကိလေသာကို ကုပ်နှိမ်ပေးပြီး ဉာဏ်ကောင်းကပါ ထောက်မလာသဖြင့်–

သင့်လက်ထဲရှိ ခံစားဆဲ လူ့ဘဝ၊ လူ့ကာမပြစ်ကိုလည်း မြင်ခြင်း၊ မြင်သဖြင့် ပယ်ခြင်းကိစ္စ ဆောင်ရွက်၍ အထက်တက်သာစေ၏။

တစ်ဖန် ဉာဏ်ကောင်းကပင် ဈာန်ကုသိုလ်၊ ဉာဏ်ကုသိုလ် (ခေါ်) သမာဓိ၊ ပညာ ထိုနှစ်ဖြာ ဘယ်ညာနင်း၍ အပါယဘေး၊ ကာမဘေး၊ ဘဝဘေး ထိုသည့်အဆိုး၊ ထိုသုံးမျိုးတို့ကို ချိုးဖျက်ကာ ထို့ထက် ဉာဏ်ကောင်းဘဝ အခြေချသာစေ၏။

တစ်ဖန် ထိုဉာဏ်ကောင်းကပင် ကာမမှ လွတ်မြောက်လာခြင်း၏ အကျိုးကိုလည်း မြင်, မြင်သလောက် လည်း ပြုပြင်ဖြင့် ကာမလမ်းကိုလည်း ခမ်းခြောက်စေ၏။

ထို့နောက် လူ့ဘဝထက် နတ်ဘဝက မြင့်မြတ်ပုံကိုလည်း သိ၊ သိသလိုလည်း ဖြည့်ခြင်း၊ တစ်ဖန် နတ်တစ်ဘဝထက် မဂ်တစ်ကြိမ်ကျက သာ၍၊ သာ၍ မြင့်မြတ်ပုံကိုလည်း သိ၊ သိသလိုလည်း ဖြည့်ခြင်းဖြင့် အထက်ကိုသာချဉ်း၊ အလင်းကိုသာဆောင်ကာ နောက်မယောင်၊ အောက်မသက် အထက်, အထက်သို့သာဆက်၊ အထက်, အထက်သို့သာ တက်နိုင်ချေလိမ့်မည်တကား။ ။